ဤ စာအုပ်ပါ ဝတ္ထုများ ကို ထပ်မံ ဖတ်ရှု ရသောအခါ ဆရာသုခ ၏ ဒုက္ခမသန်း ထာဝရ ရှင်လန်းသော မျက်နှာကဲ့သို့ ရှင်လန်းဆန်းသစ်သော ဆယ့်နှစ်ရာသီပန်းများ ကို ကျွန်တော်တို့ တွေ့ရှိရသည့် အတိုင်း စာဖတ်ပရိသတ်များလည်း တွေ့ရှိရလိမ့်မည်ဟု ယုံကြည်ပါကြောင်း . . . .

ဧချ



သုခ

# သမ္မာသစ္စာ

နှင့် အခြားဝတ္ထုတိုများ

(ဆေးရုံပေါ်ကဘာ့ဝသ်သရာနှင့်အခြားဝတ္ထုတိုများကို
အမည်ပြောင်း၍ ထုတ်ဝေသည်)

ပါရမီ
စာပေ

# မာတိကာ


| စဉ် | | စာမျက်နှာ |
|---|---|---|
| | ထုတ်ဝေသူ၏အမှာစာ | ၄ |
| | ဓေယျ၏ သစ်လွင်လန်းဆန်းသော လက်ရာဟောင်းများ | ၅ |
| | သုခ၏ ကိုယ့်ဝမ်းနာ ကိုယ်သာသိ | ၉ |
| ၁။ | ဘဂ်လားအစ်ကိုကြီး | ၁၃ |
| ၂။ | ချစ်မိပြီ ဆိုမှဖြင့် | ၅၂ |
| ၃။ | ဒေါ်အိုဇာ | ၈၄ |
| ၄။ | သားယောက္ခထီး | ၁၁၁ |
| ၅။ | သမီးရည်းစား | ၁၂၉ |
| ၆။ | ဖြစ်လေရာ ဘဝဝယ် | ၁၅၄ |
| ၇။ | စိန်မနိုင် ကျောက်မနိုင် | ၁၇၅ |
| ၈။ | သဗ္ဗေသတ္တာ | ၁၉၂ |
| ၉။ | မီးဖိုထဲက ရှောင်ဂလွမ် | ၂၂၀ |
| ၁၀။ | ဆေးရုံပေါ်က ဘဝသံသရာ | ၂၃၈ |

# ထုတ်ဝေသူ၏အမှာစာ

ဤစာအုပ်သည် ဥာဏ်လင်းစာပေက ၁၉၉၁ ခုနှစ် နိုဝင်ဘာလ၌ ထုတ်ဝေခဲ့သော 'ဆေးရုံပေါ်မှ ဘဝသံသရာနှင့် အခြားဝတ္ထုတိုများ' စာအုပ်ကို အမည်ပြောင်း၍ ပြန်လည်ထုတ်ဝေခြင်းဖြစ်ပါသည်။

ယခင်အကြိမ်ထုတ်တွင် ပါဝင်ခဲ့သော 'နှလုံးသွေးပျက်သော တေးတစ်ပုဒ်'သည် ပါရမီစာပေထုတ် 'ဓေယျာတု သဗ္ဗမင်္ဂလံ'တွင် ပါဝင်ပြီးဖြစ်၍ ဤစာအုပ်တွင် ချန်လှပ်ထားခဲ့ပါသည်။ 'ဘုန်းကြီးဆိုသော သီချင်း'ကိုလည်း ပါရမီစာပေက ထုတ်ဝေရန် စီစဉ်နေသည့် 'တောဘုမ္မာ အဖွင့်'တွင် ဖော်ပြမည်ဖြစ်၍ ဤစာအုပ်၌ ထည့်သွင်းထားခြင်း မရှိကြောင်း အစီရင်ခံအပ်ပါသည်။

ပါရမီစာပေ

# သစ်လွင်လန်းဆန်းသော လက်ရာဟောင်းများ

## ဇေယျ

လူ့ဘ၀၊ လူ့လောကကြီးကား တစ်ဖက်တည်း တစ်ခုတည်းဟူ၍ မရှိ။ အကောင်းရှိလျှင် အဆိုး၊ အလင်းရှိလျှင် အမှောင်၊ အချိုရှိလျှင် အခါးဟူ၍ အမြဲ ဒွန်တွဲလျက် ရှိသည်။ ဤသဘောကို ပါဠိကျမ်းဂန်များ၌ လောကဓံတရားဟု ဟောတော်မူသည်။ ဆရာသုခသည် ဤသဘော တရားကို ကောင်းစွာ သက်ဝင်နားလည်သူ ဖြစ်၏။ ကိုယ်တိုင်သက်ဝင် နားလည်ရုံမက သူရေးသော စာ၊ သူဆိုသော သီချင်း၊ သူရိုက်ကူးသော ရုပ်ရှင်ဇာတ်ကားဟူသမျှတို့၌ တစ်ရံတစ်ဆစ် လက်မလွှတ် အမြဲ ထည့်သွင်း ပြသလေ့ရှိသည်။ သို့သော် သူကိုယ်တိုင်ကမူကား ထိုသဘော တရားကို တော်လှန်နေသကဲ့သို့ ရှိသည်။ ဆရာသုခကို ကျွန်တော် ယခုအထိ နီးနီးစပ်စပ် ပွန်းပွန်းတီးတီး သိကျွမ်းခဲ့၏။ သို့သော် သူ့ကို တစ်ကြိမ်တစ်ခါမျှ ဒုက္ခနှင့်တွဲဖက်၍ မတွေ့ခဲ့ရချေ။ အမြဲ ရွှင်လန်း ဖျတ်လတ်လျက် ရှိလေသည်။ သူ့ကိုမြင်လျှင် ကျွန်တော့အိမ်ရှေ့တွင် ပေါက်ရောက်နေသော တစ်ဆယ့်နှစ်ရာသီပန်းပင်ကို အမြဲ သတိရသည်။

ဆရာသုခသည် အမြဲရွှင်လန်းသောစိတ်ဓာတ် ရှိရုံမျှမက လျင်မြန် ဖျတ်လတ်သော ဇဝနဉာဏ်လည်း ထက်သန်သူဖြစ်သည်။ စစ်ကြီး

ာ္ဘူတွင်း ဂျပန်ခေတ်က စာရေးဆရာအသင်းကို အသစ်ပြုပြင် တည်ထောင်၍ အသင်း၏ မူရင်းလုပ်ငန်းတစ်ရပ်အနေဖြင့် စာရေးဆရာ မင်္ဂဇင်းကို အားတက်သရော ထုတ်ဝေကြသည်။ သို့သော် ကိုးလမျှအကြာတွင် စက္ကူရှားပါးမှုကြောင့် မင်္ဂဇင်း ရပ်တန့်သွားရာ စာရေးဆရာအသင်းသည် ဘာမျှမလုပ်ဘဲ လက်ပိုက်ထိုင်နေရန် မသင့်သဖြင့် အလုပ်သစ်တစ်ရပ် ရှာကြံတီထွင်ကြရန် စိုင်းပြင်းကြရလေသည်။ ထိုကိစ္စကို ရန်ကုန်မြို့၊ ကုက္ကိုင်းလမ်း သူရိယသတင်းစာတိုက်တွင် အမှုဆောင်များ စုဝေးဆွေးနွေးကြရာ ဆရာသုခလည်း ဘပ်ချိသက္ကလတ်အနက်အကျီ၊ ပလေကတ်လုံချည်အဖြူအမည်းစင်းကို ထုံးစံအတိုင်း ဝတ်ဆင်၍ ရောက်ရှိနေသည်။ နည်းအမျိုးမျိုးတို့ကို တစ်ခုမကောင်း တစ်ခုကောင်း ဆွေးနွေးပြီးနောက် နောက်ဆုံးတွင် မင်္ဂဇင်းအစား စာပေ၏ အရသာများကို စာရေးဆရာများ ကိုယ်တိုင် ပါဝင်ကပြသော ပြဇာတ် ခင်းကြရန် သဘောတူကြသည်။ သို့သော် သာမန်ဇာတ်သဘင်နှင့် ကွဲပြားခြားနားအောင် အမည်သစ်တီထွင် ခေါ်ဝေါ်သင့်သည်ဟု သဘောရရှိကာ အမည်ကို တွေးတောကြံဆကြရာ သင့်လျော်သောအမည်ကို ရရှိရန် ခဲယဉ်းနေသည်ကို တွေ့ကြရလေသည်။ ထိုအခိုက် ကိုသုခက ရုတ်တရက်ဝင်၍ "စာပေပြဇာတ်လို့ခေါ်လိုက်ကြဗျာ"ဟုပြောရာ အမှုဆောင်များမှာ ဤမျှလောက် လွယ်လွယ်ကလေးကို ငါတို့ အဘယ်ကြောင့် မတွေးမိကြပါလိမ့်မလဲဟု အံ့အားသင့်သွားကြပြီး ချက်ချင်း လက်ခံလိုက်ကြလေသည်။ လွယ်သည်။ အချက်ကျသည်။ ဤကား ဆရာသုခ၏ ထူးခြားသော ဉာဏ်သွားလက္ခဏာဖြစ်သည်။

ဆရာသုခ ရေးသော ဝတ္ထု၊ ဆောင်းပါး၊ ဆိုသော တေးသံ၊ ရိုက်ကူးသော ရုပ်ရှင်ဇာတ်ကား စသည်ဖြင့် သုခလက်ရာဟူသမျှ သူမွေးထားသော သားငယ်ကလေးပါမကျန် ဤလက္ခဏာများကို မြင်တွေ့ရသည်။

ရှင်းရုံ၊ လွယ်ရုံ၊ အချက်ကျရုံသာ မဟုတ်သေး၊ ထိုလက္ခဏာများထက် ထူးခြားသော လက္ခဏာတစ်ရပ် ရှိသေး၏။ ခေတ်မီသစ်ဆန်းသော စာရေးဆရာတစ်ယောက် ဖြစ်သော်လည်း အတွေးအခေါ်၊ စကားအသုံး အနှုန်း၊ ဟန်ပန်အနေအထားမှစ၍ အစစတွင် မြန်မာအတွေး၊ မြန်မာ စကား၊ မြန်မာ့ဟန်ပန်မပျက်စေဘဲ အမြဲထိန်းသိမ်းထားခြင်း ဖြစ်သည်။ ကျွန်တော်တို့အဖို့မူကား ဤအချက်သည် ဆရာသုခ၏ အထူးမူပိုင် လက္ခဏာ ဟု ယူဆပေသည်။

ဆရာသုခ၏ ဝတ္ထု၊ ဆောင်းပါးစသည်တို့ကို ၁၉၃၀ ပြည့်နှစ်ကျော် ခန့်မှစ၍ တွေ့ရာ မည်သည့်ပုံသဏ္ဌာန်ဖြင့်ရေးစေ အထက်ပါ ထူးခြား သော လက္ခဏာများကို အမြဲတွေ့နေရ၍ လေးလေးစားစား ဖတ်ရှုခဲ့လေ သည်။ အလွန်လွမ်းစရာ၊ ဆွေးစရာ၊ စိတ်မောစရာအကြောင်းများကို ဖွဲ့၍ ရေးသားသောဆောင်းပါး၊ ဝတ္ထုများမှာပင် သူ၏ ဖျတ်လတ်ရွှင်လန်း သော လက္ခဏာများဖြင့် ယှက်သန်းနေပေသည်။

ဆရာသုခသည် ယခုစာအုပ်တွင် စုပေါင်းပုံနှိပ်သော ဝတ္ထုများကို လွန်ခဲ့သည့်တစ်ခေတ်က မဂ္ဂဇင်း၊ သတင်းစာ စသည်များတွင် ရေးသား ခဲ့သည်။ မဂ္ဂဇင်း၊ သတင်းစာဆိုသည်မှာ ကြာရှည်ခံနိုင်သော အရာမျိုး မဟုတ်သည့်ပြင် ဆရာတစ်ဦး၏ လက်ရာကို တစ်စုတစ်ရုံး တစ်ခိုင် တစ်ခဲတွေ့နိုင်သော ဌာနမျိုးမဟုတ်သဖြင့် ပျောက်ပျက် တိမ်မြုပ်သွား တတ်သည်။ ဆရာသုခ၏လက်ရာများသည်လည်း မူလအတိုင်း ရှိစေပါ က ပျောက်ပျက်သွားမည့်ဘေးမှ မလွတ်နိုင်ချေ။ ယခုမူကား တစ်စုတစ်ရုံး ပေါင်း ပုံနှိပ်ထားလိုက်ပြီဖြစ်သောကြောင့် တိမ်မြုပ် ပျောက်ကွယ်သွား မည့်ဘေးမှ လွတ်ပေပြီဟု ဝမ်းမြောက်ရပေသည်။ ယခင်က ဤစာ များကို သတင်းစာ၊ မဂ္ဂဇင်း စသည်တို့မှ ဖြတ်၍ ဖိုင်တွဲထားခဲ့၏။ သို့သော် မစုံခဲ့ချေ။ အချို့လည်း ဆွေးမြည့်ပျက်စီးကုန်၏။ ယခု

စာအုပ် ဖြစ်လာပြီဖြစ်၍ ကျွန်တော်တို့စာအုပ်စင်ပေါ်တွင် အမြဲရှိပေတော့မည်။

ဤဝတ္ထုများကား ယခုအသစ် ရေးသားခြင်း မဟုတ်၊ အဟောင်းများ ဖြစ်သည်မှန်၏။ ယခုတစ်ဖန် ထပ်မံဖတ်ရှုရသောအခါ ၎င်းတို့ကို ဖန်တီးခဲ့သော ဆရာသုခ၏ ဒုက္ခ မသန်း၊ ထာဝစဉ် ရှင်လန်းသော မျက်နှာကဲ့သို့ပင် ဟောင်းနွမ်းရိပ်မထင်ဘဲ ရေးခါစကကဲ့သို့ပင် ရှင်လန်းဆန်းသစ်သော တစ်ဆယ့်နှစ်ရာသီပန်းများကဲ့သို့ပင် ဖြစ်ရာ ကျွန်တော်တို့ တွေ့ရှိသကဲ့သို့ စာဖတ်ပရိသတ်များလည်း တွေ့ရှိရလိမ့်မည်ဟု ယုံကြည်ပါကြောင်း။

ဇေယျ

# ကိုယ့်ဝမ်းနာ ကိုယ်သာသိ

## သုခ

ကျွန်တော်၏ ကလောင်အမည်မှာ သုခဖြစ်ပါသည်။

၁၉–၇–၄၇ နေ့တွင် ဗိုလ်ချုပ်အောင်ဆန်းတို့အား လုပ်ကြံမှုနှင့် ပတ်သက်၍ ဦးစော၏ အပေါင်းပါ တရားခံများအနက် သုခအမည်ဖြင့် ပုဂ္ဂိုလ်တစ်ယောက် ပါဝင်ခဲ့သည်။

ကျွန်တော်၏ဇာတိမှာ ကျိုက်လတ်မြို့ဖြစ်၍ ကျိုက်လတ်သားဟု အတော်များများက သိ၍ထားကြရာ ဦးစော၏အမှုတွင် ပါဝင်သော ကိုသုခကလည်း ကျိုက်လတ်မြို့ကဟု သတင်းစာအသီးသီးတွင် ဟိုးလေးတကျော် ပေါ်ပေါက်နေခြင်းကြောင့် စာဖတ်ပရိသတ် တော်တော်များများက မြို့ပေါ်မှဆိုလျှင် အိမ်သို့လာ၍ မေးကြသည်။ ရပ်ဝေးကဆိုလျှင် အပြစ်တင်စာများ၊ ဆဲရေးသောစာများ၊ အကျိုးအကြောင်း စုံစမ်းသော စာများ၊ ရသမျိုးစုံ မျက်နှာပူစွာ ဖတ်ရှုခဲ့ရပါသည်။ (ကျိန်ဆဲစာနှင့် ကဲ့ရဲ့ရှုတ်ချသော စာများမှာ ရာကျော်နှင့်နှင့် ရှိပေ၏။)

ထိုအကြောင်းအချက်မှတစ်ပါး အခြားသော နာမည်တူများက လည်း အနုပညာလောကတွင် ရှိနေကြောင်း သိရပြန်ပါသည်။

ရုပ်ရှင်နှင့် ပြဇာတ်တွင် လူရွှင်တော် ကိုသုခ၊ ပန်းချီဘက်တွင်လည်း ကိုသုခ၊ ထို့ကြောင့် ကျွန်တော်နှင့်သူတစ်ပါး ကွဲကွဲပြားပြား ခွဲခွဲခြားခြား ဖြစ်ကြစေရန် "သုခ" ရှေ့က "စာရေးဆရာ" ဆိုသော နာမ ဝိသေသန တွဲ၍ စာရေးဆရာသုခဟု ဖြစ်ရပါလေသတည်း။

သို့သော်

စာရေးဆရာသုခဟု ကလောင်အမည် မှည့်ပြီးခါမှ ဘဝပေးအခြေအနေအရ ရုပ်ရှင်နယ်တွင် တလည်လည်နှင့် ဇာတ်ညွှန်းရေးသူအဖြစ်မှ ရုပ်ရှင်ဒါရိုက်တာဖြစ်ခဲ့ရသည့် ကာလအတွင်း လုံးချင်းဝတ္ထုများ စိတ်အားလက်အားနှင့် ရေးသားနိုင်စွမ်း မရှိခဲ့။ အလုပ်တွေ မအားလို့ ဟူသော ဆင်ခြေများမှာ သဘာဝကျသောစကားတော့ မဟုတ်။ ကိုယ်ညံ့ဖျင်း၍ အပျင်းကို တရားခံရှာသော ဆင်ခြေဟု ကိုယ့်ကိုယ်ကို အပြစ်တင်ရပါသည်။

ကဝိမျက်မှန်မဂ္ဂဇင်းတွင် မျိုးစေ့ချခဲ့ပြီး တစ်မူးတန် ရွှင်ပျော်ပျော်ခေတ်က အညွန့်အညှောင့် ပေါက်အောင် ကြိုးစားခဲ့ရသော စာပေအကိုင်းအခက်၊ အရိပ်အာဝါသအောက်မှ မကင်းကွာရက်သော မခွဲခွာဝံ့သော သံယောဇဉ်သည် သတင်းစာနှင့် မဂ္ဂဇင်းတို့တွင်သာ ကြိုးကြားကြိုးကြား အာလယ ဖြေဖျောက်ရပေသည်။

ခေတ်သည်

တစ်နှစ်မှသည် တစ်နှစ်သို့၊ တစ်ချိန်မှသည် တစ်ချိန်သို့ ရွေ့လျားလျက် ရှိသကဲ့သို့ စာပေ၏ အရေးအသား၊ အတွေးအခေါ်၊ အယူအဆ၊ အဆုံးအဖြတ်တို့သည်လည်း ပြောင်းလဲတတ်လေရာ ကျွန်တော်၏ အတ္တနောမတိကား ကျွန်တော်၏ စစ်ကြိုခေတ်က လုံးချင်းဝတ္ထုများပင်လျှင် အကြောင်းအရာများအားဖြင့်လည်း အားမရ၊ စာရေး စာသားအားဖြင့်လည်း မတည်မခန့် စိတ်မသန့်စရာတွေဟု ဆုံးဖြတ်မိသည်။

အတွေ့အကြုံ၊ အလေ့အကျင့် ရင့်ကျက်လာသည်ဟု ဆိုရမည်လား မပြောတတ်။ စစ်ပြီးခေတ်မှ ယနေ့အထိ စာများကိုကား ကျွန်တော် နှစ်သက်မိပါသည်။

ဤဝတ္ထု

လုံးချင်းမရလျှင် ရှိပါစေ။ ဆရာကိုယ်တိုင် ကောင်းနိုးရာရာ ရွေးချယ်၍ မဂ္ဂဇင်းပါ အဟောင်းများကို တစ်ပေါင်းတည်း စုစည်း ထုတ်ဝေလိုပါသည်ဟု ပြောလာသော ရွှေသမင်စာပေအား ယခုတစ်ကြိမ် ရလွယ်သမျှ မဂ္ဂဇင်းဝတ္ထုကလေးများ စုပေါင်း၍ ပေးလိုက်ရပါသည်။ သို့လင့်တစေ ကျွန်တော်၏ စာပေဆောင်ရွက်ချက်များမှာ နှုတ်ခမ်းနီ၊ ပါးနီမခို့တရို့ခြယ်တတ်သော တစ်ဆယ်ကျော် ငါးနှစ်ပတ်လည်တို့၏ အကြိုက် ဖြစ်ချင်မှ ဖြစ်ပေမည်ဟူသော သံသယကား ထုတ်ဝေသူထက် ကျွန်တော့်ကို ပို၍နှိပ်စက်နေကြောင်း ကိုယ့်ဝမ်းနာ ကိုယ်သာသိပါ တော့သတည်း။

သုခီအတ္တာနံ ပရိဟရန္တု၊
သုခ

# ဘင်္ဂလားအစ်ကိုကြီး

ဘဌေးမှာ အတော် ကုသိုလ်ဌေးကြွယ်သူတစ်ဦး ဖြစ်လေသည်။ မိဘအမွေများကို အုပ်ချုပ်၍ အတိုးသီးပွားဖြစ်အောင် ဆောင်ရွက်နေရှာသည်။ ဦးလေးတော်တစ်ယောက်ရှိခြင်းကြောင့် အလုပ်အကိုင်နှင့် စီးပွားရေးတွင် ကိုယ်တိုင်ကိုယ်ကျ ပူပန်စရာမလို။

"ဘဌေး ပိုးကုမ္ပဏီ"ဟု အမည်တပ်ထားသော်လည်း မန္တလေးမြို့ ပင်ရင်းတိုက်ကြီးတွင် ဘဌေး ဖင်မြဲမြဲထိုင်သည်မဟုတ်။ ရန်ကုန်တိုက်ခွဲ၊ ရေနံချောင်း၊ ပြည် စသော မြစ်ရိုးမြို့တိုက်ခွဲများနှင့်တကွ မြစ်ဝကျွန်းပေါ် အရပ်များသို့ လှည့်လည် ကြည့်ရှုနေခြင်းဖြင့် အချိန်ကုန်လွန်စေခဲ့သည်။

အသက် နှစ်ဆယ့်ရှစ်နှစ်တိုင်အောင် မယား၊ သားမယူခြင်းသည်လည်း ဤကဲ့သို့ လွတ်လွတ်လပ်လပ် မလည်မပတ်ရမည် စိုးခြင်းကြောင့်ဖြစ်တော့သည်။ သို့သော် တကယ်ချစ်လောက် စွဲလောက်စရာ မတွေ့သေး၍ဟုဆိုက ပို၍ မှန်ကန်ပေမည်။ သတ္တဝါဟူသည်ကား ကိုယ်က တကယ် ခုံခုံမင်မင် ချစ်ခင်စွဲလမ်းနေသော ပုဂ္ဂိုလ်ရှိပါမူ ထိုသူအနားက တစ်ဖဝါးမျှ မခွာနိုင်၊ ခွာလိုစိတ်လည်း မရှိတတ်သည်မှာ ဓမ္မတာပင် ဖြစ်တော့၏။ ထို့ကြောင့် ဘဌေး ဤကဲ့သို့ ချေးကျရာ ပျော်တတ်သည့်

ကြက်လို နမော်နမဲ့ ပျော်ပျော်ပါးပါး မြို့တကာ လည်နေနိုင်ခြင်းသည် သူ့ ကိုယ်တိုင်က မမြင်ရ မနေနိုင်အောင် စွဲမက်စရာကလေးတစ်ယောက် ယောက်မျှ မရှိသေး၍ ဖြစ်သည်။ မတွေ့သေး၍ ဖြစ်သည်။

ယခုတလော ရန်ကုန်သို့ ရောက်လာခြင်းမှာလည်း ထွေထွေထူးထူး ရေးကြီးခွင်ကျယ် မည်မည်ရရ ကိစ္စမရှိ။ အိုလံပစ်သို့ သွားကြမည့် တရုတ်စင်တောင် ဘောလုံးနှင့် ဘီအေအေညွန့်ပေါင်းတို့ ကစားကြမည့်ပွဲ ကို ကြည့်ရန်မျှသာ ဆင်း၍ လာခဲ့ခြင်း ဖြစ်တော့သည်။ ဘဗွေးသည် ကစားခုန်စားအားနှင့် ကျန်းမာရေးကို အတော် ဝါသနာပါခဲ့သည်။ ကိုယ်တိုင်လည်း လေ့ကျင့်ကြိုးစား၍ သူတစ်ပါးကိုလည်း အားပေး တိုက်တွန်းကာ ရက်ရက်ရောရော ချီးမြှင့်တတ်လေသည်။

ခါတိုင်း ဘောပွဲကပြီးလျှင် တည်းခိုရာ ဘုံဘေဟိုတယ်သို့သာ တိုက်ရိုက် ပြန်လေ့ရှိသော်လည်း ယနေ့မှာ ဘောပွဲအပြီးတွင် လူကြိုက်များ ၍ နာမည်ကြီးနေသော ဂလုပ်က ဓာတ်ကားတစ်ကားကို ဝင်ကြည့်နေမိ ခြင်းကြောင့် ကိုးနာရီလောက်မှ ဘုံဘေဟိုတယ်သို့ ပြန်ရောက်ခဲ့သည်။ မီးရောင်တွေ တထိန်ထိန်လင်းလျက် ပန်ကာများ တဝီဝီလည်နေသော ခန်းမကြီးအတွင်းရှိ ဧည့်ပရိသတ်များကို ဖြတ်၍ မိမိအခန်းရှိရာ အပေါ် ထပ်သို့ တက်ခဲ့လေသည်။ အပေါ်ထပ်မှာမူကား ဓာတ်မီးများ လင်းထိန် ခြင်း မရှိ။ အခန်းကလေးများသို့ ကူးသန်းသွားလာရာ လမ်းကလေးကို မြင်နိုင်လောက်အောင်သာ ဓာတ်မီးတစ်ပွင့်မျှ ဖွင့်ထားခြင်း ရှိလေသည်။

ဘဗွေးသည် သူ့အခန်းကို သော့ဖွင့်၍ဝင်ရန် သော့ကို အိတ်ထဲ၌ စမ်းကြည့်မိသည်။ သို့သော် သော့ကို မတွေ့။ အိတ်တွင်း၌ သော့ မရှိ။ တစ်ခဏကလေး အံ့ဩထိတ်လန့်သွားပြီးမှ ယနေ့ နေ့လယ်လောက် ကတည်းက သော့ကို ခေါင်းအုံးအောက်တွင် မေ့၍ ထားခဲ့ပြီးလျှင်

အခန်းတံခါးကို သော့မခတ်ခဲ့မိဘဲ ပိတ်၍ အမှတ်တမဲ့ ထွက်လာခဲ့မိကြောင်း သတိရတော့သည်။

ဘငွေးသည် မှောင်နေသောအခန်းတွင်းသို့ တံခါးကို ဖွင့်၍ ဝင်ခဲ့မိသည်။ သို့သော် ကိုယ်အခန်းတွင်းတွင် သူစိမ်းတစ်ယောက်ယောက် ဝင်နေကြောင်း အလိုလို ရိပ်မိသည်။ လိပ်ပြာမသန့် ရန့်မကင်း ဖြစ်မိသည်။ ထို့ကြောင့် မီးခလုတ်ရှိရာသို့ လက်လှမ်းလိုက်သည်နှင့် တစ်ပြိုင်နက် မိမိ၏ခုတင်အောက်ဆီက လူတစ်ယောက် အခန်းတံခါးဝသို့ ပြေးထွက်ရန် အလာတွင် ဘငွေးနှင့် ဘေးချင်းတိုက်မိလေရာ အသတ်အပုတ် ဝါသနာပါ၍ မျက်စိလျင် လက်မြန်သည်နှင့်အညီ လက်တစ်ဖက်က အခန်းတံခါးကို ပိတ်မိအောင် ဆောင့်ပိတ်လိုက်မိပြီးဖြစ်လျက် ညာလက်က ထိုလူ၏ မျက်ခွက်ရှိရာသို့ ခွပ်ခနဲ ထိုးလိုက်မိလေသည်။

အခန်းတွင်းသို့ ဝင်နေသူကား ကြောက်အားလန့်အားနှင့် ဘငွေးကို ဖက်၍ လုံးတော့သည်။ သူသည် ခါတ်မီး မဖွင့်နိုင်မီ အခန်းတွင်းမှ ထွက်ရအောင်သာ ကြိုးစားနေပုံရှိသည်။

အခန်းကလေး ကျဉ်းသော်လည်း သူတို့ နှစ်ယောက်သတ်ပုံမှာ ဝုန်းဝုန်းဒိုင်းဒိုင်း မရှိလှ။ တစ်ယောက်က လွတ်အောင် ရုန်း၍ တစ်ဦးက နိုင်အောင် ဖိထားခြင်းမျှသာရှိလေသည်။ ဘငွေးလောက် ကျွမ်းကျင်ကျန်းမာသန်စွမ်းဟန်မတူသော အလစ်သမားသည် မကြာမီ ဟောဟဲလိုက်လာတော့သည်။ ချွေးများလည်း တစ်ကိုယ်လုံး စိုရွှဲနေတော့သည်။ အင်အားများ လျော့သွားသည်နှင့်တစ်ပြိုင်နက် ဘငွေးက ရင်ဘတ်ပေါ်တွင် ခွစီးမိလျက်သားဖြစ်သွားတော့ရာ အင်္ကျီရင်ဘတ်ကို လျင်မြန်ဖျတ်လတ်စွာ စဆွဲ၍ မတ်တတ်ထလိုက်လေသည်။ ထို့နောက် နံရံတွင်ရှိသော မီးခလုတ်ကို ဖွင့်လိုက်သောအခါ အဝတ်အစား ခပ်ညစ်ညစ်ခေါင်းနှင့် ပါးစပ်မှသွေးများ ထွက်နေသော အသက်သုံးဆယ်ခန့် မြန်မာ

လူစိမ်းတစ်ယောက်နှင့် မျက်နှာချင်းဆိုင်မိတော့လေသည်။ ထိုသူမှာကား ဘဒ္ဒေး၏မျက်နှာကို မကြည့်ဝံ့သကဲ့သို့ ခေါင်းငိုက်စိုက်ချထားရာက မောပန်းခြင်းကြောင့် အသက်ပြင်းပြင်းရှူနေလေ၏။

"ဘယ့်နှယ်ဗျာ မိတ်ဆွေနှယ် နပန်းကလေး အသတ်အပုတ်ကလေး ဝါသနာပါလို့ရှိရင်လဲ နေ့ခင်းနေ့လယ် မြင်မြင်ထင်ထင် လာခဲ့ရောပေါ့"

ဘဒ္ဒေးက ခပ်အေးအေးကလေး ခနဲ့လိုက်လေ၏။ ထိုလူသည် ခေါင်းငုံ့နေရာက ကြောက်ရွံ့ရွံ့နှင့် ဆတ်ခနဲ နိုးကြည့်လိုက်ပြီးလျှင် ချက်ချင်းပင် ပြန်၍ ငုံ့မြဲငုံ့လိုက်လေ၏။ သူခိုးတစ်ယောက်အား ရှုးရှူး ရှားရှား ဒေါသ၊ မောဟ မကြီးဘဲ ဤကဲ့သို့ ပြောင်တိပြောင်ချော် ပြောတတ်သောသူများသည် လက်တွေ့အားဖြင့် အတော် ရက်ရက်စက်စက် ဆုံးမတတ်ကြောင်း သိနိုင်၍ ဖြစ်လေ၏။

ဘဒ္ဒေးသည် ထိုသူအား မှတ်မိလောက်အောင် စိန်းစိန်းကြည့်နေသေးသည်။ ထိုသူ၌ မိမိပစ္စည်းတစ်စုံတစ်ခုမှ လက်တွင်းတွင် မတွေ့ရ။ အခန်းတွင်းရှိ မိမိ၏ ပစ္စည်းထားသိုရာတို့၌လည်း ပြောပလောက်အောင် ခြေရာလက်ရာ မပျက်သေး။

"ကျွန်တော် ကျွန်တော် ကျွန်တော့ကို ပုလိပ်လက် မအပ်ပါနဲ့ ခင်ဗျာ။ ခင်ဗျားပစ္စည်းတွေလဲ တစ်ခုမှ မယူရသေးပါဘူး။ ကျွန်တော့မှာ လက်နက်ဆိုလို့လဲ ရန်တုရအောင် တစ်ခုမှမပါခဲ့ပါဘူး။ ကျွန်တော့ကို လွှတ်ပါခင်ဗျာ"ဟု သတ္တိမဲ့စွာ တောင်းပန်နေတော့သည်။

"ကျုပ်က ပုလိပ်လက်ကို အပ်တတ်တဲ့လူစား မဟုတ်ဘူးဗျ။ ခင်ဗျား စိတ်ချ"

ဤစကားသည် အချောင်သမားအား ပို၍ လန့်သွားစေလေသည်။ ဘဒ္ဒေး၏ စိတ်တွင်လည်း ပုလိပ်ကိုအပ်၊ ဂါတ်ကိုရောက်၊ ရုံးကိုတက်

နှင့် ဆွမ်းခံရင်း ငှက်သင့်နေခြင်းကို မနှစ်မြို့။ ရှည်ရှည်ဝေးဝေးကြီးမျိုးကို လုပ်နေမည့်အစား မှတ်လောက်အောင် ကိုယ်ထိလက်ရောက် ဆုံးမလိုက်ခြင်းသာ ပို၍ တောင့်တမိသည်။

"ကျွန်တော် ဆင်းရဲလွန်းလို့ ကြံမိတာပါခင်ဗျာ။ အခန်းတံခါးကို လာဖွင့်ကြည့်မိတော့ သော့မခတ်ဘဲ လွယ်လွယ်ကူကူပွင့်သွားလို့ အထဲရောက်ရောက်ချင်း ခင်ဗျား ဝင်လာတဲ့ ခြေသံကြားရတာပါပဲ။ ဒါကြောင့် ကျွန်တော် ဘာတစ်ခုမှ မယူရသေးပါဘူး။ ကျွန်တော် ပြောတာမယုံရင် ကျွန်တော့ကိုယ်မှာ ရှာကြည့်ပါ။ ကျွန်တော် သွားပါရပါစေတော့ခင်ဗျာ။ ကျွန်တော် ကြောက်လှပါပြီ"

ထိုသူ၏ ပြောပုံမှာ ဟန်ဆောင်နေပုံမျိုး မဟုတ်။ တကယ်လန့်နေ၍ တစ်ကိုယ်လုံး တုန်တုန်ယင်ယင် ဖြစ်နေရှာသောကြောင့် ဘဒ္ဒေး စိတ်ပြောင်းသွားမိသည်။

ဟိုတယ်တွင် တည်းခိုရန်လာသော ဧည့်သည်တစ်ဦးဦး၏ ပစ္စည်းကို သယ်ယူခဲ့ရသည့် ကူလီတစ်ယောက် ဖြစ်သောကြောင့် ဤအပေါ်ထပ် ရောက်အောင်လာခဲ့နိုင်ခြင်း ဖြစ်ပြီးလျှင် အမှတ်တမဲ့ သော့မခတ်ခဲ့သော မိမိ၏အခန်းကို တွေ့ရ၍ ဝင်လာသည်နှင့် မရှေးမနှောင်းပင် မိမိပြန်ရောက်၍ လက်ပူးလက်ကြပ် မိရကြောင်း ဘဒ္ဒေးစဉ်းစားမိသည်။ ထို့ကြောင့် မိမိ၏ပစ္စည်း တစ်စုံတစ်ရာ ပျောက်ဆုံးခြင်း မရှိသည့်အတူတူ ထိုလူကို လွှတ်လိုက်ရန်သာ ကောင်းတော့သည်။ သူ၏ နှာခေါင်းမှ မိမိ၏ လက်သီးဒဏ်ကြောင့် သွေးထွက်နေပြီဖြစ်သဖြင့် ဤမျှလောက်နှင့်ပင် ကျေနပ်စရာ ရှိတော့၏။

"အင်း ခင်ဗျားကံကောင်းတယ်။ အလျှောက်ကောင်းလို့ အထောင်းသက်သာတယ် မှတ်လိုက်။ သိရဲ့လား။ ကဲ ကြွ ကြွ"

ဘဈေးက ပြောပြောဆိုဆို တံခါးဖွင့်ပေးလိုက်သည်နှင့် တစ်ပြိုင်နက် ဖောင်းတွင်းမှ မြင်းတစ်ကောင်ကို လွှတ်လိုက်သကဲ့သို့ ထွက်သွားတော့သည်။

ဘဈေးသည် သက်မတစ်ချက် ချလိုက်မိသည်။ ပြီးမှ သူ၏အပေါ်အင်္ကျီကို ချွတ်လိုက်ပြီးလျှင် အင်္ကျီချိတ်တွင် ချိတ်ထားလိုက်သည်။ တစ်ခဏကလေးအတွင်း အတော်ကလေး မောအောင် သတ်ပုတ်လိုက်ရသောကြောင့် ခုတင်ပေါ်သို့ ဖင်ချထိုင်လိုက်မိရင်း ရယ်လိုက်မိသည်။ ရယ်နေရာက တံခါးဝကြမ်းပြင်ပေါ်တွင် မိမိအတွက် စာတိုက်မှစာများကို တွေ့မြင်ရလေ၏။ ဟိုတယ်သို့ မိမိအတွက်လာသော စာများ၊ သတင်းစာများမှာ အခန်းတွင်းတွင် လူကိုမတွေ့က ဟိုတယ်အစေခံကလေးများက ဤကဲ့သို့ပင် သက်ဆိုင်ရာ အခန်းတွင်းသို့ တံခါးအောက်က ထည့်သွင်းခဲ့မြဲဖြစ်လေသည်။

ဘဈေးသည် ဦးစွာပထမ မန္တလေး လူထုသတင်းစာကို ကောက်ယူလိုက်လေသည်။ နောက် စာအိတ်နှစ်အိတ် တွေ့ရလေရာ တစ်ခုမှာ မိမိ၏ကုမ္ပဏီမှ ဦးလေး၏ လက်ရေးနှင့် မိမိထံပေးသော စာဖြစ်ကြောင်း သိနိုင်လျက် စာတစ်အိတ်မှာမူကား မိန်းမလက်ရေးနှင့် မိမိထံသို့ လိပ်စာတပ်ထားကြောင်း တွေ့ရလေသည်။ လက်ရေးမှာ မိန်းမလက်ရေးဟု ဆိုရစေကာမူ အတော် လှပသေသပ်သော လက်ရေးကလေးဖြစ်လေရာ ဘဈေးသည် စာတစ်တန်၊ ပေတစ်တန် ပေးနိုင်လောက်အောင် ဘယ်မိန်းကလေးတစ်ဦးနှင့်မှ အဆက်အသွယ် မရှိခဲ့ပုံကို စဉ်းစားမိလေ၏။ ထို့ကြောင့် စာအိတ်ကို သေသေချာချာ အကဲခတ်မိသည်။

ကိုဘဈေး
ဘုံဘေဟိုတယ်
ရန်ကုန်မြို့။

လိပ်စာသည် လှပဝိုင်းစက်သော လက်ရေးကလေးများကြောင့် ယုံမှားစရာ မလို။ တံဆိပ်ခေါင်းပေါ်က စာတိုက်နာမည်ကို ခတ်မီးရောင် နားသို့ ကပ်ကာ ကြည့်လိုက်မိပြန်သည်။ သေသေချာချာ ကြည့်လိုက်မှ ရင်းညိမ်ဟူသောစာတိုက်အမည်ကို တွေ့ရပြန်လေရာ ဘဗွေးတွင် ပို၍ အံ့ဩမိတော့သည်။ ရင်းညိမ်ဟူသော မြို့နာမည်ကို အတော်ကလေး စဉ်းစားယူမှ မော်လမြိုင်သွား မီးရထားလမ်းရှိ မြို့ကလေး တစ်မြို့ဖြစ် ကြောင်း သတိရတော့သည်။

ဘဗွေးသည် မော်လမြိုင်မြို့သို့ တစ်ခေါက်၊ နှစ်ခေါက်ရောက်ဖူး သည် မှန်သော်လည်း ၎င်းရင်းညိမ်ရွာကလေးသို့ မဆင်းခဲ့ဖူး။ အနီးစပ်ဆုံး အားဖြင့် ၎င်းနှင့် နီးစပ်ရာ သထုံ၊ မုတ္တမ၊ မော်လမြိုင်မြို့များတွင်ပင် ရင်းရင်းနှီးနှီး မိတ်ဆွေသင်္ဂဟတစ်ဦးတစ်ယောက်မျှ မရှိရိုး မှန်ခဲ့၏။

ဘဗွေးသည် ကြာရှည် လေးမြင့်စွာ ဦးနှောက်ကို အလုပ်မပေးလို တော့သဖြင့် ခပ်သွက်သွက်ပင် စာအိတ်ကို ဖောက်လိုက်တော့သည်။ ရိုးရိုးကော်ပီစာအုပ်ထဲမှ စာရွက်မျိုးဖြစ်ကြောင်း တွေ့ရလေသည်။ ထို စာရွက်ကို ဖြန့်လိုက်လျှင် ဖြန့်လိုက်ချင်း 'အစ်ကိုကြီး' ဟူသော ခေါင်းစဉ် ကို ပထမ စတင်၍ တွေ့လိုက်ရတော့သည်။ စာအဆုံးက လက်မှတ်ကို ကြည့်လိုက်သောအခါ 'မဝင်းနု' ဟု တွေ့ရပြန်သောကြောင့် 'အင်း ဘယ်သူကများ နောက်လိုက်တဲ့စာများလဲ ကဲ ဒါလောက်တောင် ရှိလှ တာ အပျင်းပြေဖတ်လိုက်စမ်းရဦးတော့မယ်' ဟု နှုတ်မှ မြည်တမ်းရင်း ခုတင်ပေါ်သို့ ပြန်ထိုင်၍ စိမ်ပြေနပြေ ဖတ်သဖြင့် စာနှစ်ကြောင်း သုံးကြောင်း အရောက်တွင် ဘဗွေးမှာ ပေါ့တီးပေါ့ဆ မနေနိုင်တော့ပေ။ စာပါ အဓိပ္ပာယ်မှာ ရယ်ရွှင်ဖွယ် အကြောင်းအရာ မဟုတ်။ သေရေး ရှင်ရေး ဝမ်းနည်းစရာ စိတ်ပူစရာစာမျိုး ဖြစ်တော့သည်။

အစ်ကိုကြီး

မမေ့ကို မသနားတော့ဘူးလား။ မနေ့က အစ်ကိုကြီးထံက စာရောက်တယ်ဆိုတော့လေ သူခမျာ ဝမ်းသာရှာလွန်းလို့ မျက်ရည်တွေတောင် ကျလာတာပဲ။(အမယ်လေး ငါ့သားကြီးဆီက လာတာလား ဖတ်စမ်းပါ သမီးရယ်။ မြန်မြန်ဖတ်စမ်းပါ။ မေမေ သူ့လက်ရေးကလေးတွေ မမြင်နိုင်ပေမဲ့ သူရေးလိုက်တဲ့ စာကလေးတွေ ကြားစမ်းပါရစေ) တဲ့။ သူ ဒီလိုပြောလိုက်တာလေ ဝင်းနုတောင် ဟစ်ငိုလိုက်ချင်တဲ့စိတ် ပေါက်လာတာပဲ။ ဒါနဲ့ အစ်ကိုကြီးစာကို ဖတ်ပြလို့ အလုပ်ရနေပြီဆိုတဲ့စကား ကြားပြန်တော့လဲလေ (အင်း ငါ့သားကြီး လိမ္မာပါပြီအေ။ လိမ္မာပါပြီ၊ မမိုက်တော့ပါဘူး။ အမယ်လေး ငါတွေ့လိုက်ချင်စမ်းပါဘိကွယ်)လို့ ညည်းရှာတယ် အစ်ကိုကြီးရယ်။

အစ်ကိုကလဲ နေနိုင်လိုက်တာနော်

ဘဒွေးသည် စာကို ဆုံးအောင် မဖတ်နိုင်သေးဘဲ တစ်ပိုင်းတစ်စနှင့် စာ ကိုင်ရင်း တွေနေမိလေသည်။ သူ၏ဘဝတွင် နှမလည်းမရှိ။ မိခင်လည်း ကွယ်လွန်သွားခဲ့ပြီ ဖြစ်သောကြောင့် ဤစာမှာ မိမိအတွက် မဟုတ်ကြောင်း ဒိဋ္ဌသိနိုင်လင့်ကစား ကိုယ်ချင်းစာ၍ ရင်ထုမနာဖြစ်ရလေသည်။ စာရေးသူ ကလေးမကလေးမှာ မမာနေသော မိခင်ကြီးနှင့် အရပ်တစ်ပါးရှိ အစ်ကိုကြီးကြားက ဗျာများနေပုံကို စဉ်းစား၍ ကြည့်နိုင်လေသည်။ ထို့နောက် စာရွက်ကို ဖတ်နေရာက စိတ်မကျေ၍ စာအိတ်က လိပ်စာကို ပြန်ကြည့်မိပြန်တော့၏။ (ကိုဘဒွေး၊ ဘုံဘောဟိုတယ်)ဟူသော လက်ရေးကို တွေ့ရပြန်သည်။ ဘဒွေးသည် သူ့အခန်းတွင်းတွင် တစ်ယောက်ထီးတည်း မျက်မှောင်ကုတ်၍ စဉ်းစားနေရာက ဆက်ဖတ်ပြန်သည်။

အစ်ကိုကြီး အိမ်က ထွက်သွားတာ အခုဝါကျွတ်ရင် ဆယ့်ငါးနှစ်တင်းတင်း ပြည့်တော့မယ်နော်။ ဒီကြားထဲမှာ တစ်ခါမျှ ကိုယ့်ရပ်ကိုယ့်ရွာ ပြန်မလာတာများ အံ့ပါရဲ့။ ဝင်းနု ခုနစ်နှစ်သမီးအရွယ်လောက်ကဆိုတော့ အခုနေမှ ပြန်လာရင် ညီမလေးကို အစ်ကိုကြီး မှတ်မိတော့မှာ မဟုတ်ဘူးနော်။ အင်း ဝင်းနုကလဲ အစ်ကိုကြီးကို ကောင်းကောင်းမှတ်မိမှာမဟုတ်ပါဘူးလေ။ မေမေကတော့ အစ်ကိုကြီးကို တစ်နေ့မျှ မေ့တယ်မရှိဘူး။ အမြဲ ပြောလျက်၊ အမြဲ တလျက်ပဲ။ တစ်ခါတစ်ခါတော့လဲ မေမေက ဝမ်းနည်းပန်းနည်း ညည်းရှာတယ်။ ငါမသေခင် ငါ့သားကြီးမှ တွေ့သွားရပါဦးမလားတဲ့။ ဒီလိုပြောမယ့်သာ ပြောတယ်။ မေမေ့ မျက်စိနှစ်ဖက်လုံးဟာ လုံးလုံးကွယ်သွားပြီ အစ်ကိုကြီးရဲ့။ နားတွေလဲ လေးလာလို့ သူ့နားနားမှာကပ်ပြီး အော်ပြောမှ ကြားရှာတော့တယ်။ တရှောင်ရှောင်နေရာက အိပ်ရာထဲ ဗုန်းဗုန်းလဲတာ တစ်နှစ်ပြည့်တော့မယ်။ ဆရာကြီးဦးမှိုကဖြင့် နေ့နေ့ညည ဂရုစိုက်လျက်ပါပဲ။ သူတစ်ယောက်ရှိလို့သာ မေမေ ကြာကြာ အသက်ရှင်နေရတာပဲ။

အစ်ကိုကြီးကို မေမေက သိပ်ချစ်တာပဲလေ။ ဝင်းနုထက် အဆတစ်ရာလောက် ချစ်လွန်းလို့ ဒီလို ဝေဒနာမျိုး ခံစားနေရတာပေါ့။ အဲသည်လောက်ချစ်တဲ့ ကိုယ့်မွေးသမိခင်အပေါ်မှာ ကြင်နာရကောင်းမှန်း မသိတဲ့ အစ်ကိုကြီးကို ဒေါသဖြစ်မိတယ်။ ဒါကြောင့် စာကိုတောင် မေမေကသာ အတင်းအဓမ္မခိုင်းရင် ဒီလို ရေးဖြစ်မှာ မဟုတ်ဘူး။ ဒီတော့ ဝင်းနု နောက်ဆုံးတောင်းပန်ချင်တာက မေမေကလဲ နေ့လားညလား ဆိုသလို စိတ်မချရဘူး။ ဒီအပေါ်မှာ အခုသုံးလေးရက် မိုးတွေ ဆက်ရွာနေလို့ သူ့ရောဂါ အတော်တိုး

နေတယ်။ ဒါကြောင့် အစ်ကိုကြီး အလုပ်ကို ခဏခွင့်ယူပြီး အမြန်လိုက်ခဲ့ပါ။ တော်တော်ကြာ မအေတစ်ယောက်လုံး... အိုလေ တော်ပြီ ဝင်းနုဆက်မရေးချင်ဘူး။

မဝင်းနု

ဘဗွေးသည် စာကို ဆုံးအောင် ဖတ်ပြီးသောအခါ ပို၍ စိတ်မချမ်းသာ ဖြစ်ရတော့သည်။ ထိုစာမှာ ဤဟိုတယ်သို့ ဆိုက်ဆိုက်မြိုက်မြိုက် ရောက်လာခဲ့ခြင်းကို တွေး၍မရ။ မိမိ၏နာမည်နှင့် တူသော အခြား ဧည့်သည်များ ရှိလိုရှိငြား ဟိုတယ်မန်နေဂျာသို့သွား၍ မေးရန် စာရွက် ကို လက်ကကိုင်ကာ အောက်သို့ ဆင်းလာခဲ့လေသည်။ ထိုစာမှာ မိဘ အတွက်၊ သားအတွက်သော်လည်းကောင်း၊ အစ်ကိုကြီးအတွက်နှင့် နှမလေးအတွက်မှာသော်လည်းကောင်း အရေးတကြီး ဖြစ်နေသည်ကို ဘဗွေး စဉ်းစားနေစရာမရှိ။ ဒီဋ္ဌသိခြင်းကြောင့် ဖြစ်တော့သည်။ ထို အတွက် သက်ဆိုင်ရာ လူကို ရှာဖွေကာ အချိန်မီ ပေးဖို့ပါ အရေးကြီး နေတော့သည်။

"မြန်မာ ဧည့်သည်ထဲမှာ 'ဘ'နဲ့စတဲ့ နာမည်ဆိုလို့ ခင်ဗျားအခန်းနဲ့ မျက်နှာချင်းဆိုင်အခန်းက ဦးဘရှင် ဆိုတာပဲ ရှိတယ်။ သည့်ပြင်ဆိုရင် ဦးတင်ထွတ်၊ ဦးမြဘူး၊ ဦးခင်မောင်ကြီး အဲဒါတွေပဲ ခင်ဗျာ။ ဒီစာ ဟာ ခင်ဗျားရဲ့ မေ့နေတဲ့မိတ်ဆွေထဲက ပေးလိုက်တာ ဖြစ်ပါလိမ့်မယ်" ဟု မန်နေဂျာက ပြောလိုက်သောကြောင့် စာရွက်ကိုကိုင်ကာ ပြန်၍ တက်ခဲ့ရတော့သည်။ ဘဗွေးသည် ကြားထဲက ကရုဏာသာမက စေတနာပါ ထက်သန်နေခြင်းကြောင့် မိမိ အခန်းနှင့် မျက်နှာချင်းဆိုင် ဦးဘရှင်ဆိုသူ တည်းခိုနေသည့် အခန်းကို စပ်စုကြည့်ရန် တံခါးခေါက် လိုက်မိသည်။

'ကမ်းမင်း'ဟု အတွင်းမှ အင်္ဂလိပ်ဆန်ဆန် ဝင်ခဲ့ရန် ပြောသည့်အတွက် ဘဌေးမှာ စာရွက်ကလေးကိုင်ရင်း ဝင်သွားမိသည်။

ဦးဘရှင်ဆိုသူမှာ မိုလ်များဝတ်ရိုးဖြစ်သော အိပ်ရာဝင်အကျီ၊ ဘောင်းဘီပွကြီးကို ဝတ်ကာ ကုလားထိုင်တစ်လုံးတွင် ခပ်ခန့်ခန့်ထိုင်၍ ဝီစကီကို ဖိမ်ခံနေဆဲ တွေ့ရလေသည်။

သူသည် ဟိုတယ် အစေခံတစ်ယောက် ထင်မှတ်ကာ ခပ်မာမာ ပြောမိသည်ကို ဘဌေးအားကြည့်ရင်း အားနာနေဟန်ရှိလေ၏။ သို့သော် မလာစဖူး မကူးစဖူး ညကြီးမင်းကြီး ကူးလာသည့်အတွက် အထူးအဆန်း တွေးကာ ငေးကြည့်နေလေသည်။ သူတို့အချင်းချင်း နာမည်ကို မသိကြ။ မခေါ်မပြောမိကြသော်လည်း တစ်ဟိုတယ်တည်းတွင် တည်းနေကြသည့် ဂုဏ်သရေရှိ ဧည့်သည်ဖြစ်ကြောင်းကိုကား တစ်ဦးကို တစ်ဦး မြင်ဖူး၊ သိဖူးနေကြလေသည်။

"သြော် သြော် ဟို ဟို"ဟု ဘဌေး နေထိုင်ရာ အခန်း ဆီသို့ လက်နှင့်ပြရင်း ဦးဘရှင်က မေးတော့မလို ပြောတော့မလို ဖြစ်နေစဉ်

"ဟုတ်ကဲ့၊ ကျွန်တော် အခန်းနံပါတ် ၁၅ ကပါ"

"ထိုင်ဗျာ ထိုင်ဗျာ ဝီစကီကလေးများ ကြိုက်တတ်ရင်"

"ကျေးဇူးတင်ပါတယ် ခင်ဗျာ၊ မသောက်တော့ပါဘူး။ ကျွန်တော် လာတဲ့အကြောင်းက ဟောသည့် စာကလေး အတွက်ပါ"ဟု ဘဌေးက ကုလားထိုင်တစ်လုံးတွင် ဝင်၍ထိုင်ရင်း စာအိတ်ကိုပေးကာ အကျိုးအကြောင်းကို ပြောပြရတော့သည်။

ဦးဘရှင်သည် ဘဌေး ပြောသမျှစကားကို အရေးတယူ နားစိုက်ထောင်၍ ဘဌေးပေးလိုက်သော စာအိတ်နှင့် စာရွက်ကိုပါ သေသေချာချာ ကြည့်လိုက်သည်။ ပြီးမှ ပြုံး၍

"ဟုတ်ကဲ့၊ အတော်တော့ အရေးကြီးတဲ့ စာပေပဲခင်ဗျာ။ ဒါပေမဲ့ ကျွန်တော့နာမည်က ဦးဘရှင်ပဲ။ နောက်ပြီးတော့ ကျွန်တော့မှာ နှမလဲ မရှိပါဘူး။ ဦးဘဒွေးစာမဟုတ်ဘဲနဲ့ ဦးဘဒွေးဆီ လာရတာကလဲ အတော်တော့ အဆန်းသား။ အင်းစုံထောက်မောင်စံရှားခေါ်ဦး။ အစုံထောက်နိုင်းရအောင်။ ခင်ဗျား မန္တလေးပြန်တော့ လူထုသတင်းစာတိုက် သွားပေးပါလားဗျာ။ ဒါမှ ကျွန်တော်တို့လဲ ဝတ္ထုကောင်းတစ်ပုဒ် ဖတ်ရတော့မှာပဲ" ဟု နောက်ဆုံးတွင် ခပ်နောက်နောက်စကားကလေးနှင့် ရွှန်းလိုက်သေးသည်။

ဘဒွေးသည် စိတ်ပျက်လက်ပျက်နှင့် ဦးဘရှင်အခန်းတွင်းမှ ထွက်ခဲ့ရသည်။ ထိုနေ့ည အိပ်ရာသို့ ဝင်ရသည်မှာ ခါတိုင်းညများကဲ့သို့ လွတ်လွတ်လပ်လပ် မရှိလှ။ ကိုယ်နှင့် လုံးလုံးမဆိုင်သော စိတ်ပူစရာ ကိစ္စကြီးကို မေ့ပျောက်ပစ်၍ မရအောင် စွဲကပ်နေတော့၏။

"ဟယ် ရှုပ်တယ်၊ ရှုပ်တယ်။ ဒါတွေ တွေးနေလို့ အပိုပေါ့"

ဘဒွေးသည် နောက်ဆုံး၌ သူ့ကိုယ်သူ ဒေါသဖြစ်မိလေသည်။ ထို့ကြောင့် အဝတ်အစားများလဲ၊ မီးပိတ်၍ အိပ်ရာဝင်လိုက်တော့သည်။ သို့သော် တော်တော်နှင့် အိပ်၍ မပျော်တော့ချေ။

နောက်တစ်နေ့နံနက် အအိပ်ပျက်မှုကြောင့် အတော်နေမြင့်မှ နိုးလေ၏။ ထိုသို့ နိုးသည်ဟု ဆိုရခြင်းပင်လျှင် သူ့အလိုအလျောက် နိုးရခြင်းမဟုတ်။ ဟိုတယ် အစေခံကလေးက လာ၍ တံခါးခေါက်ခြင်းကြောင့်သာ နိုးရခြင်း ဖြစ်လေသည်။ အစေခံကလေးသည် စာအိတ်တစ်ခုကို လာ၍ပေးပြန်သည်။ ဘဒွေးသည် စာအိတ်ကို ခပ်လန့်လန့်နှင့် ကြည့်မိ၏။ မိန်းကလေး၏လက်ရေးမျိုး မဟုတ်သည်ကို တွေ့ရမှ စားပွဲပေါ်သို့ ပစ်တင်ကာ ကိုယ်လက်သုတ်သင်ဖြစ်တော့သည်။ ဟိုတယ် အောက်ထပ်သို့ လက်ဖက်ရည်သောက်ဆင်းသောအခါ ထိုစာအိတ်ကို

ယူခဲ့သည်။ လက်ဖက်ရည်စားပွဲတွင် ထိုင်၍ စာအိတ်ကို ကြည့်လိုက်သော အခါတွင်ကား အတော်လန့်သွားပြန်တော့သည်။ လက်ရေးမှာ ယောက်ျား တစ်ယောက်၏ လက်ရေးဖြစ်သော်လည်း စာတိုက်တံဆိပ်မှာ ရင်းညိမ်က ဖြစ်နေပြန်လေပြီ။

ရန်ကုန်မြို့၊
ဘုံဘောဟိုတယ်မှ တစ်ဆင့်
မောင်ဘဗွေးသို့ ပေးရန်

ဘဗွေးသည် စာအိတ်ကို ဖင်ပြန်၊ ခေါင်းပြန် ပြန်၍ ကြည့်ရသည်။

"ဟယ်၊ ဒါလောက်တောင်ဖြစ်လှတာ ဖွင့်ဖတ်ဦးမယ်ကွာ ကဲ" ဘဗွေးကား ဒေါသစိတ်ကလေးနှင့် လက်ဖက်ရည်မှ မသောက်ရသေးမီ ရင်းညိမ်က စာကို ဖတ်ရပြန်တော့သည်။

မောင်ဘဗွေး

မင်းနေတဲ့နေရာကို မင့်နှမက ပြောလို့ မနေ့ကမှ သိရတယ်။ မင်းကတော့ မအေကြီးလဲ ဂရုမစိုက်၊ နှမကလေးလဲ အရေးမလုပ် မင်းနေချင်ရာနေ၊ မင်းလုပ်ချင်တာတွေလုပ်နေ၊ မင်း မအေကြီးဖြင့် အိပ်ရာထဲ လဲနေပကော။ နေ့လဲ သားကို တ၊ ညလဲ သားကို တ တတတနဲ့ ရှိရှာတယ်။ မီးယပ်လဲဖြစ်ပြန် လူကြီးလဲဖြစ်ရ တဲ့အပေါ် မင်းကို စွဲလမ်းနေတဲ့စိတ်ကြောင့် မကြာခင် လုံးပါးပါး မှာပဲ။ အားလုံး သနားစရာဖြစ်နေကြပြီ။ ကောင်မလေးမှာ မအေ မမာတာကိုလဲ ပြုစုရ၊ စားဖို့သောက်ဖို့လဲ ရှာရနဲ့ ဒါတောင် သူ့ ကျောင်းဆရာမလုပ်တာကလေးနဲ့ မစားလောက်ရှာဘူး။ စားဖို့ ထက် သူ့အမေအတွက် ဆေးဝါးခတ်စာမှ ပြည့်ပြည့်စုံစုံ ဝယ် မပေးနိုင်ရှာဘူး။ ငါကတော့ ရပ်ဆွေရပ်မျိုးမို့ ငါတတ်နိုင်သလောက်

ဆေးဝါးဖြင့် အလကားပေးပြီး ကုပါတယ်ကွာ။ အေး ခံတ်စာ တော့ဖြင့် ဝယ်မပေးနိုင်ပေဘူးပေါ့။ ငါ့အခြေအနေကလဲ မင်း အသိသား မဟုတ်လား။ အခု မင်းမယ်တော်ကြီးဟာ မျက်စိလုံးလုံး ကွယ်သွားပြီ။ နောက်ကို အလွန်ဆုံးနေရလှမှ ငါ့စိတ်ထင်တော့ တစ်လပဲ။ မင်းတို့အိမ်ကြီးလဲ ပေါင်ထားရပြီ။ ဒါတွေထက် ဆိုးတာက အမယ်ကြီးက မင်းကို နောက်ဆုံးမတွေ့ရရင် အသေ ဖြောင့်မှာမဟုတ်ဘူး။ အဲသည်လို မင့်စိတ်နဲ့ သေသွားရရင် မင်း တော့ မာတာပိတုကံ ဘာတဲ့လေ။ အမိကိုသတ်သော သား တစ်ယောက် ဖြစ်တော့မှာပဲ။ ဒါကြောင့် လာနိုင်အောင် အမြန်လာ ပြီး မင့်အမေ အသေဖြောင့်အောင် ဆောင်ရွက်ပေတော့။

အင်း မင်းလိုသားမျိုး ငါမမွေးတာဘဲ ကျေးဇူးတင်ပါသကွာ။

ဆေးဆရာကြီး ဦးမှို

ဘဌေးသည် စာရွက်ကိုစားပွဲပေါ်ချလိုက်ရင်း သက်ပြင်းရှူမိသည်။ အိပ်ရာကထစတွင် ညကအကြောင်းမှ မပျောက်သေးမိ နောက် တစ်ကြောင်း ပေါ်လာပြန်ခဲ့သောကြောင့် မိမိအား ဘဌေးဟု အမည်တွင် စေသည်ကိုပင် စိတ်နာလာမိတော့၏။

“ခက်တော့တာပဲ ငါ့နှယ်”ဟု ညည်းမိလေသည်။ ထို့နောက် စာရွက်နှင့် စာအိတ်ကို ပေါင်မုန့်ထောပတ်သုတ်ကို ကိုက်ရင်း ပြန်ကြည့် မိပြန်သည်။ မိမိမှာ သူဌေးကလေးဘဌေး၊ မန္တလေးမြို့၏ မျက်နှာဖုံး၊ နေရာတကာတွင် ပူစရာပင်စရာဟူ၍ တစ်ချေးသားမျှ မရှိ။ ဤကဲ့သို့ မိမိကိုယ်ရေးကိုယ်တာနှင့်တကွ ဆွေမျိုး မိတ်ဆွေသင်္ဂဟတို့အတွက် ကြောင့်ကြစရာ လုံးလုံးမရှိခဲ့သည်နှင့်အညီ တစ်သက်လုံးလိုလို ပျော်ပျော် ရွှင်ရွှင် အေးအေးချမ်းချမ်းနေလာခဲ့သော သူ့ကိုမှ ယခုကဲ့သို့ မတွေးတတ် မစဥ်းစားတတ်အောင် ရင်းညီမ်က အပူကိစ္စကြီး လာတွေ့နေရသည်ကို

အတော်စိတ်နာမိပေသည်။ သူတို့၏ စာပါအတိုင်း မဝင်းနု၏ အစ်ကိုကြီး ဘဋ္ဌေးဆိုသူအား စဉ်းစားလိုက်ရပါမူ အတော်ဒေါသဖြစ်စရာ ကောင်းလှသည်။ သေလုနီးဖြစ်နေသော ဘဋ္ဌေး၏ မိစင်ကြီးအား လည်းကောင်း၊ ဝမ်းစာက တစ်ဖက်၊ လူမမာ မအေအိုကတစ်ဖက် ရတက်ပွားနေရသော မဝင်းနုဆိုသူအားလည်းကောင်း၊ ယုတ်စွအဆုံး ရပ်ဆွေရပ်မျိုးဖြစ်သည့် ဆေးဆရာကြီး ဦးမှိုဆိုသူကိုပါ ကရုဏာသက်စရာ ဖြစ်နေသောကြောင့် သူတို့သူတို့၏ တွင်းနက်လှသောဒုက္ခကို ကိုယ်တိုင်သာ သွား၍ မားမား ရပ်ကာ ကူချင်၊ ကယ်ချင်လှတော့သည်။

ဘဋ္ဌေးသည် စဉ်းစားရာက တစ်စုံတစ်ခုကို သတိရ၍ စာထကာ ရေးတော့သည်။

ရင်းညီမ်မြို့။

မဝင်းနုထံသို့

ကျုပ်တည်းခိုနေသော ဘုံဘေဟိုတယ်သို့ ကျုပ်နာမည်နှင့် စာပို့လိုက်သည်ကို ဖတ်ရပါသည်။ နောက်တစ်နေ့မနက်တွင်လည်း ဆေးဆရာကြီးဦးမှိုဆိုသူကပါ စာထပ်၍ ရေးလိုက်ပြန်ပါသည်။ ကျုပ်မှာ မဝင်းနု၏အစ်ကို မောင်ဘဋ္ဌေး မဟုတ်။ မန္တလေးမြို့မှ မောင်ဘဋ္ဌေး ဖြစ်ပါသည်။ မဝင်းနု၏စာကို သက်ဆိုင်သူအစစ်ထံ ရောက်အောင် အမျိုးမျိုးကြိုးစား ထောက်လှမ်းပါသော်လည်း မတွေ့နိုင်ပါသဖြင့် မဝင်းနု၏မိစင်ကြီးကို ပြုစုကုသရန် ငွေငါးရာ စာတိုက်မှ ယနေ့ တင်ပို့လိုက်ပါသည်။ ကျုပ်ကပင် ဗိဝိတဒါန ကုသိုလ်လုပ်လိုက်ခြင်းကြောင့် ဆိုငွေများကို လက်ခံ၍ ကျန်းမာအောင် ကြိုးစားပြုစုပါမည့်အကြောင်း။

မောင်ဘဋ္ဌေးသည် စာရေး၍ ပြီးသဖြင့် လက်မှတ်ထိုးခါနီးမှ စဉ်းစားနေမိပြန်သည်။ သူတို့အတွက် ငွေကြေးနှင့် ပတ်သက်သည့်အရေး

ထက် မောင်ဘဌေးကိုယ်တိုင်လာဖို့ အရေးက ပို၍ကြီးကြောင်း စဉ်းစား မိခြင်းဖြစ်တော့သည်။ ဤသို့ စာရေး၍ငွေပို့လိုက်ခြင်းကြောင့် သေခါနီး လူမမာအဖို့ ကျေနပ်နိုင်ဖွယ်မဟုတ်သည့်အပြင် တွေ့လိုစိတ်နှင့် အပြင်း အထန် တောင့်တနေသော သားအစစ်၏ခြေရာပါ ပျောက်ကွယ်သွား ကြောင်း သိသည်နှင့်တစ်ပြိုင်နက် နှလုံးတွင် ထိခိုက်ကာ ရင်ကွဲနာကျ သွားမည်ကိုပင် စိုးရိမ်ရလေသည်။ ထို့ကြောင့် မိမိ၏ စေတနာမှာ သူ တစ်ထူးအတွက် ဝေဒနာမဖြစ်စေလိုသည့်စိတ်နှင့် ရေးပြီး စာရှက်ကို ဆုတ်လိုက်ရပြန်တော့သည်။

*

ကိုဘဌေး အမြန်လာပါ။
မိခင်ကြီး မျှော်လင့်ချက် မရှိ။
သတိလည်လာတိုင်း တောင့်တနေသည်။

ဤတစ်ကြိမ်ကား စာမဟုတ်တော့။ အမြန်ရိုက်လိုက်သော သံကြိုး ဖြစ်လေသည်။ ထိုသံကြိုးမှာ စာများနှင့် လေးရက်တိတိသာ ကွာခြား၍ ရောက်လာခြင်း ဖြစ်သည်။ မောင်ဘဌေးသည် ဘောလုံးပွဲပြီးသွားသည့် တိုင်အောင် ရင်းညီမ်ကကိစ္စ ထူးထူးထွေထွေ ပေါ်ပေါက်လိုပေါ်ပေါက်ငြား သိရလို သိရငြား မန္တလေးသို့ မပြန်သေးဘဲ တမင်နေနေခြင်း ဖြစ်လေ ရာ ထိုနေ့ နေ့လယ် သံကြိုးရသောအခါ ကိုယ့်မိခင်၏ အရေးကဲ့သို့ ရင်တွင်းတွင် ဒိတ်ခနဲ ဖြစ်သွားရရုံမျှမက ခေါင်းကြီး၍ သွားတော့သည်။

ဘဌေးသည် ဒုက္ခိတများ၏ အရေးတွင် ကူညီလိုလှသည်။ ထို့ကြောင့် မည်သို့ပင်ဖြစ်စေ သေခါနီး လူမမာတစ်ယောက်၏ ဆန္ဒကို ဖြည့်စွမ်းနိုင် အောင် စွန့်စားရန် စိတ်ပိုင်းဖြတ်လိုက်သည်။

မိမိမှာ မိခင်အရင်းငယ်စဉ်ကပင် ကွယ်လွန်ခဲ့လေသည်။ ထို့ကြောင့် မိခင်နှင့်ပတ်သက်၍ ကုသိုလ်ကောင်းကျိုးလည်း မှတ်မှတ်ရရ မလုပ်ခဲ့ရ။

ငွေတစ်သိန်း၊ တစ်သန်းချီ၍ လှူဒါန်းခြင်းသည် သားကို တောင့်တလွန်းသော ထိုမောင်ဘဌေးဆိုသူ၏ မိခင်အား သားအဖြစ်ဖြင့်ဝင်၍ နှစ်သိမ့်ခြင်းလောက် သူတစ်ထူး၌ စိတ်ကျေနပ်ခြင်းကြီး ကျေနပ်နိုင်မည်မဟုတ်။ ကိုယ်၌လည်း အကျိုးပေးတူချင်မှ တူပေမည်။

သေရအံ့ဆဲဆဲ လူမမာကလွဲလျှင် အခြားပုဂ္ဂိုလ်များအပေါ်၌ မိမိမှာ မန္တလေးဘဌေးဖြစ်ကြောင်း လွတ်လပ်စွာ ရှင်းပြောနိုင်ခွင့် ရလိမ့်မည်ဟု စိတ်ချသည်။ မိခင်ကြီးဆိုသူမှာကား မျက်စိလည်း ကွယ်ခဲ့ပြီ။ နားလည်း လေးနေသည်ဟု သိရပြီ။ သူ့အတွက်မှာကား သားဆိုလျှင် သားဟုပင် တစ်ထစ်ချယုံမှတ်အားရကာ ကူးသွားအံ့သောဘဝခရီးအဖို့ ကျေနပ်ပျော်ရွှင် လွတ်လပ်စွာ ယာယီရွှေ့နိုင်စရာ ရှိတော့သည်။ ထို့ကြောင့် ဘဌေးသည် ရင်းညိမ်ကို မနက်ဖြန် လိုက်သွားရန် ပြင်ဆင်တော့လေသည်။

ရှေးဦးစွာ သံကြိုးရုံးသို့ သွား၍ မန္တလေးတိုက်သို့ သံကြိုးတစ်စောင် ရိုက်လိုက်သည်။ အကြောင်းမှာ

ရင်းညိမ်သို့ ကိစ္စတစ်ခုအတွက် လိုက်သွားသည်။

စာတိုက်ဗိုလ်မှ တစ်ဆင့် ဆက်သွယ်ပါ။

ဟူ၍ ဖြစ်လျက် ရင်းညိမ်သို့ သံကြိုးတစ်စောင် မဝင်းနုနာမည်နှင့် ရိုက်လိုက်သေးသည်။

နံနက်ရထားနှင့် လိုက်ခဲ့မည်။

ဘဌေး

ဟူ၍ ဖြစ်သတည်း။ ဘဌေးအတွက် ထိုကိစ္စနှင့် မပြီးသေး။ လိုရမည်ရ အပိုငွေတစ်ထောင်လောက် ပါသွားနိုင်ရန် ဘဏ်တိုက်သို့ ပြေးရသေးသည်။ ထိုနေ့က တစ်နေ့လုံး ဘဌေးသည် သူ့မိခင်နှင့် တွေ့ရမလောက် စိတ်ကူး၍ ပျော်မိသည်။ မဖင်းနုဆိုသော မိန်းကလေးအပေါ်၌

လည်း ကရုဏာသက်သက်မျှဖြစ်သော စေတနာများက ရှေးရှုမိသည်။ ဘထွေးသည် မိဘကို ကိုယ်တိုင်မပြုစုလိုက်ရသဖြင့် လူလား မမြောက် တမြောက်အရွယ်က တစ်ယောက်နှင့်တစ်ယောက် ရှေ့ဆင့် နောက်ထပ် မျက်နှာလွှဲသွားခြင်း ခံရသောကြောင့် သူ၏မျက်မှောက်တွင် မိဘကို ရှိသေ လုပ်ကျွေးသော ပုဂ္ဂိုလ်အား အလိုလို ချစ်ခင် ရိုးမွမ်းတတ်ရုံမျှမက ထောက်ပံ့တတ်သေးသည်။ ရန်ကုန်လူအိုရုံနှင့် မင်းကွန်းဒေါ်ဦးစွန်း ၏ လူအိုရုံများသို့ပင် နှစ်စဉ်ငွေ တစ်ထောင်စီ လှူဒါန်းမြဲ ဖြစ်လေသည်။ မကြာမကြာလည်း ငါလို အကောင်က မပြောနဲ့။ သောတာပန်ဖြစ်နေတဲ့ သိကြားမင်းကြီးကတောင် လှူပြည်ကို ဒီလိုပြုစုတဲ့လူတွေကြောင့် တစ်နေ့ သုံးခါ ရှိခိုးရသေးတာပဲဟု အောက်မေ့ဆင်ခြင် ကုသိုလ်စိတ်တွေ ဝင်မိ သည်။ ထို့ကြောင့် မဝင်းနုဆိုသူအား မမြင်သာခင်က ကြင်နာမိလေသည်။

ထိုနေ့ည တစ်ညလုံး ဘထွေး အိပ်မပျော်နိုင်တော့ချေ။ မရောက်ဖူး သော ရပ်ရွာကလေးကိုလည်းကောင်း၊ မမြင်ဖူးသေးသော မဝင်းနုဆိုသူ မိန်းကလေးကိုလည်းကောင်း ထိုမှတစ်ပါး အိပ်ရာထဲတွင် တတမ်းတတ မျှော်မှန်းဆနေရှာမည်ဖြစ်သော အမယ်အိုကြီး၏ ရုပ်ရည်သဏ္ဌာန် အနေ အထိုင် ပတ်ဝန်းကျင် စသည်တို့ကို စိတ်ကူးနှင့် တွေးကြည့်မိခြင်းပင် ဖြစ်တော့သည်။ ထိုကြားထဲတွင် (မင်းလိုသားမျိုး ငါမမွေးတာဘဲ ကျေးဇူး တင်ပါသေးသကွာ)ဟု ရေးဝံ့သည့် ဆေးဆရာကြီး ဦးမှိုဆိုသူကိုပါ ရော်ရမ်း၍ အင်္ဂါရုပ်ကို ကြည့်မိသေးသည်။ ထိုအဘိုးကြီးမှာ မိရိုးဖလာ ဆေးဆရာကြီးပီပီ အသက်အရွယ်ထောက်၍ သိက္ခာ သမာဓိကြီးမားကာ လူတစ်ဖက်သားအား အားမနာတမ်း ဝေဖန်လေ့ရှိလိမ့်မည်ဟု ယူဆသည်။ ထို့ကြောင့် ရောက်လျှင်ရောက်ချင်း ရှင်းလင်းလိုက်မည် စသည်တို့ဖြင့် ကြံမိးဝါးမိသေးသည်။ ထိုမှတစ်ပါးလည်း

"သည်ကနေ့ညအဖို့ သားအမိနှစ်ယောက်စလုံး သံကြိုးရလို့ အတော်ပျော်နေရှာကြမယ်။ နက်ဖြန်ခါ ရထားဆိုက်သံကို နားစွင့်နေကြရှာမှာပဲ။ အတော်သည်းနေတဲ့ လူမမာတောင် ခေါင်းထောင်ပြီး ထ နိုင်လောက်တဲ့ သံယောဇဉ်များဟာ တကယ်ကြီးပါကလား"ဟု ညည်းတွားမိသေးသည်။

*

နောက်တစ်နေ့ မော်လမြိုင်ရထားနှင့် ပါခဲ့ရသော ဘဒ္ဒေးတွင် ပဲခူးက လွန်ခဲ့ပြီးသည့်နောက် မုပ္ပလင်၊ ကျိုက်ထို၊ နှင်းပုလဲတို့ကို ဖြတ်လာခဲ့ရသည့် အချိန်မှစ၍ ရင်တွင်း၌ တဒိတ်ဒိတ် ခုန်နေပေ‌ဘာ့လေ၏။ သထုံ၊ အောင်ဆိုင်တို့ကို ရောက်ပြီးသည့်နောက် ဤတစ်ခါ ရထားရပ်လျှင် ရင်းညိမ်ဟု ခရီးသွားများထံမှ သိထားရပြန်လေရာ ရထားအရှိန်လျှော့၍ ဘူတာသို့ဝင်မည်ပြုသောအခါ အလိုလို စိတ်လေး၍လာမိတော့သည်။

"ငါ့ဥစ္စာ နေရာမှကျပါမလား။ တော်တော်ကြာ သူများအားခုတ်ရာ လက်ဝင်လျှိုသလိုများ ဖြစ်နေမလား ဝါဆတ်ဆော့ပြီး လိုက်လာမိတာ အမှုမရှိ အမှုရှာသလို ဖြစ်နိုင်တာမျိုးပဲ"ဟု ချီတုံချတုံ ဖြစ်နေစဉ်ပင် ဘူတာကလေးသို့ ရထားဆိုက်တော့သဖြင့် ယောင်ပေပေနှင့် ဆင်းလိုက်ရတော့သည်။ ရင်းညိမ်ဆိုသော ဘူတာကလေးမှာ ရန်ကုန်မှ ၁၄၂ မိုင်ဝေး၍ စိမ်းလန်းစိုပြည်သော ရွာကလေးကို နောက်ခံပြုကာ သေးငယ်လှင့်ကစား အတော်သာယာစိုပြည်နေချင်စဖွယ်ကလေး ရှိလေ၏။ ထိုဘူတာတွင် ဆင်းသူဟူ၍ များပြားစွာ မရှိလှ။ အလုပ်ကြမ်းသမား ရွာသားနှင့်တူသော ယောကျ်ားလေးငါးယောက်နှင့် ဈေးသည် မိန်းမကြီး သုံးလေးဦးမျှသာ တွေ့ရလေသည်။ ဘဒ္ဒေးသည် စကြိုသမံတလင်းပေါ်တွင် မဝင်းနဆိုသော မိန်းကလေးလာ၍ ကြိုလိုကြိုငြား စောင့်စား မျှော်ကြည့်မိသေး

သည်။ သို့သော် မိန်းကလေးတစ်ဦး တစ်ယောက်မျှ မတွေ့ရ။ ဤသို့ဖြင့် ရွာတွင်းသို့သွားရလျှင်လည်း ကိုယ့်လိပ်ပြာကိုယ်မလုံစရာ ကောင်းလှသည်။

"ဟော့ မင်း မောင်ဘဌေးလားကွဲ့"

ဘဌေးသည် စဉ်းစား ငေးမောနေရာက မေးသံကြား၍ ကြည့်လိုက်မိသည်။ အသက်ခြောက်ဆယ်ခန့်၊ ဆံပင်ဖြူဖြူ ခေါင်းပေါင်းအနက်တွင် အဖြူဖောက်ပေါင်း၍ ခပ်သန့်သန့်မာမာ လူကြီးကို တွေ့လိုက်ရသည်။ ဆံပင်တွင်မက မျက်ခုံးမွေးကြီးများပင် ဖြူနေလျက် သွားလည်း အနည်းငယ် ချို့ယွင်းနေပုံရသည်။ စူးရှသောမျက်လုံးနှင့် နဖူး ခပ်ကျယ်ကျယ်မှာ ပညာရှိကြောင်း သိသာသည်။ သူသည် ဆီစိမ်လုံချည် ရေနံရောင်ကိုဝတ်ကာ ပင်နီဖြူအပေါ်ရင်ဖုံးနှင့် ဖြစ်သည်။

"ဆရာမှိုလား ခင်ဗျာ"ဟု ဘဌေး ဖြန်းလိုက်သောအခါ

"အေး မင်းသာ ငါက ကောင်းကောင်း မမှတ်မိတာ။ ငါတော့ မင်း အမှတ်မိသားပဲ"ဟု ရှီးမွှမ်းစကားမျိုးထွက်လာသော်လည်း ဘဌေးကို နှစ်လိုအားရ ဝမ်းသာလှသော တွေ့ခြင်းမျိုး မပြ။

"အင်း မင်းတို့လူငယ်တွေကတော့ မှတ်မိပေမပေါ့ကွာ။ ငါ့မှာတော့ မျက်စိတွေတောင် နည်းနည်းသိပဟော့။ အား အနိစ္စ အနိစ္စ မင်းအမေ မငြိမ်းသာနဲ့ ငါနဲ့ တစ်ရွာတည်းကိုကွ။ ကဲ ကဲ ငါဘုံပြတ်ပါလာတယ်။ သွားစို့ သွားစို့"

အဘိုးကြီး ရှေ့ဆောင်သွားရာသို့ ဘဌေးလိုက်ခဲ့မိသည်။ ဘဌေးသည် စောစောစီးစီးက ဖွင့်ပြောထားရကောင်းလေမလားဟု စဉ်းစားရင်း လိုက်ခဲ့ရာမှ ဘူတာအပြင်တွင် မြင်းလှည်းကလေးတစ်စီး ရပ်ထားသည်ကို တွေ့ရလေသည်။ မြင်းမှာလည်း ခပ်ပိန်ပိန်၊ ရထားကလည်း ခနော်နီ

ခနော်နဲ့ပင် ရှိသောကြောင့် ဆရာကြီး၏အခြေအနေကို တွေးကာ သနားမိတော့သည်။ ဆေးဆရာကြီးသည် မြင်းကို တိုင်တစ်တိုင်၌ ချည်ထားရာမှ ဖြုတ်၍ လှည်းကလေးကို ကိုယ်တိုင် ခပ်ဖြည်းဖြည်းပင် မောင်းနေတော့သည်။ မြန်မြန်မောင်း၍လည်း သူ့လှည်းနှင့် သူ့မြင်း အလျင်း ဟန်ကျမည် မဟုတ်။ ထိုသို့ မောင်းနေရာက ခဏကလေး အကြားတွင်

"ဘဌေး ဘဌေး မင်း အတော်မိုက်တဲ့ ကလေးပဲ"ဟု နိဒါန်း ပျိုးလေတော့ရာ ဘဌေးတွင် မျက်နှာပူသလိုလို တွေး၍ ရယ်ချင်သလိုလို ဖြစ်သွားတော့သည်။

"မင်း အမေကြီးဟာ ချမ်းသာကတည်းက မင်းကို အလိုလိုက်ခဲ့ တယ်။ အင်း အလိုလိုက်လွန်းလို့ ပျက်စီးတာပေါ့လကွယ်။ သထုံ အင်္ဂလိပ်ကျောင်း ထားတယ်။ မင်း ကျောင်းပြေးတယ်။ ဘူတာရုံမှာ ကလေကဝ နေချင်တယ်။ မိဘ ပိုက်ဆံဖြုန်းတယ်။ ငယ်ငယ်ရွယ်ရွယ် ကလေးနဲ့ အရက်သောက်တတ်တယ်။ ဟင်း မင်း ဒီတုန်းက ဆယ့်လေး ငါး နှစ်လောက် ရှိဦးမယ်။ မင့်အတွက်နဲ့ မင်းအမေဟာ မျက်ရည်ပေါက် ကြီးငယ် ကျရတဲ့အခါပေါင်း များလှပြီ။ မိဘစိတ်မချမ်းသာအောင်လုပ်တဲ့ လူဟာ ဘယ်ကောင်းမလဲကွာ"ဟု လူကြီးသံနှင့် ကြိမ်းတော့သည်။ ဘဌေးသည် ငြိမ်ငြိမ်သက်သက်နှင့် ဆက်၍ နားထောင်နေမိသည်မှာ မငြင်းလို၍ မဟုတ်။ သူတို့၏ဘဌေး အဘယ်လောက်ထိ ဒုက္ခပေးသနည်း ဟု သိလို၍ ဖြစ်၏။ အဘိုးကြီးကား ဖြည်းဖြည်းချင်း သွားနေသော မြင်းချုန်းကို တံပျာကလေးနှင့် တို့ကာ တို့ကာ မနာမကျင် သတိပေးနေရ သေးသည်။

"ဟို ဝင်းနက‌လေးဟာ အငယ်သာ ဖြစ်တယ်။ မိဘကိုချစ်တဲ့ နေရာ ပြုစုတဲ့နေရာမှာ မင်းထက် အဆတစ်ရာလောက်သာတယ်။ ဟာ မင်းနဲ့ နိုင်းလို့တော့ မဖြစ်ပါဘူးလေ။ မင်းက နိုင်းမှ မနိုင်းလောက် တော့ဘဲ"

အဘိုးကြီးသည် ပြောရင်း ဒေါသဖြစ်လာသကဲ့သို့ တံထွေးကို ထွီခနဲ မြင်းလှည်းကို ကျော်၍ ပစ်ထွေးလိုက်သည်။

"မင်း ထွက်ပြေးတော့ ကလေးမကလေး ခုနစ်နှစ်လောက် ရှိသေးတယ် မဟုတ်လား။ အဲ ငယ်ပင် ငယ်ပေမယ့် မအေကြီးနဲ့ ဒိုးတူ ပေါင်ဖက် လက်ကတုံးတောင်ဝှေး ကူညီဖော်ရတယ်။ မင်းလို အင်္ဂလိပ် ကျောင်းတောင် နေရရှာတာ မဟုတ်ဘူး။ မြန်မာကျောင်းမှာပဲ ဆယ်တန်း အထိ စာသင်ပြီး ဆရာဖြစ် စာမေးပွဲဝင်၊ အောင်တော့ ဆရာလုပ်ပြီး မိဘကျေးဇူးဆပ်ရှာတယ်။ သူတစ်ယောက်သာ ပြုစုမယ့်သူမရှိရင် မခက်ပါလား။ မင်းတို့မှာလဲ အရင်ကလို ကြွယ်ပိုး ကြွယ်ဝ ရှိတော့တာ မဟုတ်ဘူးကွ။ အခု အိမ်နဲ့ ခြံကြီးကို ပေါင်ထားရပြီ။ ဒါလဲ နေ့ဆုံး မလား၊ ညဆုံးမလားဘဲ ဘယ် အရင်းနေနေသာသာ အတိုးမှ မဆပ် နိုင်တော့ ငွေရှင်က ကြည့်နေမှာ မဟုတ်ဘူးကွ။ ကောင်မကလေးမှာ ကျောင်းလခကလေး ရအောင် ပြေးသင်လိုက်ရ၊ မအေ မမာတာ ပြုရ၊ အခု တစ်နှစ်ကျော်ကျော်ကြီး ရှိပြီ။ ဒီကြားထဲ မင်းသတင်း ကြားလိုက် ရတာက တော်တော်ကြာ မသက်သာမှုနဲ့ အချုပ်ခံရပြန်ပြီ။ တော်တော် ကြာ လုယက်မှုနဲ့ အဖမ်းခံရပြန်ပြီဆိုတော့ မင့်အမေ မလဲပဲ ဘယ်ခံနိုင် ပါ့မလဲ"

ဘဒွေးသည် ဤမျှလောက် အောက်တန်းကျသူနှင့် အထင်မှား ခံရခြင်းကိုကား ရှက်ကြောက်လာတော့သည်။ ထို့ကြောင့် နောက်ကနေ ၍

"မဟုတ်ဘူး ဆရာကြီး။ ကျွန်တော် ပြောဦးမယ်။ ဒီမှာ" ဟု ပါးစပ်က လိုက်၍ မဆုံးမီ

"အံမာ မင်းက ငါ့ကို ဘာပလီဦးမလို့လဲ။ ရန်ကုန်နဲ့ ရင်းညီမ် ဘယ်လောက်ပေးတာမို့ မင်းသတင်းမကြားဘဲ နေရမှာလဲ"ဟု ပြောပြော ဆိုဆို မြင်းပိန်ကလေးကို ဒေါသနှင့်မဲ၍ တစ်ချက် ရိုက်လိုက်သော ကြောင့် မြင်းကလေးက လန့်၍ အခုန်လိုက်တွင် လှည်းကလေးက အပေါ်သို့ဆောင့်တက်သွားသည်နှင့် ဘဒွေးတွင် ကသိကအောက်ကြားက စကား မဆက်နိုင်တော့ပေ။

"ဒီမှာ မအေနဲ့ နမ ဘယ်လောက် ဒုက္ခ ဖြစ်နေသလဲဆိုတာ ဆယ့်ငါးနှစ်လုံးလုံး လူတော့ တစ်ခေါက်မှ ပြန်မလာ။ ငွေကိုသာ ဟိုကနေ မှာ၊ ဒီကနေ မှာနဲ့။ အင်း ဟိုတစ်နေ့ကမှ အလုပ်ဝင်လုပ် နေပါပြီဆိုတဲ့ စာရသတဲ့။ ဝင်းနက လာပြောလို့ သိရတယ်။ အလုပ်ရတဲ့ ကောင်ကလားကွာ မအေ့ဆီ ငွေထပ်မှာရတာ။ ဒီမှာဖြင့် သင်္ဂြိုဟ်ဖို့ စရိတ်တောင် မရှိလို့ ကောင်မကလေး မျက်ရည်နဲ့ မျက်ခွက် သူ့ခမျာမှာ အသေကျပ်၊ အနေကျပ် ဖြစ်နေရတဲ့အထဲ ငွေကလေးများ ပို့လိုက်မလား အောက်မေ့ပါ မင်းကပဲ ငွေမှာလိုက်ရသေးတယ်"ဟု ပြောရာက ဆရာကြီးက တစ်စုံတစ်ခုကို ဖြုန်းခနဲ အမှတ်ရသကဲ့သို့ ဘဒွေးရှိရာသို့ လှည့်ကြည့်လိုက်ပြီးမှ

"အံ့ အံ့ အံ့ပါ့ကွာ။ မင်း ကြည့်လိုက်တော့ ဘန်ကောက် လုံချည်နဲ့ ရွှေလက်ပတ်နာရီနဲ့ ပြောင်ပြောင်လက်လက်"

"မဟုတ်ပါဘူး။ ကျွန်တော် ပြောပါရစေဦး ဆရာကြီးရဲ့"

"အေးလေ၊ ခိုးလို့ ရရ၊ တိုက်လို့ရရပေါ့ကွာ။ မိဘာဆိုတာ"

"မဟုတ်ဘူး မဟုတ်ဘူး။ ဆရာကြီး အခု ပြောတာတွေ"

"အေးလေကွာ၊ အကြံအစည် အပေါက်အလမ်း တည့်တယ်ပဲထား ပါတော့။ ငါ့စကား လွန်သွားတာ ငါ သိပါတယ်။ ကဲ ကဲ ဟောဟိုမှာ မင့်နှမ၊ မှတ်တောင် မှတ်မိသေးရဲ့လား"

အဘိုးကြီးပြရာသို့ ကြည့်လိုက်ရာ ခြံဝသို့ ထွက်၍ မျှော်နေပုံ ရသော အသက်နှစ်ဆယ်ကျော်လောက်ရှိသည့် မိန်းကလေးကို တွေ့ လိုက်ရသည်။ အဘိုးကြီးကို ရှင်းနေမယ့်အစား ကောင်မလေးတွေ့မှ အေးအေးဆေးဆေး ရှင်းပြတော့မည်ဟု အောက်မေ့လိုက်သည်။ မဝင်းနုဆိုသူကလေးမှာ အသားဝါဝါ ကိုယ်ကာယ ဖျတ်ဖျတ်လတ်လတ် နှင့် သူမ၏ ဆယ့်ငါးနှစ် လုံးလုံး အကွဲကြီးကွဲနေသော အစ်ကိုကြီးကို ပူပင်သောကဗျာပါဒ များစွာဖြင့် ဆီးကြို မျှော်ခေါ်နေဟန်ရှိလေ၏။ မြင်းလှည်းကလေး ခြံဝသို့ ရောက်သည်နှင့် တစ်ပြိုင်နက် လေးငါးလှမ်း လောက် အရေးတကြီး အပြေးလာတွေ့သည်တွင် သန့်ပြန့်ထည်ဝါသော ဘဒ္ဒေး၏ ရုပ်လက္ခဏာနှင့်အဝတ်အစားများကြောင့် အနည်းငယ်ဟန့်ကာ ရှုံ့တွန့်တွန့် ဖြစ်သွားရှာတော့သည်။ ဘဒ္ဒေးသည် မြင်းလှည်းပေါ်မှ ခပ်ဆိုင်းဆိုင်း ဆင်းမိလေ၏။

"ကဲ ဝင်းနု နင့်အစ်ကိုကြီး လူမိုက်ကို" ဟု ဆရာကြီးက ပြော လိုက်မှ ဝင်းနုတွင် သံသယကင်းသွားသကဲ့သို့ ရဲရဲတင်းတင်း ဘဒ္ဒေး၏ လက်နှစ်ဖက်ကို ဆွဲကာ

"နေရက်ပါပေ့ အစ်ကိုကြီးရယ်။ နေရက်ပါပေ့"ဟု ကြုံကြုံပြ အောင် ငိုလိုက်လေ၏။ သူမ၏ မျိုသိပ်ခဲ့ရသော ဒုက္ခသောကဗျာပါဒတို့ ဖြင့် ရောပြွမ်းပြည့်နှက်နေသောပရိဒေဝအိုးကြီးမှာ ဘဒ္ဒေး၏ ဆိုက်ရောက် မှုကြောင့် လတ်တလော ပေါက်ကွဲသွားပုံမျိုး ရှိတော့သည်။ မွန်အမျိုး အနွယ်ပီပီ နွဲ့နွဲ့နှောင်းနှောင်းနှင့် စကားကလေး ဝဲတဲတဲမှာ သနားကြင်နာ စရာ ကောင်းလှသည်။ ဘဒ္ဒေးသည် မိမိလက်ကို လွတ်ထွက်သွားအံ့

စိုးသကဲ့သို့ တင်းတင်းကျပ်ကျပ် ဆုပ်ကိုင်ရင်း ငိုနေသော မဝင်းနုကို မြင်ရသောအခါ သူကိုယ်တိုင် မချိတရိဖြစ်မိသည်။ သို့သော် သူတို့၏ ဘဒ္ဒေးအဖြစ်ဖြင့် နှစ်သိမ့်ရမည်လော၊ ကိုယ်ပိုင်ဘဒ္ဒေးအဖြစ်ဖြင့် အားပေးရမည်လောဟု စွေးတောရင်းသာ အချိန်ကြာခဲ့ရလေသည်။

"မဟုတ်ဘူး ကလေးမ။ ငါ တစ်ခု ပြောဦးမယ်"

"အစ်ကိုကြီးလေ၊ အစ်ကိုကြီး၊ အစ်ကိုကြီး လူကို အခုထက်ထိ ကလေးမလို့ ခေါ်တုန်းပဲ ရှိသေးတယ်နော်။ ကဲ ကဲ၊ လာ လာ မေမေ့ကို ဝင်ကြည့်ပါဦး။ မနက်ကများဖြင့် အသက်မှ မီပါဦးမလား အောက်မေ့မိတယ်။ သူ့ ခများ သားရဲ့ဓောက ဘယ်လောက်များ သန်နေသလဲဆိုရင် ရထားဝင်လာတဲ့ ဥသြသံလဲ ကြားရော၊ ဟော ငါ့သားကြီး ပြန်လာပြီ ဆိုပြီး ခေါင်းထောင်ထတာပဲ။ သို့ပေမဲ့ သို့ပေမဲ့ မေမေတော့ ဒီတောင်က ကျော်တော့မှာ မဟုတ်ပါဘူးအစ်ကိုကြီးရယ်" ဟု အဆုံးသတ်တွင် အားလျှော့စကားပြောကာ ဘဒ္ဒေးကို လက်မောင်းတ ကိုင်၍ အတင်း ဖွတ်ခေါ်ဆောင်သွားလေ၏။

ပျဉ်ထောင်၊ သွပ်မိုးလေးပင်သုံးခန်း ကျွန်းအိမ်ကြီးသည် ယခင်အခါက အတော်ထည်ထည်ဝင့်ဝင့် ခမ်းနားခဲ့ရပုံ ပေါ်လေသည်။ ဆင်ဝင်ကြီးမှာ အနည်းငယ်ပင် ချို့ယွင်းပျက်စီးနေပြီ ဖြစ်သော်လည်း ပြင်ဆင်မွမ်းမံခြင်းမရှိသောကြောင့် အိမ်ရှင်များ၏ အခြေအနေကို သိနိုင်လေသည်။ မဝင်းနုတို့မှာ ပထမက အတော်ကလေး ကြွယ်ဝခဲ့ဖူးကြောင်း ရိပ်မိနိုင်တော့၏။ အိမ်ထဲသို့ ရောက်သွားသောအခါ အိမ်ထောင်ပရိဘောဂများများစားစား မတွေ့ရ၊ နည်းနည်းနှင့် ကျဲကျဲဝိုင်းထားရဟန်ဖြင့် မရှိလျှင်မဖြစ်သည့် ပစ္စည်းအချို့ကိုသာ တွေ့ရသည်။

အိမ်ခေါင်းရင်းဘက်ခပ်ကျကျ အခန်းကြီးတစ်ခန်းတွင် မဝင်းနု၏ မိခင်ကြီး လားရာဂတိကို ငံ့မျှော်နေရာ ဌာနဖြစ်တော့သည်။ အခန်းတွင်း

သို့ မဝင်းနုနှင့် ရှေ့ဆင့်နောက်ဆင့် ဝင်မိသောအခါ ကြီးမားသော ကျွန်းခုတင်အပေါင်းကြီးပေါ်တွင် အသက်ခြောက်ဆယ်ခန့် လူမမာကို မြင်ရ၏။ အဘွားကြီးသည် မိန်းမောနေဟန်ရှိလေ၏။ သူ၏ ညှိုးရော်သော အရေအသားနှင့် ပိန်လှီသော ကိုယ်ကာယသည် အိမ်ကြီး၏ မသစ်လွင်သော မျက်နှာကြက်ကို ရင်ဆိုင်ပြုလျက်ရှိကာ နက်ရှိုင်းသော မျက်ကွင်းနှစ်ခုမှာလည်း စုံမှိတ်ထားလျက် ရှိတော့သည်။ ပျို့မျစ်နုနယ်စဉ်က လှပချောမွေ့ခဲ့ဟန်တူသော မွန်ရည်သည့် အသွေးသည်ကား သေဘေးနှင့် ယှဉ်ပြိုင်၍နေရသည့်တိုင် အကြွင်းမဲ့ပြောင်းလဲ လွင့်စဉ်ကုန်ကြသည် မဟုတ်သေး။ အဘွားကြီးသည် ခြောက်သွေ့သော နှုတ်ခမ်းကို လျှာဖျားနှင့် အားယူ၍ လိမ့်နေရှာတော့သည်။ ဘဒ္ဒေးသည် ခြေဖျားထောက်ကာ တစ်လှမ်းချင်း တိုးမှန်းမသိ တိုးသွားမိသည်။ မျက်ရည်တွေ ဥလျက် တထိတ်ထိတ်ကြည့်ရှုနေရဟန်တူသော မဝင်းနု၏ မျက်စိသည် ဘဒ္ဒေး၏ အမူအရာနှင့် မိခင်ကြီး၏မျက်နှာဆီသို့သာ ကူးသန်းနေတော့လျက် အပါးတွင် ရပ်နေသော ဆေးဆရာကြီးဦးမှိုမှာကား လက်ပိုက်လျက်နှင့် အဘွားကြီး၏ မျက်နှာကိုသာ ကသိုဏ်းရှုသလို ရှုရင်း မလှုပ်မယှက် မားမားကြီး တည်ရှိလေသည်။

“မေမေ၊ မေမေ အစ်ကိုကြီး ရောက်လာပြီလေ”ဟု မဝင်းနုက ခုတင်ဘေးတွင် ဒူးထောက်၍ အဘွားကြီး၏ နားနားသို့ကပ်၍ ပြောလိုက်သောအခါ လူမမာ မျက်စိတဖြည်းဖြည်းပွင့်လာသည်ကို တွေ့ရလေသည်။ ဘဒ္ဒေးသည် ဖြူဖတ် ဖြူရော်ဖြစ်နေသော မျက်နက်သူငယ်အိမ်များကို မြင်ရခြင်းကြောင့် အမယ်အိုမှာ ဆရာကြီး ဦးမှိုပြောသကဲ့သို့ စက္ခုပသာဒ ချို့ယွင်းနေကြောင်း ကောင်းစွာ သိထားလေတော့သည်။ သို့သော် နားက အတော်အသင့် ကြားရသေးသော လက္ခဏာနှင့် နွမ်းနယ်နေသော လက်နှစ်ဖက်ကို အားယူကာ ဆန့်တန်းလျက်

"သား သား မေမေ့သား" ဟု ရေရွတ်နေရှာသည်။ အမေကြီး၏ အသံမှာ လောဘတကြီးဖြင့် အာသာငင်ငင် နှလုံးတွင်းမှ ထွက်လာသော မရိုးတရိုအသံမျိုး ဖြစ်လေ၏။ ဘဒ္ဒေးသည် ကိုယ့်ဘဝကို ကိုယ်မေ့၍ ဆောက်တည်ရာမတွေ့ ဖြစ်သွားတော့သည်။ သေလုနီးပါး ဖြစ်သော မိခင်၏ စေတနာ၊ မေတ္တာမျိုးကို မမြင်ရက် မရှုရက်အောင် မျက်စိအောက်၌ တွေ့ရသောအခါ မန္တလေးဘဒ္ဒေးဘဝမှ သူတို့ဘဒ္ဒေး အဖြစ် ဘဝပြောင်း သွားသလောက် ထိခိုက်မိတော့သည်။ ထို့ကြောင့် ခုတင်တစ်ဖက်က ဒူးထောက်ကာ အဘွားကြီး၏ လက်တွင်းသို့ လည်ပင်းတစ်ခုလုံး ဝင်လိုက် ပြီးကာ မျက်ရည်လည်ရွဲနှင့် ပွေ့ဖက်မိရုံမျှမက ပါးစပ်ကလည်း

"အမေ အမေ ကျွန်တော် လာပါပြီ အမေ" ဟု အလိုအလျောက် ထွက်သွားမိသည်။ ထိုအသံသည်လည်း ငိုရှိုက်တော့မတတ် ဖြစ်နေလေ ၏။

အမေကြီးသည် ရှိသမျှ ကြွင်းသမျှသောအင်အားကလေးကို အကုန် သုံးလိုက်သကဲ့သို့ ပက်လက်မှ အားယူ၍ ထလိုက်လေသည်။ ဘဒ္ဒေးသည် လည်း ကြင်နာခြင်း ပြင်းပြစွာဖြင့် မိခင်ကြီး၏ ကျောကို မခွာရက်သကဲ့သို့ လက်နှင့်သိုင်းကာ ဖက်ထားမိလေသည်။ မဝင်းနုကို ကြည့်လိုက်သော အခါ အကြီးအကျယ်နှောင်တရလာကာ မကြင်နာစဖူး ကြင်နာလှ သော သူမ၏ အစ်ကိုကြီးကို ယူကျုံးမရဟန်နှင့်ကြည့်ကာ တတွေတွေ ကျဆင်းလာသော မျက်ရည်များကို သုတ်၍ ကျိတ်ရှိုက်နေတော့သည်။

ဆေးဆရာကြီး ဦးမှိုကား သားအမိများ၏ ဖြစ်ပုံကို အာရုံ မျက်မြင် မတွေ့ချင်သကဲ့သို့ သက်မကြီးတစ်ချက်ချကာ ခုတင်အနားမှ ခေါင်းငိုက်စိုက်ဖြင့် မျက်နှာ လွှဲသွားရှာလေသည်။ အဘွားကြီးမှာကား မိမိရင်ခွင်တွင် အပ်ထားရသည့် သားမှာ တစ်ဆယ့်ငါးနှစ်လုံးလုံး ကွဲကွာနေရသောသားအစစ်ဟု ယုံကြည်ကျေနပ်၍ နေရုံမျှမက ယခုတွေ့ရ

သောအချိန်မှာ သူ့ခန္ဓာမှ အသက်မထွက်သမျှ မလွှတ်လိုတော့သကဲ့သို့ ဖွတ်တွယ်ထားတော့လေသည်။

"အားတင်းပါ အမေ ကျွန်တော် ပြန်လာပါပြီ။ ဘာမှ ပူစရာမရှိတော့ပါဘူး" ဟု ဘဒွေးသည် ဟန်ဆောင်၍ ပြောဆိုနေထိုင်ရန် ရည်ရွယ်ကာ ပြောဆိုလာခဲ့ခြင်း ဖြစ်သော်လည်း မိမိ၏ ဓာတ်ကွက်တွင် စိတ်ပါလက်ပါဝင်ရောက်ကပြနေရသော ဓာတ်မင်းသားကဲ့သို့ လှိုက်လှိုက်လှဲလှဲ ဖြစ်နေတော့သည်။

"သား သား လိမ္မာလှချည်လား သားရဲ့"

"ကျွန်တော် လိမ္မာလာပြီ အမေ။ အမေကို ငွေနဲ့စက်ပြီး ကုယူမယ်။ အကောင်းဆုံးဆေးတွေ၊ အတော်ဆုံးဓာတ်စာကို ကမ္ဘာပေါ်မှာ မရရအောင် ရှာပြီးကို ယူမယ်။ အမေ မသေရဘူး။ စိတ်ချ အမေ မသေရဘူး"

"အမယ်လေး သားရဲ့ သား သား"

အဘွားကြီးအဖို့ တစ်ခါမျှ မမျှော်လင့်ခဲ့ဖူးသောစကားများ ကြားရခြင်းကြောင့် ဝမ်းအသာလွန်သော ပီတိသည် အဆောက်အအုံ ကြီးမားလေးလံလှလွန်းသည်။ ထိုပီတိ၏ လှုပ်ရှား ဆောင့်ကန်မှုကို ယိမ်းယိုင်ယိုယွင်းနေသော ခန္ဓာကိုယ်နှင့် ချို့ငဲ့ဖောက်ပြန်နေသော ဟဒယအိမ်၌ ခံနိုင်စွမ်းရည်မရှိတော့သောကြောင့် တစ်သိန်းမက တစ်သန်းမက ဝမ်းသာအားရ ပြောချင်လှသည့် စကားလုံးများအစား သား သား ဟူသော နောက်ဆုံး စကားလုံးနှစ်လုံးနှင့်သာ ဘဒွေး၏ လည်ပင်းကို ဖက်ရင်းကွယ်လွန်သွားတော့လေရာ အရိပ်အကဲကို တဒိတ်ဒိတ်နှင့် စောင့်ကြည့်နေရှာသည့် မဝင်းနု၏ ငိုသံကား တစ်ခန်းလုံး လွှမ်းခြုံအုပ်စိုး၍ သွားတော့လေ၏။

"အင်း သွားရှာပလား မငြိမ်းသာရယ်"ဟု ညည်းတွားရင်း ဆရာကြီး ဦးမှိုက အနားကပ်၍ သေသေချာချာ ကြည့်ရှာသည်။

ဖွဲ့ဖွဲ့နွဲ့နွဲ့နှင့် ကံဆိုးသမျှ ဒုက္ခတွေကို တ ကာ တ ကာ ငိုနေရှာသော မဝင်းနု၏အသံကို ကြားရသည်မှာ ဘဌေး၏ရင်ထဲတွင် နင့်ခနဲ နင့်ခနဲ ဝင်၍ စူးတော့သည်။ ထို့ကြောင့် အဘွားကြီး၏ လက်များကို အသာအယာဖြေချ၍ ခုတင်ပေါ်တွင် နေသားတကျဖြစ်မှ အခန်းအပြင်သို့ ထွက်ခဲ့ရသည်။

ဆရာကြီး ဦးမှိုသည် ဘဌေး၏နောက်မှကပ်၍ လိုက်ခဲ့သည်။ အိမ်ရှေ့ ဝရန်တာကို လက်တင်၍ ခြံအပြင်သို့ ကြည့်ရှု ငေးမောနေခြင်းကြောင့် ဆရာကြီးဦးမှိုကိုပင် သတိမထားမိချေ။

"မိဘကောင်းသား ခံရများ၏၊ သားကောင်း မိဘ ခံခဲလှ၏ဆိုတာ မင်းလိုသားမျိုး ပြောတာပေါ့ကွ ဘဌေးရ။ မင်းမရောက်တော့ မရောက် မရောက်နဲ့ မင်းရောက်တော့ ဝမ်းသာလုံးဆို့ပြီး သေရှာတာပဲ။ ကဲ ဒါတွေက အနိစ္စမို့ ထားပါဦး။ အခု ဘယ်ပုံစံ စီမံမယ် ကြံသလဲ။ အိမ်ကြီးတစ်လုံးမှာဖြင့် ချုံးတစ်ပြားမှ ရှိတော့တာ မဟုတ်ဘူး"

ဘဌေးသည် ဆရာကြီးကို လှည့်ကြည့်ရင်း ဖြည်းလေးစွာ အိတ်ထဲက နှိုက်၍ ငွေစက္ကူအသစ် တစ်ထောင်အုပ်ကို ဆရာကြီးလက်သို့ ထိုးထည့်လိုက်လေသည်။

"အဲဒါ အခုကိစ္စအတွက် သုံးဖို့ပဲ ဆရာကြီး။ ဒီအထဲက သူများ ကြွေးမြီအတိုအစ ရှိရင်လဲ ဆပ်နိုင်လောက်ရဲ့ မဟုတ်လား။ ကလေးမ ကလေးအတွက် လိုတဲ့ပစ္စည်းများလဲ ဝယ်ပါစေဗျာ။ ဆရာကြီးရဲ့ ဆေးဖိုး ဝါးခလဲ ကျွန်တော်က ပေးပါဦးမယ်။ ဆရာကြီး ဒီလို စောင့်ရှောက်လာခဲ့တာတွေလဲ ကျွန်တော် ကျေးဇူးတင်ပါတယ်"

ဆရာကြီး ဦးမှိုသည် ငွေတစ်ထောင်အုပ်ကို အားနည်းမှုန်ဝေသော သူ၏ မျက်စိကလေးများနှင့် အားရပါးရ ဖြကြည့်နေရာသည်။ သူ၏ လက်များသည်လည်း တဆတ်ဆတ်နှင့် တုန်ယင်လျက်ရှိတော့သည်။ သူသည် ဘဒွေး၏မျက်နှာကို ကြောက်ရွံ့တုန်လှုပ်သော မျက်နှာငယ် ကလေးနှင့် စိုက်၍ ကြည့်နေရှာသည်။ သူ၏ ပုံပန်းနှင့် အမူအရာ အားလုံးမှာ သူနှင့် မထိုက်တန်၊ မမျှော်လင့်ခဲ့မိသော ဆုလာဘ်ပကာကြီး ကို လှုပုံအလယ်၌ လက်ခံနေရသလို ရှိတော့၏။

"ကဲ ဆရာကြီး၊ ကလေးမနဲ့ တိုင်ပင်ပြီး လုပ်စရာရှိတာတွေသာ လုပ်ပါတော့"ဟု ဘဒွေးက စိတ်ရှုပ်သလိုပြောလိုက်သောအခါ အဘိုးကြီး တွင် ခေါင်းတဆတ်ဆတ် ညိတ်နေရင်းက

"ကောင်းပါ့ မောင်၊ ကောင်းပါ့၊ ကောင်းပါ့။ အင်း ကလေးမ ကလေး ဘယ်လောက်အားတက်ရှာမလဲကွယ်။ ငါ့တူ ဘုန်းကြီးပါစေ၊ သက်ရှည်ပါစေ"ဟု ညင်းပြောင်းသော အသံတုန်ကလေးနှင့် ပြော၍ ဘဒွေးအပါးမှ ခပ်ယိုယို ထွက်သွားရှာသည်။

ဘဒွေးသည် စိတ်ကူးတစ်မျိုး ပြောင်းနေလေ၏။ မူလက ဆရာ ကြီးနှင့်တကွ ကလေးမလေးကိုပါ အမှန်ကိုဖွင့်ပြော၍ ရန်ကုန်သို့ ပြန်မည် ဟု စိတ်ကူးထားရာ ယခုကား အားငယ်နေမည်ဖြစ်သော ကလေးမ တစ်ကောင်ကြွက်ကို ပြော၍မထွက်အောင် ရှိနေတော့လေ၏။ ထို့ကြောင့် ယခုနေကား သွား၍မဖြစ်။ ရေလိုက်ငါးလိုက်နေရန် ဆုံးဖြတ်လိုက်ရသည်။

ထိုအခိုက် ဘဒွေးသည် ခြံဝသို့ ခပ်ယိုင်ယိုင် လူတစ်ယောက် ဝင်လာသည်ကို တွေ့လိုက်ရလေသည်။ ထိုသူမှာ အဝတ်အစား ညစ်တီ ညစ်စုတ်နှင့် မသက်ာစရာ ကောင်းလှသည်။ တောအရပ်ဓလေ့အတိုင်း မသာအိမ်ကို လာရောက်ကူညီသလိုလိုနှင့် တွေ့ရာကို ဆွဲသွားမည့်လူစား

လားဟု ယိုးစွပ်မိသည်။ ဘဒွေးသည် ဝရန်တာမှ ဆင်း၍ ထိုလူရှိရာသို့ လျှောက်လာခဲ့လေ၏။ ထိုလူကား အရက်သောက်ထားကြောင်း သိသာနေသည်။ အနားသို့ ရောက်သည်နှင့်တစ်ပြိုင်နက် ဘဒွေး၏ ပါးစပ်မှာ ယောင်ယမ်း၍ ဟလိုက်မိအောင် အံ့ဩမိတော့သည်။

ထိုလူမှာ အခြား မဟုတ်။ လွန်ခဲ့သော လေး၊ ငါးရက်လောက်က ဘုံဘေဟိုတယ် မီမီအခန်းအတွင်းသို့ ပိုင်နက်ကျူးလွန်ခဲ့သော သူခိုးအငယ်စား အလစ်သမားဖြစ်ကြောင်း ဘဒွေးကောင်းစွာ မှတ်မိနိုင်တော့သည်။

"ဟော့လူ၊ ခင်ဗျား ဘာလာလုပ်တာလဲ။ ဒီခြံထဲ ဘာဖြစ်လို့ ဝင်ရသလဲ"

"ဟင် ဘာလာလုပ်သလဲလို့ မေးသလား။ ဟား ဟား"

ထိုလူက အရက်သွေးနှင့် ရယ်သွမ်းကလေး သွေးလိုက်သေးသည်။ သူသည် ဘဒွေးကိုပင် မော်၍ မကြည့်။ လေးကွက်သိုင်း နင်းလာသော မဟာပထဝီမြေကြီးကိုသာ ခြေလှမ်းမပျက်ရန် ကြည့်နေလေသည်။ ဘဒွေးသည် ထိုလူက မော့၍ ကြည့်လိုက်စေကာမူ သူ့အား မှတ်မိမည်ကို မစိုးရိမ်မိ။ ဟိုတယ်တွင်တွေ့ရသော ညကတည်းက ဘဒွေး၏ မျက်နှာကို စေ့စေ့မကြည့်ရဲ၍ မှတ်မိနိုင်ရန် ဝေးသေးသည်။

"ငါ့အမေအိမ် ငါလာတာ မင်းက ဘာပြောချင်သေးသလဲ။ ငါ့ကို ဒီမှာမွေးတယ်။ မွေးတဲ့အိမ်ကို ငါပြန်လာတယ်။ ဒါကို မင်းက ကြားထဲက ဝင်ပြီး ဘာကန့်ကွက်ဦးမလဲ။ ဟဲ ဟဲ"

ထိုသူသည် လက်ကားရား ခြေကားရားနှင့် စကားကို ဗလုံးဗထွေး ဆက်၍ပြောနေသည်။ ဘဒွေးသည် အိမ်ကြီးသို့ပြန်၍ လှည့်ကြည့်လိုက်မိသည်။ မည်သူ့ကိုမျှ မတွေ့ရမှ စိတ်အေးသွားမိသည်။

မြင်ရပြီး ဝင်းဝါနေတဲ့ အသားကလေးဟာလဲ ညိုပုပ်ပုပ် ညစ်မည်းမည်း အပုပ်ရည်တွေ တွဲလဲကျကြပြီ။

"အရိုးအစား ပြေပြစ်တယ်၊ အလုံးအရပ် ညီညွတ်တယ်ဆိုတဲ့ သူ့ခန္ဓာကိုယ်လုံးလေးဟာလဲ ဥဒ္ဓုမာတက ဖူးဖူးရောင်လို့ တစ်ဖြိုးတည်း လိုလို ဖြစ်နေပြီ။

"သူ သည်လိုဖြစ်နေတာကို အချစ်ဆုံး အစုံမက်ဆုံးဆိုတဲ့လူတွေ ကို ခေါ်ပြချင်တယ်။ အမယ်လေးဆိုပြီး နောက်ကိုတွန့်ပြီး ရွံ့ကုန်ကြမယ်။ ဒါမှမဟုတ်ရင်လဲ ရွံရှာစက်ဆုပ်ပြီး နှာခေါင်းပိတ်ကြမယ်။

"ကျွန်တော်ကတော့ မရွံ့ဘူး။ မကြောက်ဘူး။ မစက်ဆုပ်ဘူး။ တရားရတာ တစ်ခုပဲ ရှိတယ်။

"မှန်ပှင်းခါးသည် ဆရာကြီးလို့ အိပ်လျက်က မျက်စိကလေး ဖွင့်ပြီး ခေါ်လိုက်ဦးတော့မလို ထင်နေမိသေးတယ်။

"ကဲ ဒါပါပဲ ဆရာရယ်။ အခုတော့ ကျွန်တော့ကို ပုဒ်မတွေ တပ်ထားတဲ့ဥပဒေဆိုတာနဲ့ဖမ်းမယ်။ အမှန်တရားကိုယ်ကတော့ သူများ လွှင့်ပစ်လိုက်တဲ့ပစ္စည်းကို ကျွန်တော် ကောက်ကြည့်တာပဲ အပြစ်ရှိနိုင်ပါ့ မလား၊ အပြစ်ရှိသင့်ပါသလား။

"ဒါပေမဲ့ ကျွန်တော့မျက်စိ မမှိတ်ခင်တော့ ဘယ်ကိုပို့ပို့ ဘယ်ကို ရောက်ရောက် ဘာပဲဖြစ်ရဖြစ်ရ မထူးတော့ပါဘူး။ စကြဝဠာတစ်ခုလုံးမှာ သူ့ကို ဘယ်သူမှ ဘယ်နေရာမှာမှ မတွေ့နိုင်တော့ သူဟာ ကျွန်တော့ အတွက်တော့ သုဉ်းပါပြီ"

စံပျော်၏ စကားဆုံးသွားသောအခါ ကိုကျော်မွေးမှာ အမူးတွေ ပျောက်၍ ငိုင်တွေကြီး ဖြစ်နေလေသည်။ ဘာသောင်းမှာ နှုတ်ခမ်းကိုကိုက် ရင်း သက်ပြင်းတစ်ချက် မှုတ်လိုက်သည်။ ရာဇဝတ်အုပ် ကိုထွန်းရွှေ

သာလျှင် စံပျော်ကို မျက်နှာတည်တည်နှင့်ကြည့်၍ နက်နဲစွာ စဉ်းစားနေပုံ ရသည်။

မိုးပေါက်တွေ အရှိန်လျော့၍ လေကြမ်းတွေပါ ပျော့ကုန်လေပြီ။ ထိုအခိုက် တိုင်ကပ်နာရီမှ ဒေါင်ဒေါင်နှင့် ဆယ့်နှစ်ချက်ပြည့်အောင် အစဉ်တစိုက် တီးခတ်လိုက်သည်။ သချိုင်းအလယ်ဆီလောက်က ခွေး တစ်ကောင်နှစ်ကောင်၏ ရှည်လျားပျင်းတွဲ့စွာ အူလိုက်သော အသံကို ကြားလိုက်ရပြန်သေးသည်။ ဤတွင် ကိုကျော်မွေးက စ၍ စကားသံ ထွက်လာလေသည်။

"ဘယ့်နှယ်လဲဗျ ကိုထွန်းရွှေ"

"ဂျူတီအစ်(စ) ဂျူတီ မင်"

[ရှုမဝ ၁၉၄၈ စက်တင်ဘာ]

## ဒေါ်အိုဇာ

S.A.M.B စာရေးကလေးအဖြစ်ဖြင့် စာဖြူနုဆိုသောရွာသို့ ကျွန်တော်တို့ လင်မယား ပြောင်းလာပြီးသည့်နောက် မကြာမြင့်မီပင် အလုပ်နှင့် ပတ်သက်သော မိတ်ဆွေများ ရွာခံအိမ်နီးချင်း သင်္ဂဟများ လာရောက် မိတ်ဖွဲ့ အားပေးကြသည်မှာ တောရွာဓလေ့အတိုင်း ဖြစ်ပါသည်။

မြို့ကြီးပြကြီးများ၌သာ တစ်ယောက်နှင့်တစ်ယောက် အရေးမလုပ် ကြသော်လည်း မိရိုးဖလာ တောရွာကလေးများ၌ဆိုလျှင် မျက်နှာစိမ်း ဧည့်သည်ကို ရွာခံများက အထူးအရေးပေးကာ အစစအရာရာ ဝိုင်းဝန်း ကူညီကြချင်ပါသည်။ ဤစေတနာမှာ ဘယ်သူကမှလာ၍ ယဉ်ကျေးမှု တစ်ရပ်ဟု ကင်ပွန်းတပ်ကာ သင်တန်းပေးထားခြင်း မဟုတ်၊ ရိုးတွင်း ခြင်ဆီက ပါလာသော မြန်မာ့သဘာဝ လောကဝတ် စိတ်ထားသာ ဖြစ်ပါသည်။ သူစိမ်းတစ်ယောက်ကို မခေါ်ပင့်ချေ လာရောက်မေးမြန်း ကူညီရခြင်းမှာ မြို့ကြီးသူ၊ မြို့ကြီးသား အထက်တန်းစားဆိုသူတို့က ထင်သလို အောက်ကျနောက်ကျရှိလှသည်ဟုမထင်။ ဝေယျာဝစ္စ ကုသိုလ် ကလေးတွေ ပြုလိုက်ရသည်ဟုသာ ထင်မှတ်ဟန် ရှိကြသည်။

“စာရေးကြီး ကျုပ်တို့အိမ်များ လက်ဖက်ရည်သောက်ရအောင် လှည့်ခဲ့ပါဦးဗျ”

"မြို့သား တောရောက်လို့ ပျင်းခြောက်ခြောက် ဖြစ်နေပြီလား စာရေးကြီးရ"

စသော စကားမျိုးဖြင့် ကျွန်တော့အား ယောကျ်ားပိုင်းက အရေးယူကြ အဋ္ဌောတဝင် ပြုကြသကဲ့သို့

"စာရေးကြီးကတော်ရေ့ တောင်ပိုင်းမှာ ငါးသလောက်တွေ တဲ့တော့"

"ဟင်းချိုချက်ရင် ခူးသာခူးနော်။ ကျွန်မတို့ အိမ်က ဒန့်သလွန်ပင်တို့ ကင်ပွန်းပင်တို့ အားမနာနဲ့ သိလား"ဟု ရွာသူများကလည်း ကျွန်တော့ဇနီးမကို နှုတ်ဆက်ကြပါသည်။ ယုတ်စွအဆုံး ရွာထဲဖြတ်သွားသည့်အခိုက်အတန့်မျိုးကလေးတွင်ပင်

"ထမင်းစားသွားကြပါဦးလား"ဟု လည်းကောင်း

"စာရေးကြီးကတော်၊ ဘာဟင်းများ ချက်သလဲ"ဟုလည်းကောင်း အမေးခံရ အခေါ်ခံရသည်မှာ ယဉ်ကျေးမှု ဝါသနာလက်ငုတ် လက်ရင်းကလေးများသာ ဖြစ်စေကာမူ မြို့ကြီးသားတို့၏ ဓလေ့နှင့် စာသော် စပ်ရလှသည်ဟု အပြစ်တင်ဖွယ် ဖြစ်ကောင်းဖြစ်ပေမည်။

သို့သော် ကျွန်တော့အဖို့ကား ရွာဓလေ့ကိုနှစ်သက်သည်။ ကျွန်တော်သာမက မြို့သူဖြစ်သော ကျွန်တော့ဇနီးသည်လည်း တောရွာတို့၏ ပေါင်းသင်းဆက်ဆံရေးကို မြတ်နိုးနေတော့သည်။ ထို့ကြောင့်ပင် မကြာခဏ စကားစပ်မိတိုင်း ပြောကြရသည်။

"တောကလူတွေဟာ ဖော်ရွေတယ်နော် မောင်"

"ဖော်ရွေတာပေါ့ကွယ်၊ သဘောဖြူ အူစင်းကြီးတွေကိုး"

"နောက်ပြီးတော့ ဘာကလေးဖြစ်ဖြစ် လုပ်ပေးချင် ကိုင်ပေးချင်တဲ့စေတနာလဲ သိပ်ရှိတာပဲ။ မြို့မှာသာ ဒီလိုလုပ်ပေးတဲ့လူဆိုရင် ဖော်လံဖားတယ်လို့ ဆိုကြမှာပဲ"

"သမဝါယမဆိုတာ ဒါကြောင့် မြို့မှာ အကောင်အထည်မပေါ်နိုင်ကြတာပေါ့ ခင်ရ။ တစ်ယောက်ကိုတစ်ယောက် တင်စီးဖို့၊ လိုးဖို့၊ နတုံးလုပ်ဖို့၊ မျက်တောင်မွေးပေါ် စကြီလျှောက်ဖို့လောက်သာ စိတ်ကူးနေကြလို့ စာရိတ္တမဏ္ဍိုင်ဆိုတာတွေ ခြစားနေကြတာပေါ့"

"ဟုတ်တယ်နော်၊ ဘာကလေးဖြစ်ဖြစ် ပိုက်ဆံပေးမှ ဖြစ်တာပဲ"

"ဒါပေါ့၊ ပိုက်ဆံကို မေတ္တာ စေတနာထက် ငမ်းငမ်းတက်နေကြတာ၊ ဒီအကျင့်တွေ တောကိုတောင် တချို့ ကူးစက်လာကုန်ကြပြီ"

"အင်း အင်း ဪ ဒါထက် မောင်၊ ဒေါ်အိုဇာဆိုတဲ့ အမေကြီးကို သိလား။ ဟိုရွာ နောက်ဖေးတန်းက အမေကြီးဟာလေ"

ကျွန်တော်က ဘူးလုံးနားမထွင်း ဖြစ်နေသဖြင့် ခပ်ကြောင်ကြောင်ပင် သူ့ကို ကြည့်နေလိုက်မိသည်။ ထိုသို့ အင်းမလုပ် အဲမလုပ်နေစဉ် အသက် ခြောက်ဆယ်ကျော်ကျော် အမယ်ကြီးတစ်ယောက်၏ ပုံပန်းကို မြင်ယောင်မိသည်။ ကျွန်တော်တို့အိမ်သို့ မကြာခဏ ရောက်လာကာ ကျွန်တော့်ဇနီးသည်နှင့် ပလဲနံပသင့်နေခြင်းကို ယခုမှ သတိရလာမိသည်။

"ဪ ဪ ခင့်ဆီ လာလာနေတဲ့ အရုပ်ဆိုးဆိုး၊ မျက်လုံးကလေး ပြူးကြောင်ကြောင်နဲ့ အမယ်ကြီးဟာလား၊ နာမည်က ဒေါ်အိုဇာတဲ့လား"

"ဟုတ်တယ်၊ ဟုတ်တယ်၊ ဒေါ်အိုဇာတဲ့"

"အေး အေး သူ့ရုပ်မြင်တော့ ကာတွန်းထဲက စုန်းမကြီး ဒေါ်အိုဇာကို သွားသတိရတယ်ဟေ့ ဟဲ ဟဲ၊ အင်း ဘာဖြစ်သလဲ"

"အို မောင်ကလဲ မရှိ ခိုးနိုးနိုး မလှ စုန်းနိုးနိုးဖြစ်လိုက်တာ၊ သူ့ခမျာကို မပြောပါနဲ့။ သနားပါတယ် မောင်ရယ်။ သိပ်သဘောကောင်းရှာတာ"

ခင်က စာဒကတက်လိုက်စဉ်အတွင်းကလေးမှာ ကျွန်တော့စိတ်ကို ကျွန်တော်ပြောရမည်ဆိုလျှင် မလှ စုန်းနိုးနိုးဟု ထင်မြင်ယူဆချက်မျိုး မရှိရိုးအမှန်ပင် ဖြစ်ပါသည်။ ထိုထက်အပ ပယောဂ၊ စုန်း၊ နတ်၊ တစ္ဆေ စသည်တို့ကို ကျွန်တော် မစွဲလမ်း၊ လက်မခံခဲ့သည်မှာ သူအသိပင် ဖြစ်ပါသည်။ သို့သော် ကျွန်တော့ပါးစပ်က ထွက်လိုက်မိသည်ကတော့ တကယ်ပင် သမာဓိကာတွန်းဆရာကိုညီညီ ရေးဆွဲသော စုန်းမကြီး ဒေါ်အိုဇာရုပ်နှင့် ခပ်ဆင်ဆင်ဖြစ်နေကြောင်း သတိရ၍ ဖြစ်ပါသည်။ နာမည်ကလည်း လာ၍မှ တူတတ်ပါပေသည်။

ယခု ဤရွာက ဒေါ်အိုဇာဆိုသည်မှာလည်း ရှေ့သွားခေါခေါကလေး နှစ်ချောင်းသာ ကျန်၍ တချို့သွားတွေ ကြွေ၍ နေပါသည်။ ဆံဖြူဆံကျဲကလေးတွေက နဖူးပြောင်ပြောင်မှာ မောက်သယောင်ယောင် ဖြစ်နေပါပြီ။ ဆင်းရဲပင်ပန်းမှုနှင့် ဇရာဖိစီးမှုတို့ကြောင့် ပါးရေနားရေများ တွန့်ရှုံ့လိပ်ခွေကာ ကျောရိုးကပါ ခပ်ကိုင်းကိုင်းညွတ်နေလျက် အရိုးပေါ်တွင် မည်းညိုသောအရေတင်၍ လက်ပြင်ငေါငေါ အကြောပြိုင်းပြိုင်း ထနေရှာပါသည်။ သို့သော် မည်းနက်တောက်ပြောင်၍ သေးငယ်သော မျက်လုံးကလေးအစုံက အရွယ်နှင့်မလိုက်အောင် နက်ရှိုင်းစူးရှနေသကဲ့သို့ သူ့အသံကလည်း ခပ်စာစာခပ်ကြောင်ကြောင် ဖြစ်နေပါသည်။ ထို့ကြောင့်သာ ကျွန်တော်က မထော်မနမ်း ခပ်ရွှန်းရွှန်း ပြောလိုက်မိသည်။

"ကဲ ကဲ ပြောစမ်းပါဦး။ ဒေါ်အိုဇာကြီး ဘာဖြစ်သလဲ"

ကျွန်တော်က ဖြုန်းခနဲပင် ဆက်မေးလိုက်မှ

"ဩော် သဘောကောင်းရှာတာ ပြောမလို့ပါ။ မောင်က အလုပ်သွားသွားနေရလို့ သိပ်မသိတာ။ ဒီအမယ်ကြီးဟာလေ တစ်နေ့လုံးလိုလို ခင့်ကိုလာလာပြီး ကူညီရှာတာ ရေမရှိဘူးဆိုလဲ ဟဲ့ ဘယ်သူရေ၊ ဟဲ့ ဘယ်ဝါရေနဲ့ ခေါ်တန်ခေါ်ပေးတယ်။ သူကိုယ်တိုင်က ကမ်းနားဆင်း

ဆွဲတန်ဆွဲပေးတယ်။ အမယ် သိပ်သနိတဲ့အမယ်ကြီး မောင်ရဲ့။ ဘာမှတ်သလဲ ရေတစ်ပုံးလောက်များ ခေါင်းပေါ် အသာကလေးရွက်လာတာ။ နောက်ပြီး ထင်းမရှိဘူးဆိုလဲ သူပဲ။ ဟင်းလျာအဝယ်တို့ ဘာတို့များ ကောက်ကာငင်ကာ ထသွားလိုက်တာပဲ။ စိတ်ကလဲ မြန်ပါဘိသနဲ့။ ထမင်းဟင်းချက်ရာ ပြုတ်ရာထဲမလဲ သူပဲ စပ်စပ်စပ်စပ်နဲ့ ဝိုင်းလုပ်လိုက်သေးတယ်။ နေ့ခင်းနေ့လယ်ကော အဝတ်ဟောင်းတွေများတောင် ကမ်းနားဆင်း လျှော်ပေးမယ်လုပ်လို့ မနည်းကြီး တားထားရတယ်။ ကြာတော့ အားနာလာရော အိုကြီးအိုမနဲ့မို့"

"ဟာကွ– မလုပ်ပါစေနဲ့ ဒီလိုတော့"

"အို ခင်က မခိုင်းပါဘူး မောင်ရဲ့။ ဒါတွေကို ခင်ကိုယ်တိုင် လုပ်ရမှ ကျေနပ်ဘာပါ။ နို့ပေမယ့် သူ့စေတနာကို ပြောပါတယ်။ နောက်ဆုံး အားနေရင် ဘာလုပ်ပေးတယ် မှတ်သလဲ။ ခေါင်းရှင်းပေးတယ်။ ဘီးစိပ်တိုက်ပေးတယ်။ အဲသည်လိုလုပ်ပေးရင်း ပုံတိုပတ်စ ရာဇဝင်အစ ရှေးစကားအစ ပြောနေတာပဲ။ ဗဟုသုတလဲ မခေဘူး မောင်ရေ။ သူ ကရွတ်ကင်း လျှောက်ပြောနေတာကပေမဲ့ နားထောင် အကောင်းသား။ ခင့်ကိုလဲလေ သမီး သမီးနဲ့ အနှိပ်အနင်းလဲ တတ်သတဲ့။ ဝမ်းဆွဲလဲ တတ်သတဲ့။ ဗေဒင်လေးဘာလေးတောင် မတောက်တခေါက် တတ်သလားမသိပါဘူး။ ခင့်ကို ဘယ်နှခုသမီးလဲ ဘာနေ့သမီးလဲနဲ့"

"အင်း ဇရပ်အမယ်ကြီးတွေဟာ ဒီလိုပါပဲကွာ။ သူ့မှာ သားသမီး ရှိသတဲ့လား"

"မရှိဘူး မောင်ရဲ့"

"နို့ ဘယ်သူက သူ့ကို ကျွေးထားသလဲ"

"သူ့အဘိုးကြီးရှိသလေ။ သူ့အဘိုးကြီးက တင်းတောင်းရက်၊ စပါးပုတ်ရက်၊ ဖျာတွေ၊ ယိုင်တွေ ရက်ရသတဲ့။ သူကတော့ ရွာထဲမှာ

ဟိုအိမ်ဝင် သည့်အိမ်ထွက် ဝိုင်းကူပြီး လုပ်ပေးတန်ပေး၊ စားစရာရှိစား သွားတာပဲတဲ့။ သူ့ကို တစ်ရွာလုံးက ချစ်လဲချစ်သတဲ့။ ကြောက်လဲ ကြောက်ကြသတဲ့"

"ဘာဖြစ်လို့ ကြောက်ရသတုံးကွာ"

"သြော် ဒါကတော့ စကား ပြောရင် ဟောဟောဒိုင်းဒိုင်းကြီးနေလို့ ဖြစ်မှာပေါ့"

ဤသို့နှင့် ဖနီးသည်မှတစ်ဆင့် ဒေါ်အိုဇာ၏ အကြောင်းကို ထိုနေ့က စ၍ ကြားသိခဲ့ရပါသည်။ နောက်နေ့များတွင်လည်း ကျွန်တော့ဖနီးသည် ထံသို့ လာကာ ပြောသည့်အတိုင်း စပ်စပ်စုစုနှင့် စပါးရောဖွဲရော ဝိုင်းဝန်း ညီညာ လုပ်စရာရှိသမျှ လုပ်နေပါသည်။ ကျွေးလျှင်လည်း ဟန်မလုပ်ဘဲ စားပါသည်။ စားရင်းကပင်

"အင်း သားတို့၊ သမီးတို့ အမေအိုကြီးကို ကျွေးနိုင်ပါစေ။ မွေး နိုင်ပါစေ၊ ဆယ်ဆထမ်းပိုးတိုးပါစေ၊ သာဓုတော် သာဓု"ဟု ပါးစပ်က တဖွဖွ ဆုပေးတတ်ပါသည်။"ဟဲ့ လုံမလေး" "သမီး"ဟူသော အခေါ် အဝေါ်မှာကား ပါးစပ်ဖျားကလေးတွင် ဖြစ်ပါသည်။

ဒေါ်အိုဇာ နေ့တိုင်းလိုလို လာနေခြင်းကို ကျွန်တော့စိတ်တွင် တစ်စုံတစ်ရာမှ အနှောင့်အယှက် မဖြစ်မိ။ ဖနီးသည်အဖို့ အပျင်းပြေ အကူအညီ တိုးတိုးဖော်တစ်ယောက် ရသည်ထက် ဆယ်ရေးတစ်ရေး ကိုးရေးတစ်ရာ သူတစ်ပါး ရပ်ရွာတွင် မိန်းမမွေတာ ဖျားရေးနာမှုကြည့်ရှု စောင့်ရှောက်တတ်သူ တစ်ဦးအနေနှင့် အားကိုးအားထား ဖြစ်နိုင်ပါသေး သည် မဟုတ်လော။

တစ်နေ့တွင်ကား ဒေါ်အိုဇာ၏ သတင်းစကားကို ထူးထူးခြားခြား လာ၍ ပြောသူမှာ စပါးပွဲစား ကိုဘိုးဟန်ဆိုသူ ဖြစ်ပါသည်။

"စာရေးကြီး၊ ခင်ဗျားတို့ အိမ်ကို ဒေါ်အိုဇာကြီး လာလာမနေ စေပါနဲ့ဗျာ"

"ဘာဖြစ်လို့လဲ ကိုဘိုးဟန်"

"ဟာ မလာစေနဲ့ဗျာ၊ မကောင်းဘူး"

"ဘာ မကောင်းတာလဲဗျ၊ လက်ဆော့တတ်သလား၊ အတင်းပြော တတ်သလား"

"စာရေးကြီးကလဲ တယ်ခက်သကိုး၊ သူ့ရုပ်ကြီးကို ကြည့်ပါလား"

ကိုဘိုးဟန်က စကားကို တိုးလိုးတန်းလန်းထား၍ ကျွန်တော့ မျက်နှာကို စေ့စေ့စပ်စပ် ကြည့်နေပါသည်။ သူ့အမူအရာမှာ ဘွင်းဘွင်း ဖွင့်ပြောရန် သင့်မသင့်ဟု ချိန်ဆနေခြင်းနှင့်အတူ ကျွန်တော်ကိုယ်တိုင် မရိပ်မိ၊ ရိပ်မိဖို့ အကဲခတ်နေဟန် ရှိပါသည်။

သူအကဲခတ်နေပုံက ကျွန်တော်ပြောဖူးသော စုန်းမကြီး ဒေါ်အိုဇာ ကို သတိရလိုက်စေပါသည်။ ထို့ကြောင့် ကျွန်တော်က ပြုံးကာ ဟဲ ဟဲ ဟု ရယ်လိုက်ရင်း

"ဘာလဲဗျ၊ စုန်းမကြီးမို့လို့လား"ဟု ခပ်ပေါ့ပေါ့ပင် ပြန်မေးလိုက် သည်ကို ကိုဘိုးဟန်မှာကား ပေါ့တီးပေါ့ဆ မျက်နှာထားမျိုး ပြောင်း မလာဘဲ လျှို့ဝှက်မှု တစ်ခုကို သတင်းပေးလာသူကဲ့သို့ အနားပတ်ဝန်း ကျင်ကိုပါ လှည့်ကြည့်စုံစမ်းလိုက်ပြီးမှ

"ဟဲ ဟဲ ဟဲ ဒါမျိုးတွေ ခင်ဗျားတို့တောမှာ ရှိနေတုန်းပဲကိုး"

"ဟ ရှိပါသော်ကော စာရေးကြီးနှယ်"

"မဟုတ်ပါဘူး။ ကျွန်တော် ဆိုလိုတာက ဒီအယူအဆတွေကို ပြောတာပါ"

"ဟင် ဒါဖြင့် စာရေးကြီး မယုံဘူးပေါ့။ ဟုတ်လား"

"မယုံတာ ယုံတာ အပထားစမ်းပါဦး၊ ခင်ဗျား စကားနဲ့ ခင်ဗျား ပြန်မေးစမ်းပရစေ။ တစ်ရွာလုံးက ပြောနေကြတယ်ဆိုတာသိလို့ ပြောတာလား။ ထင်ရုံနဲ့ ပြောတာလား"

"တစ်ယောက်ကစ တစ်ရာဆိုသလိုပေါ့ဗျာ"

"နို့ ရွာထဲက သူ့ကိုချစ်ကြသလို၊ ဘယ်အိမ်မှာ ဝင်စားစားဆို"

"ဟာ ဒါက ကြောက်ကြတာကိုး ခင်ဗျ၊ ကျွေးရတာပေါ့၊ နို့ မဟုတ်ရင်"

"နေပါဦး နေပါဦး၊ သူကလဲ ဘယ်အိမ်ဖြစ်ဖြစ် ဝိုင်းလုပ်ပေးတန်တာ ဝင်လုပ်ပေးတယ်ဆို၊ သူက ဒီလိုစေတနာထားတော့"

"ဟယ် ဒါက သူလာလုပ်ပေးရင်လဲ ကြည့်နေရတာပေါ့ဗျ။ တယ်သူက ခါးခါးသီးသီး ပြောဝံ့တာမှတ်လို့၊ နေပါဦး၊ စာရေးကြီးက မယုံလို့ မေးနေတာလား။ ဒီမှာ ကျွန်တော်ပြောမယ်။ စုန်းဆိုတာ ချို့ မပေါက်ဘူးတဲ့ သိရဲ့လား။ ကျွန်တော်က ဒီရွာသား၊ ဒါကြောင့် ပြောတာ ခင်ဗျားတို့က မြို့သားတွေဆိုတော့ မတွေ့ဖူးသေးဘူး။ သူတို့အိမ်မှာ ငွေစကလေးဘာလေး ပြတ်ပြီဆိုရင်လေ ရွာထဲက ကလေးတစ်ယောက် ကောက်ကာငင်ကာ တက်တာပါပဲဗျာ။ အဲ ကု၊ ဘယ်ဆရာနဲ့ ကုကု၊ ဘယ်ဆေးဝါးနဲ့ကုကု မပျောက်ရေးချ မပျောက်။ ကလေးသာ အလူးအလိမ့် ခံနေရတာပဲ။ အဲသည့်အခါ လာပါလိမ့်မဗျာ 'ဟဲ့ ကလေး ဘာဖြစ်တာတုံး' ဘာညာနဲ့ အဲသည်အခါ သူ့ကိုသာ အမေရယ်၊ ဘာညာနဲ့ ချော့ပြော၊ နောက်ပြီး ပိုက်ဆံကလေး ဆန်ကလေး နည်းနည်းပါးပါး ပေးလိုက်၊ သူက ဆီကလေး မန်း၊ မိုက်ကလေး တစ်ချက်နှစ်ချက်လောက် နှိပ်ပေး။ ခေါ်စာကလေး ပစ်လိုက်ဟဲ့၊ ရွာချလိုက်ဟဲ့နဲ့ ပြန်သွားပါလိမ့်မယ်။ အဲ သူလဲ ပြန်သွားပြီး သူပြောသလို ရွာချတာတို့၊ ခေါ်စာပစ်တာတို့သာ လုပ်လိုက်၊ ဟော ကလေးမှာ ချက်ချင်း ပျောက်ပါရော"

ရွာစွန်ရွာဖျား အလုပ်ရုံး ဖွင့်ထားရာ စပါးဒိုင်တွင် ဖြစ်သောကြောင့် ကိုဘိုးဟန်က လွတ်လွတ်လပ်လပ် မြိန်ရေရှက်ရေကြီး ဖောက်သည်ချနေပါတော့သည်။

ကိုဘိုးဟန်အကြောင်းကို ပြောရလျှင် လူရိုးစိတ်တိုဖြစ်သည်။ ကျွန်တော့ကို အတော်ခင်မင်ရင်းစွဲ ရှိသည်။ အလုပ်အကိုင် ကြိုးစား၍ ဘယ်နေရာဖြစ်ဖြစ် သေသေသပ်သပ် ရှိသည်။ ယခု ကျွန်တော့အား ဒေါ်အိုဇာအကြောင်းနှင့်ပတ်သက်၍ ပြောနေခြင်းမှာ ဟုတ်ဟာ မဟုတ်တာ အပထား ကျွန်တော်တို့အိမ်ထောင်ကလေးအပေါ် ဘေးအန္တရာယ်ကင်းလွတ်စေလိုသည့်စေတနာကိုတော့ ကျွန်တော်ကိုယ်တိုင် အသိအမှတ်ပြုထိုက်ပါပေသည်။ ထို့ကြောင့် ကျွန်တော်က

"မဟုတ်ပါဘူးလေဗျာ ကိုဘိုးဟန်၊ ခင်ဗျားစေတနာကိုလဲ ကျွန်တော် သိပါတယ်။ ကျွန်တော်တို့က အာဂန္တုဆိုတော့ အစစအရာရာ မဖြစ်တန်တာ မဖြစ်အောင် သတိပေးတာကို ကျေးဇူးလဲတင်ပါတယ်။ ဒါပေမဲ့ ကျွန်တော်တို့မြန်မာအယူအဆက တချို့နေရာကျတော့ အတော်ခွကျတာလေးတွေ ရှိသေးသဗျ၊ စုန်းမပါ ရွာမဖြစ်ဆိုတာတို့ ဘာတို့ပေါ့ဗျာ။ ဟုတ်တယ် မဟုတ်လား"

"ဒါ အစစ်ပေါ့ဗျ"

"အဲဒါ တောကြီးမျက်မည်းထဲမှာ ဆိုရင်တော့ ဟုတ်ချင် ဟုတ်မှာပေါ့"

"သြော် စာရေးကြီးနှယ်၊ လော်ရင်း နစ်နေပြန်ပါပြီ၊ ဒီမှာ နောက်ဆုံး ကျွန်တော်တစ်ခု ပြောမယ်။ စာရေးကြီးတို့ ဒီရွာမရောက်ခင် တစ်လလောက်က အဖြစ်တစ်ခုကိုပဲ ပြောရဦးမယ်။ ကျုပ်သူငယ်ချင်း သာအေးဆိုတာ အခု ဘုရားနားမှာတွင် ရှိတယ်။ တစ်နေ့တော့ သူ့

ကလေး ဒီလိုပဲ ဖြစ်ကရော။ ဖြစ်တယ်ဆို ဒေါ်အိုဇာ လာတာပဲ။ ထုံးစံ အတိုင်း ခေါ်စာပစ်ဖို့ ပြောတာပါပဲဗျာ။ သာအေးက မိုက်တိမိုက်ကန်း အကောင်ကလား။ ကျုပ်ကို လာပြောတာပဲ။ သူငယ်ချင်းရေ ဒေါ်အိုဇာ ကြီးကတော့ ငါ့ကို ခေါ်စာပစ်ဖို့ လာပြောပပေါ့။ ဒီတစ်ခါတော့ မှတ်လောက်သားလောက်ရှိအောင် လုပ်လိုက်မကွဲ့တဲ့။ သူက ဘာ ကြံထားသလဲဆို ခေါ်စာပစ်တုန်း လာစားတဲ့ခွေးကို စောင့်ရိုက်မပေါ့လေ။ ကျွန်တော်ကလဲ အဲသည်တုန်းက မြှောက်ပေးလိုက်တာပဲ"

"နေပါဦး လာစားတဲ့ခွေး ရိုက်တော့ ဘာဖြစ်မလဲ"

"အဲသည်ခွေးသေရင် အမယ်ကြီး သေမှာပေါ့ဗျာ၊ စုန်းဆိုတာ ခွေးကိုမှီပြီး စားရတာကိုး"

"နို့ အမယ်ကြီးက ခုထက်ထိ မသေပါကလား"

"နေဦးလေ ကျုပ်ပြောပါဦးမယ်။ ဆုံးအောင် နားထောင်ပါဦး။ ဒါနဲ့ တစ်ညကျတော့ ခေါ်စာပစ်ကရောဗျို့၊ အမယ်ကြီးကိုလဲ ပစ်မယ့် အကြောင်း သွားပြောလိုက်သေးတယ်။ ည လူခြေတိတ် ဆယ်နာရီ ကျော်ကျော်မှာ ပစ်ကရော။ လာတာပဲဗျို့။ အဲဒါ သာအေးက ချောင်း ရိုက်လိုက်တာ၊ ရိုက်တုန်းကတော့ အသေရိုက်တာပဲတဲ့။ ဒါပေမဲ့ ဒီကောင်ကလဲ တကယ်ကျတော့ ခပ်ကြောက်ကြောက်ထင်ပါရဲ့။ ခေါင်း ရိုက်တာ ခါးသာ ပွတ်ထိသွားလို့ လွတ်ပြေးတာပေါ့။ အဲဒါတောင် အမယ်ကြီးမှာ ဘယ်လောက်ခံလိုက်ရသလဲ သိလား။ မနက်မိုးလင်းတော့ အိပ်ရာထဲက မထနိုင်တော့ဘူးဗျို့။ သူ့သွားမေးတော့ အိမ်ပေါ် ချော်လဲတာ ခါးပန်းနဲ့ ဆောင့်မိလို့တဲ့။ ကဲ အဲဒါသာ ကြည့်တော့။ ဒါပေမဲ့ သာအေး မိုက်တာ ကလေးမှာသာ သွားထိရှာတာပါပဲ"

"ဘာဖြစ်လို့လဲဗျာ"

"ဟာ သူ့ရိုက်တာ သာအေးမှန်းသိတော့ ကလေးကို ပြုစားလိုက်တာ သေရှာပါရောလား။ သာအေးလဲ ဒီတော့မှ ယူကျုံးမရ ကျိတ်ဖြစ်ရှာတယ်။

ကျွန်တော့မှာတော့ လူတစ်ယောက်၏ယူဆချက်သည် သူ့အကြောင်းတရား ယုတ္တိယုတ္တာနှင့် အတော်စိတ်ကူးယဉ်၍ ကောင်းကြောင်း စဉ်းစားမိပါသည်။ စိတ်ကူးယဉ်ရာက ကွင်းဆက်ကလေးတွေပေါ်ကာ ယုံကြည်မှု ပြင်းပြလာတတ်ပါသည်။

"ကျုပ်တော့ဗျာ ဘာပြောပြော၊ ကျုပ်အိမ်က ကလေးဖြစ်ဖြစ်၊ လူကြီးဖြစ်ဖြစ် ပယောဂများသာဖြစ်ရင် သာအေးလို ခွေးကို မရိုက်ဘူး။ လူကိုယ်တိုင်ကို တက်သတ်မှာပဲ ဟင်း"

ကိုဘိုးဟန်က ကြိမ်းဝါးလိုက်ပါသည်။

"နေပါဦးဗျာ ခင်ဗျားကလဲ ဒေါသချည်းပဲ"

"အင်း စာရေးကြီးက ပေါ့တီးပေါ့ဆပြောနေ အခု သူ့ကိုကျွေးမွေးပေးကမ်းနေတုန်းဆို ကိစ္စမရှိဘူး။ သူနဲ့ သဟာဇာတမဖြစ်တဲ့အခါကျတော့ သိလိမ့်မယ်"

ကိုဘိုးဟန်ကား လိပ်ခဲတည်းတည်း ရှိလှချေ၏။

ဤစကားနှင့် ပတ်သက်၍ နေ့ိးသည်အား ဘာတစ်ခွန်းမှ ကျွန်တော်ပြန်မပြောခဲ့။ မိန်းမသည် ယုံကြည်လွယ်လှသည်။ စနိုးစနောင့် ဖြစ်တတ်သည်။ ဒါနှင့်ပင် ဥပါဒါန်ကြောင့် ဥပဒ်ရောက်တတ်သည်။ တောစကားတောပျောက် ဖျောက်ဖျက်ပစ်လိုက်ရသည်။

ဒေါ်အိုဇာကတော့ နေ့တိုင်းလိုလိုပင် အိမ်ကို ဝင်ထွက်သွားလာလျက်ပင်။ ခင်ကလည်း ဆွေမျိုးအရင်းအချာလို အားကိုး အားထားပြုလျက်ပင်။ တစ်ခါတစ်ရံများ အနှိပ်အနင်းခံနေချေသေးသည်။ ဒေါ်အိုဇာကို မြင်တိုင်း ကိုဘိုးဟန်၏ စကားများကို သတိသွား၍ ရကာ ပြုံးမိ

သည့်အခါ ပြုံးမိသည်။ ပြုံးခြင်း၏ အဓိပ္ပာယ်ကို ခင်က မေးသော်လည်း လိုးလွှဲထား၍သာ ဘဲဥအစပျောက် လုပ်ခဲ့ရပါသည်။

နောက်များ မကြာမီ ဆိုသလိုပင် ကိုစိန်အုပ်ဆိုသူ ပန်းထိမ်ဆရာက ဒေါ်အိုဇာအကြောင်း စကားစပ်မိ၍ ပြောပြန်သည်။ သူ့စကားများမှာ ကိုဘိုးဟန်လို အကျယ်မဟုတ်သော်လည်း လိုရင်းကတော့ ဒေါ်အိုဇာသည် စုန်းမကြီးဖြစ်သည်ဟူသော အကြောင်းပင်။

နောက်တစ်ခါ ဒေါ်မင်းပုံဆိုသူ ကူလီခေါင်းမကြီးက ပြောလာပြန်သည်။

"ဆရာရေးကြီး၊ ဆရာရေးကြီးကတော်ကို ပြောထားပါ။ ဒေါ်အိုဇာကို လက်မခံစမ်းပါနဲ့၊ စိတ်ပေါင်းကိုယ်ခွာနေတာ ကောင်းတယ်နော်။ ကျွန်မတို့ရွာရဲ့ မကောင်းသတင်းကို ပြောလဲမပြောချင်ဘူး။ ရှက်လဲ ရှက်ပါရဲ့"

ကျွန်တော့ကို ခင်မင်ကြသော ပုဂ္ဂိုလ်တွေမှာ တစ်နေ့တခြား ဒေါ်အိုဇာအကြောင်းသာ စပ်၍စပ်၍ ပြောလာကြသည်။

ကျွန်တော်ကိုယ်တိုင် စုန်း၊ နတ်၊ တစ္ဆေကို မယုံ။ သို့သော် ကျွန်တော်တို့အတွက် သောကရောက်နေကြသော လူတွေကို အားနာလာမိသည်။ ထို့ကြောင့် ဒေါ်အိုဇာကို မျက်မုန်းကျိုးချင်လာသည်။ သူ့အရုပ်ဆိုးတာတွေကို ပို၍ပို၍ မြင်လာမိသည်။ ကျွန်တော့မိန်းမကို ဝိုင်းကူညီ လုပ်ပေးနေရာက အိမ်တွင်းရေးတွင် စွက်ဖက် တွင်ကျယ်လာပုံတွေကို ဂရုပြုမိလာသည်။ အရာရာ၌ ဩဇာပေးချင်လာသည်။ နောက်ဆုံးကြိမ်းချင်မောင်းချင် မြည်တွန်တောက်တီးချင်လာသည်။

"ဟော့ မောင်ဘာသန်းရဲ့၊ မင်းတို့အိမ် ငါကြည့်နေတယ်။ အုန်းလဲ မဆွဲပါဘဲကလား"

တစ်ညနေ ကျွန်တော် စောစောအလုပ်က ပြန်လာချိန် တအောင့် တနားနားနေစဉ် မီးဖိုချောင်က တက်လာသော ဒေါ်အိုဇာက ကျွန်တော့ ကို ပိုင်စိုးပိုင်နင်း အပြစ်တင်သံနှင့် ပြောပါသည်။

ကျွန်တော့မိန်းမကပါ သူ့နောက်မှ ကပ်ပါလာကာ "ဟုတ်သားပဲ မောင်ရဲ့"ဟု သံယောင်လိုက်လာပါသည်။ သူက ဒီလို ပြောလိုက်ခြင်း ပင် ကျွန်တော့စိတ်မှာ ထောင်းခနဲ ဖြစ်မိသည်။

တစ်နေ့တွင်ပင် ခင်က ကျွန်တော့အား အန္တရာယ်ကင်း ဦးရှင်ကြီး တင်ရန် ပြောဖူးပါသေးသည်။ ခင်မှာ ခေတ်ပညာတတ် အမျိုးသမီးဖြစ် သည်။ ဒါမျိုးတွေကို သူကိုယ်တိုင် အမှုမဲ့အမှတ်မဲ့နေခဲ့သည်။ ယခုတော့ ဒေါ်အိုဇာထံမှ နာနာဘာဝတွေ ကူးစက်လာဟန် ရှိသည်။ တစ်နေ့က ခင်ပြောစဉ်က

"ခင် ဒါတွေ ယုံကြည်လာပါလားကွဲ့၊ ဘယ့်နှယ့်လဲ"ဟု ကျွန်တော် က ပြန်အမေး

"အို ယုံတာ မယုံတာ အပထားပေါ့မောင်ရယ်။ ဒါကလေးတွေ လုပ်ရလို့ ဘယ်လောက်ကုန်သွားမှာလဲ။ ဥပဒ်ကင်းကင်း ဘေးရန်ရှင်းရှင်း နေသွားရတော့ ကောင်းတာပေါ့။ အမေကြီးကလဲ လုပ်မှ ကောင်းသတဲ့။ သူပြောတာပဲ။ သူတို့က လူကြီးတွေ မဟုတ်လားမောင်"

ထိုစကားကိုသွား၍ အမှတ်ရလိုက်သည်။ အခုလည်း နတ်အုန်းသီး ဆွဲရဦးမလို ပြောလာပြန်သည်။ စားတာသောက်တာကို ကျွန်တော် သည်းညည်းခံနိုင်သည်။ ခင့်ကို စိတ်ခတ်ပျော့နဲ့၍ ပျောင်းနောင့်ဂျိမ်ဂျိမ် ဇာတ်သွင်းပေးနေတာတော့ ကျွန်တော် ဒေါသဖြစ်သည်။ ထို့ကြောင့်လည်း သူ့ကို စုန်းမကြီးဟု ခေါ်ဟန်တူသည်။

"နတ်အုန်းသီး မဆွဲတော့ ဘာဖြစ်မှာမို့လဲဗျ ဒေါ်အိုဇာ"

"မဆွဲတော့ အိမ်စောင့်နတ် မရှိဘူးပေါ့ကွယ်။ မရှိတော့ အပပယောဂတွေ ဝင်နိုင်တာပေါ့"ဟု ကျွန်တော် အရွဲ့တိုက် မေးမှန်းသိ၍ ခပ်ဆတ်ဆတ် ပြန်ဖြေပါသည်။

"နတ်အုန်းသီးဆွဲတော့ကော ဘယ်ကနတ်က လာနေမှာလဲ"

"အိမ်တွင်းအဖေကြီးလေ"

"အိမ်တွင်းအဖေကြီးဆိုတာ ဘယ်သူလဲ ပြောစမ်းပါဦး ရှင်းရှင်း"

"အို မင်းတို့ ကာလသမီး၊ ကာလသားတွေ သိရက်နဲ့ ခွမေးနေတာပါကွာ"

"မဟုတ်ပါဘူး ဒေါ်အိုဇာရဲ့၊ ပြောစမ်းပါဦး"

"မင်းမဟာဂီရိ မောင်တင့်တယ်ဆိုတာ မကြားဖူးဘူးလား"

"ဒါဖြင့် သူမသေခင်ကတော့ မြန်မာအိမ်တွေမှာ နတ်မရှိခဲ့ဘူးလား"

"ဟော့ ဟော့ မင်းတို့ဘာသာ လုပ်ချင်လုပ် မလုပ်ချင်နေ။ ငါ့ကိုတော့ ခွမမေးနဲ့။ ငါက မင်းတို့ကို ကောင်းစေချင်လို့ ပြောတာ။ နောက် မကြိုက်ရင် မပြောရုံပေါ့။ အိုဇာတို့က နေသာသပ လေညာက၊ ကဲ ခင်ခင် သွားမယ်၊ ညည်းယောက်ျားက စကားပြောလို့ မကောင်းဘူး"

အမယ်ကြီး ဒေါပွ၍ ဆတ်ခနဲထပြန်သွားရာ ခင်ကတော့ အတော်အားတုံ့အားနာ ဖြစ်သွားဟန် ရှိပါသည်။ ကျွန်တော့ကို အပြစ်တင်၍ မဆုံး။

ထိုနေ့ကစ၍ အမယ်ကြီး ပေါ်မလာတော့၊ စိတ်ကောက်သွားဟန်တူပါသည်။

"သနားပါတယ် မောင်ရယ်၊ ဒေါ်အိုဇာကြီး"

"ဟာ မလာနေပေ့စေကွာ၊ ရောက်တတ်လေးဆယ်နိုင်လှတဲ့ အမယ်ကြီး"

ထိုအကြောင်းနှင့် ပတ်သက်၍ တစ်နေ့တွင် ကိုဘိုးဟန်အား စကားစပ်မိသည့်အလျောက် ပြောဖြစ်သွားရာ ကိုဘိုးဟန်က အထိတ်တလန့်နှင့်

"ဟောဗျာ စာရေးကြီးကတော့ လုပ်ပြီ"

"နို့ ခင်ဗျားတို့ ပြောတာ အိမ်မလာရင် ကောင်းတယ်ဆို"

"မဟုတ်ဘူးလေ၊ သစ်စိမ်းချိုးကြီး ချိုးလိုက်တော့လဲ ဘယ်ကောင်းမလဲ တော်တော်ကြာ"

ကိုဘိုးဟန်က မဦးမချတ် စကားမပြောချင်သကဲ့သို့ ခပ်ဆိုင်းဆိုင်းဖြစ်အသွားတွင်

"ဟား ဟား ဟား ဒေါ်အိုဇာကြီးက ပြုစားမှာမို့လား။ ဟား ဟား ဟား"

"သြော် စာရေးကြီးနှယ်၊ အပြောရခက်ပါဘိနော်"

ကိုဘိုးဟန်နှင့် ပြောပြီး၍ သုံးရက်မျှသာ ကြာပါသေးသည်။ တစ်နေ့သော နံနက်ခင်းတွင် ကျွန်တော်တို့ စပါးဒိုင်အား ကမန်းကတန်း အပြေးလာခေါ်သူမှာ အိမ်နီးချင်း မရွှေမွှင့်ဆိုသူ ဖြစ်ပါသည်။

"စာရေးကြီး မြန်မြန်လာပါ။ စာရေးကြီးကတော် မူးရာက တက်သွားလို့"

"ဟင်"ဟု နှုတ်မှ ယောင်အော်လိုက်ပြီး ကျွန်တော့မျက်နှာကို ကွက်ခနဲကြည့်လိုက်သူမှာ ကျွန်တော့အနားက ကိုဘိုးဟန် ဖြစ်ပါသည်။

ကျွန်တော့အဖို့မှာတော့ ဘာကိုမှ မဉပဒ်အား၊ အပြေးအလွှားသာ အိမ်သို့ လိုက်ခဲ့ရပါသည်။ လမ်းတွင် မရွှေမွှင့်က တတွတ်တွတ်ပြောလာသောစကားများမှာ ကျွန်တော်အလုပ်သို့ထွက်သွားပြီးနောက် မကြာ

မြင့်မိ ခင် ခေါင်းလျှော်သည်ကို တွေ့ရကြောင်း၊ ခေါင်းလျှော်ပြီးလျှင်ပင် မရွှေပွင့်အား လှမ်း၍ခေါ်ကြောင်း၊ ခေါင်းထဲတွင် မူးကာ ရင်ထဲတွင် တလှပ်လှပ် ဖြစ်လာကြောင်း၊ မရွှေပွင့်က တတ်သမျှမှတ်သမျှ ဆေးဆေး တို့နှင့် ပြုစုကုမကာ နိုပ်ပေးစဉ်အတွင်းပင် ဇက်ကြီးကျိုးကာ တခစ်ခစ်နှင့် တက်သွားတော့ကြောင်း၊ ယခု အိမ်နီးနားချင်းများ ဝိုင်းအုံကုမ၍ ကျန်ရစ် ခဲ့ကြကြောင်းများ ဖြစ်လေသည်။

ကျွန်တော် ရောက်သွားသောအခါ ကံအားလျော်စွာ အတက်ကျ၍ သတိရနေပေပြီ။

"ဘယ့်နှယ် ဘယ့်နှယ်ကွာ၊ ဘယ်လို ဖြစ်သွားတာလဲ"

"မသိဘူးမောင်၊ နာခေါင်းထဲ စိမ်းရွှေရွှေအနံ့ နံလာပြီး ခေါင်းထဲ မူးလာတာပဲ။ နောက်တော့ ရင်ထဲက လှပ်လှပ်လှပ်လှပ်နဲ့ ဝမ်းနည်းသလို လို ငိုချင်သလိုလို ဖြစ်လာပြီး သတိမေ့သွားတာပဲ"ဟု လူခပ်ခွေခွေ လေ ခပ်ပျော့ပျော့နှင့် ပြန်ပြောပါသည်။ သူ့အနားတွင်ရှိသော အိမ်နီးချင်း မိန်းမကြီးငယ် အချို့တို့ကတော့ အဓိပ္ပာယ်ပါဝင်သော မျက်ရိပ်မျက်ကဲ များ တစ်ယောက်ကိုတစ်ယောက် အလဲအလှယ်ပြုနေကြပါပြီ။ ပူးကပ်နေ သူ အချို့ကတော့ တစ်ယောက်ကိုတစ်ယောက် လက်ကုတ်ကာ ရှုံ့ရှုံ့ မဲ့မဲ့ ထင်မြင်ချက် ပြုကြသည်။

"မောင် သွားချင်သွားတော့လေ။ ခင် သက်သာပါပြီ"

"အို တော်တော်ကြာမှ သွားတော့မယ်ကွာ။ အလုပ်သိပ်မရှိပါဘူး"

အိမ်နီးပါးချင်းမှအစ မိတ်သင်္ဂဟတို့ ပတ်ဝန်းကျင်မှာ ခင် နေ မကောင်းလို့ ခင်တက်လို့ဟူသောသတင်းမှာ ရွာကလေး ငယ်သလောက် တစ်ခဏချင်း ပျံ့နှံ့သွားပုံရသည်။ တစ်ဦးဝင် တစ်ဦးထွက် တစ်ဦးတက် တစ်ဦးဆင်း ရင်းနှီးခင်မင်စွာ အမေးအမြန်း အကြည့်အရှု လာကြပါသည်။ ဤကား တောရွာကလေးများ၏ အရသာပင် ဖြစ်သည်။

ထိုအတောအတွင်း ဒေါ်အိုဇာကို သွား၍သတိရလိုက်သည်။ သူ ပေါ်ပေါက်၍မလာတော့။ ရွာကလေး ဆိမ်းခွက်လောက်မှာ အိမ်ချင်းက လည်း သိပ်မဝေးလှသဖြင့် မကြားမသိဟုမဆိုနိုင်။ သိလျက်နှင့် မလာ ခြင်းမှာ စိတ်အနာ စိတ်အကောက်လွန်နေခြင်းလော သို့မဟုတ် ကိုဘိုးဟန် တို့ဝါဒအရ သူ့ပယောဂပင် ဖြစ်နေခြင်းကြောင့်လော။

ကျွန်တော် မရှက်မကြောက် ဝန်ခံရပါတော့မည်။

စုန်း၊ နတ်၊ တစ္ဆေ၊ ကဝေ၊ မိစ္ဆာဆိုသည်တို့ကို အလျဉ်းလက်မခံခဲ့ သော ကျွန်တော့စိတ်ဝယ် စနိုးစနောင့် အနည်းငယ် ဖြစ်လိုက်မိပါပြီ။ ယခု မဖြစ်စလောက်ကလေး လုပ်လိုက်ခြင်းဖြင့် သူ့ပညာဂုဏ်ကို ပြလိုက်ခြင်းပေလော ကျွန်တော် ဘုပြောလိုက်၍ ထသွားခဲ့သော သူ့ မျက်နှာထားကြီးမှာ

"နေသေးသပ ချုံထဲက မကြားခင် အကြောင်းပြလိုက်မယော့နော်" ဟု အတွင်းစိတ်နှင့် ကျိတ်၍ ကြိမ်းသွားသလို ထင်လိုက်မိသည်။ မြင်ယောင်လိုက်မိသည်။

သို့သော် တဖြည်းဖြည်းနှင့် ခင်သက်သာလာ၍ စိတ်ချလောက်သော အခါ ကျွန်တော့အလုပ်ရှိရာသို့ ပြန်ခဲ့သည်။ ရောက်လျှင်ရောက်ချင်း ကိုဘိုးဟန်က အရေးတကြီး ဆီးကြိုမေးသည်။ ကျွန်တော်က သက်သာ ပါပြီဟု ပြောသော်လည်း သူကတော့ ဒေါ်အိုဇာ့အကြောင်းသာ ဆက်၍ သတိပေးမြဲပေးသည်။ သူ သတိပေးလေ ကျွန်တော့စိတ်မှာ ထင့်ရလေ ဖြစ်ပြန်ပါသည်။

ညနေပိုင်း စောစော အလုပ်ဆင်း၍ အိမ်ပြန်ခဲ့သည်။ ခင်ရှိရာ အိပ်ခန်းသို့ လှမ်းကြည့်လိုက်သည်နှင့် မိန်းမတစ်ယောက်က ခင့်အား တိုးတိုးတိတ်တိတ် ကျိတ်၍ ပြောနေသည့်ဟန်ကို တွေ့လိုက်ရသည်။ ကျွန်တော် ဝင်သွားသောအခါ ထိုမိန်းမက အလန့်တကြား သူ့စကားကို

ရွတ်ဖြတ်ပစ်လိုက်သည်။ ခင် မျက်နှာပျက်၍ အထိတ်တလန့် ဖြစ်နေပုံကို အကဲခတ်လိုက်ရခြင်းကြောင့် သူတို့၏ပြောလက်စ စကားမှာ တခြားဟာ မဟုတ်၊ ဒေါ်အိုဇာ၏အကြောင်းပဲဟု ကျွန်တော် တစ်ထစ်ချ စွဲလိုက်နိုင်ပါသည်။

"မောင်၊ မောင် ဒေါ်အိုဇာကြီးဟာ"

"အို စာရေးဆရာတော်ကလဲ"

ခင်က ကျွန်တော့ကိုဖွင့်ပြောလိုက်မည်အပြု ထိုမိန်းမက ကြောက်ကြောက်လန့်လန့်နှင့် ပိတ်ပင်လိုက်ပါသည်။ သူ့အမူအရာမှာ ဂနာမငြိမ်အောင် ရှိလှသည်။ ထို့နောက် ချက်ချင်းပင် နှုတ်ဆက်၍ ထသွားပါတော့သည်။ သူ့မှာ ဒေါ်အိုဇာ့အကြောင်း မပြောစေချင်၍လားမသိ ခင်ကလည်း ထိုမိန်းမ ထွက်သွားပြီးသည်အထိ နက်နက်နဲနဲ စဉ်းစားနေဟန်ရှိသည်။

"မောင်"

ခင်က တုန်လှုပ်စွာ စကားဆက်မည်ပြုသောကြောင့် သူ့အနားသွားထိုင်လျှင်

"ဖွဟဲ့ ဒူးမပြောနဲ့ ပေါင်မပြောနဲ့။ ဒေါ်အိုဇာကြီးဟာ စုန်းမကြီးတဲ့တော့၊ တစ်ရွာလုံးက သိသတဲ့။ ဒါကို ခင်တို့က လက်ခံထားတာ သူတို့ အံ့ဩနေကြတယ်။ နောက်ပြီး ဒီနေ့ခင်းဖြစ်တာ ရိုးရိုးတန်းတန်း မဟုတ်ဘူးတဲ့။ ဒေါ်ရွှေပွင့်က နည်းနည်းပါးပါး နားလည်တယ်။ ခု သူမလာတာ ကြည့်ပါလား။ဟိုတစ်နေ့က မောင် သူ့ကို ထော်လော်ကန့်လန့်ပြောလိုက်တာ သိပ်မှားတာပဲ။ မောင့်ကို ပြောကြတာ မောင်က မယုံဘူးဆို။ မောင်က သိပ်တစ်ယူသန်နိုင်တာပဲကွယ်။ ဒါမျိုးတွေဟာ ရွာတိုင်းမှာ ရှိတယ်။ ဘာမှတ်လဲ"

"သူများပြောတိုင်း ဟုတ်ချင်မှ ဟုတ်မှာပါကွာ၊ ခင်ကလဲ"

အမှန်စင်စစ် ကျွန်တော်ကိုယ်တိုင် သံသယရှိလာစေကာမူ ခင့်ကိုတော့ ဤသို့ ဖျောင်းဖျရပေမည်။ သူ့ဥပါဒါန်ကို ဖျောက်ဖျက်ပစ်ရမည်။ သူ့ကုက္ကုစ္စကို ဖြေရှင်းပေးရမည်။

"မောင်ကလဲ ခုထက်ထိ လုပ်တုန်းပဲ။ မောင်ပြောတာ မှတ်မိသေးလားဟင်၊ ကာတွန်းထဲက စုန်းမကြီး ဒေါ်အိုဇာနဲ့ တူတယ်ဆိုတာလေ။ ဟုတ်တယ်မောင်၊ ဟုတ်တယ်။ သတိထားကြည့်တော့ တကယ့်ကိုတူတာပဲ။ မောင် အကဲခတ်မလွဲဘူး။ ဟော အိမ်ရှေ့က ခြေသံကြားတယ်။ သူများလားမသိဘူး"ဟု အထိတ်တလန့်စကားကို တုန်လှုပ်စွာ ရပ်ပစ်လိုက်သောကြောင့်

"ဟာ ခင်ကလဲကွ"ဟု အပြစ်တင်၍ ထွက်အကြည့်လိုက်မှာ ကျွန်တော်ပါ အံ့သြသွားရပါသည်။ ကုပ်ကုပ်ကုပ်ကုပ်နှင့် ခပ်သုတ်သုတ်ဆင်းသွားသော ဒေါ်အိုဇာ ဘယ်အချိန်က တက်လာ၍ ဘာသဘောနှင့် အသံ မပြုလေသနည်း။

"မောင်၊ ဟုတ်တယ်မဟုတ်လား ဟင် ဟင်"

ခင်က ကျွန်တော့မျက်နှာရိပ်ကို ဖမ်းကာ မေးလိုက်သည်။

"ဟယ်၊ မဟုတ်ပါဘူး ခင်ကလဲ"

"ဒို့ ဘယ်သူလဲ"

"ဟင် မောင်လိမ်တာ၊ ဒါဖြင့် ခင် ထကြည့်မယ်"

ပြောပြောဆိုဆို အိပ်ရာထဲမှ ကမန်းကတန်းထ၍ ကြည့်မည်ပြုသောကြောင့် ဤတွင်မှ အရေးမကြီးသလို ရယ်သွမ်းပြလိုက်ရရင်း

"ဟုတ်ပါတယ် မင့်အမယ်ကြီး ငါတွေ့လို့ လန့်ပြီး ပြန်ဆင်းသွားတာပါ"

"ဟောတော် ဒါဖြင့် ခင်တို့ ပြောနေတာတွေ ကြားသွားတော့မှာပဲ။ ကဲ အဲဒါမှ ဒုက္ခ၊ ဘယ့်နှယ်လုပ်မလဲဟင်။ ခင်တော့ ကြောက်လာပြီ"

"ဘာလို့ ကြောက်ရမှာလဲကွ၊ ခင်က တောက်တီးတောက်တဲ့"

"ဟာ မောင်ကလဲ တဖွတ်ထိုးကြီးပဲကိုး၊ စုန်းမကြီး မောင်ရဲ့၊ စုန်းမကြီး"

"ခင်ကလဲ ခေတ်ပညာတတ်တစ်ယောက် ဖြစ်ရဲ့သားနဲ့ကွာ"

"ဟာ ခင်တော့ကြောက်တယ်၊ ဘာပြောပြော ဒီရွာတောင် မနေဝံ့တော့ဘူး"

မိန်းမတို့၏ သဘာဝသည် ခေတ်မီ မမီ၊ ပညာတတ် မတတ် တကာယ်တမ်းကျလျှင် ဟန်ဆောင်၍မရ၊ ယေဘုယျချည်းသာဖြစ်ကြောင်း ကျွန်တော် သဘောပေါက်လိုက်သည်။ ချစ်ချင်လျှင် ချက်ချင်း၊ မုန်းချင်လျှင်ချက်ချင်း၊ စေတနာပိုချင်လျှင် သူတို့၊ မသဒ္ဓါချင်လျှင်လည်း သူတို့၊ စော်ကားချင်လည်း မယ်မင်းကြီးမ၊ ဝန်ချလိုလျှင်လည်း မယ်မင်းကြီးမ၊ သူများပြောလျှင် ဆောလျင်စွာ ယုံတတ်ကြသည်မှာလည်း မိန်းမ၊ ယထာဘူတဘာကလေးမှ ငုံကွက်၍ မစဉ်းစား၊ ဒါတွေကြောင့် တချို့ယောကျ်ားတွေ မိန်းမအလိုလိုက်၍ နတ်ယုံ၊ ဗေဒင်ယုံ၊ ခတ်ရိုက်သော ဘုန်းကြီးကိုယုံ အဖုံဖုံလိုက်၍ ရူးကြရသည်။

"ခုနေ လိုက်ပြီး တောင်းပန်ရရင် မကောင်းဘူးလားဟင်။ တောင်းပန်ပေးပါ မောင်ရယ်။ တော်တော်ကြာ အို ခင်တော့ သိပ်စိတ်ညစ်တာပဲ။ မောင်ကလဲ အေးစက်စက်ကြီး"

မျောက်မီးခဲကိုင်မိသလို နေမထိ ထိုင်မထိ ခင်က ဖြစ်နေသလောက် ကျွန်တော်ကတော့ စဉ်းစားနေမိသည်။ အခုနေ အမယ်ကြီး အရိပ်အခြည်ကို လိုက်၍ ကြည့်ရကောင်းမလား ဒါမှ သိသိသာသာ သစ်တုံးနှင့် မိကျောင်း ကောင်းကောင်းကြီး ခွဲခြားနိုင်မည်။

ခင့်အနားက ကျွန်တော် အထလိုက်တွင် ခင်က ပူဆာလိုက်သေးသည်။

"မြန်မြန် ပြန်ခဲ့နော်၊ ခင်တစ်ယောက်တည်း ကြောက်တယ်"

ဒေါ်အိုဇာတို့ တဲကလေးမှာ ရွာနောက်ဖေးတန်းတွင် အတော်ကလေး ခနော်နီခနော်နဲ့ နိုင်လှသည်။ နိမ့်လျှိုးသောတံစက်မြိတ်က တဲတွင်းကို အလေးပြုပြီးမှဝင်ရအောင်ရှိသည်။ အမိုးအကာမှာ ဟောင်းနွမ်းပေါက်ပြဲနေသောဓနိဟောင်းများသာ ဖြစ်သည်။ ဆင်းရဲလှသော သူတို့၏ ပရိယေသနကို တဲမြင်ရရုံနှင့် သိနိုင်သည်။ ဤတဲသို့ ကျွန်တော်တစ်ခါမှမရောက်ခဲ့ဖူး။ ယခုလည်း လာသာလာရသည် ဘာကိစ္စကို ရမည်ရှာရန် မသိ။

တဲနားရောက်လျှင် ကျိတ်၍ ငိုလိုက်သံတစ်ချက်သည် ကျွန်တော့ခြေလှမ်းကို တုံ့ဆိုင်းသွားစေသည်။ ထို့ကြောင့် ခဏလေး ရပ်မိသည့်အတွင်း ဆက်၍ ရှိုက်သံများ ကြားရပြန်သည်။

"ငိုမနေနဲ့ မိအို၊ နေရာတကာ စပ်စပ်စပ်စပ် လုပ်တာ အပြောခံရတာနည်းသေး၊ ထွီး"ဟု စိတ်လိုက်မာန်ပါ တံတွေးကို ပစ်ပစ်ခါခါ ထွေးလိုက်သော အဘိုးကြီး၏ အသံများမှာ ရှိုက်သံကြားက ခပ်အုပ်အုပ်ကလေးပေါ်လာပြန်သည်။

"မနေတတ် မထိုင်တတ်လို့ တစ်ရွာလုံးက စုန်းမ၊ စုန်းမနဲ့ ပြောကြလှပြီ။ ဒါနဲ့လဲ အမှတ်မရှိဘူး၊ သွားလိုက်ရတာ၊ လုပ်လိုက်ရတာ၊ အိမ်ပစ်ရာပစ် နောက်ပြီးတော့လဲ အခုမှတွေ့ရတဲ့ သူစိမ်း၊ ကိုယ့်သားသမီးကျနေတာပဲ ဩဇာပေးလိုက်ရတာကလဲ"

"ဒါကတော့ ကျုပ်က ဘယ်သူ့ပေါင်းပေါင်း သွေးရင်းသားရင်းမှတ်တာကိုး။ နောက်ပြီး ကလေးမကလေးက လုံချည်အဟောင်းပေးပိုက်ဆံပေး၊ ဆန်မရှိ ဆန်ပေးနေတယ် မဟုတ်လား။ ကိုယ့်လုပ်စာနဲ့ အိမ်မှာ လောက်လို့တဲ့လား။ သူများပေးစာကမ်းစာ စားနေရတာကိုး"

"အေးလေ ပေးတယ်ထားပါဦး။ သွားတာလာတာက တန်ရုံ ကောင်းတယ်။ မရှိုးနိုးနိုး၊ မလှ စုန်းနိုးနိုးဆို သမုတ်လား။ ဘယ်သူ့ဖြစ်ဖြစ် ပေါင်းလိုက်ရင် ဖက်လဲဘနမ်း သူများအိမ်ကကလေး အင့်ခနဲ ငိုသံ ကြားလဲ သွားပြီ။ မခေါ်ဘဲလဲ မသွားနဲ့တဲ့၊ ခုတော့ ဟုတ်ပေါင်"

"ဒါကတော့ ကျုပ်စေတနာကိုးတော့။ နေမှ မနေတတ်ဘဲ"

"မနေတတ်လို့ တစ်ရွာလုံးက သမုတ်ကြတာပေါ့"

"ဟုတ်ပါတယ်တော်၊ ဟုတ်ပါတယ်။ ကျုပ်စေတနာတွေ ဝေဒနာ ဖြစ်ရတာပါပဲ။ ကျုပ်ကံကိုက ဆိုးပါတယ်၊ ဆိုးပါတယ်"

ဒေါ်အိုဇာ၏အသံမှာ ဝမ်းနည်းကြေကွဲစွာ ငိုရှိုက်ရင်း အဆုံးသတ် လိုက်သည်။ ကျွန်တော့မှာ အဘိုးကြီး အမယ်ကြီး ပြောစကား အရင်း အဖျားကို စဉ်းစားလိုက်မိသည်နှင့်တစ်ပြိုင်နက် ဝိတက် ဝိစာရတွေ လွင့်ပျောက်ကုန်ရပါသည်။ ထို့ကြောင့် တဲတွင်းသို့ ခေါင်းလျှိုးဝင်လိုက် လျှင်ပင် နှစ်ယောက်စလုံး အံ့အားသင့်သွားကြပါသည်။

"ဟင် စာရေးကြီး"

"ဟုတ်ကဲ့ ကျွန်တော့မိန်းမ နေမကောင်းလို့"

"မောင်က ကျုပ် ပြစားတယ်ထင်လို့လား"

"ဟော မိအိုဇာတို့ကတော့ အပြောမတတ် ဆဲသလိုဆို ဖြစ်နေပြီ။ ဒီမှာ စာရေးကြီးရယ်၊ စိတ်မဆိုးပါနဲ့နော်။ ဒီဟာမကြီးက ဘာမှမဝင်ဆံ့ ဘူးကွဲ့"

အဘိုးကြီးက အားတုံ့အားနာနှင့်ဝင်၍ တောင်းပန်နေရှာပါသည်။

"ဒါမျိုးတွေကို ကျွန်တော် အယုံအကြည် နည်းနည်းမှ မရှိပါဘူး ဘကြီးရယ်။ ဘယ်သူက ဘာပြောပြော ကျွန်တော်မယုံပါဘူး။ ခုဖြစ်တာ လဲ သွေးရိုးသားရိုး ဖြစ်တာပါ"

"ဘယ် သွေးရိုးသားရိုးရမလဲကွဲ့။ မင်းမယား ဗိုက်ကြီးတာ ဗိုက်ကြီးတာ။ ငါသိပြီးပြီ။ သွေးအရပ်မှာ ခေါင်းလျှော်တော့ အအေးပတ်ပြီး ရင်တလှပ်လှပ်နဲ့ မူးသွားမှာပေါ့။ ဒါပါပဲ။ မိအိုဇာတို့ကတော့ ဒီလို ဘက်ကတော့ နောနေလို့ မပြောဘဲနဲ့ အစဉ်းသိသပော့ နားလည်လား။ ကျုပ်ကို ခွပြောလိုက်လို့ စိတ်ကောက်နေပေမဲ့ ဖြစ်တယ်ဆို ချက်ချင်း လာခေါ်မှ ကြိုက်တာ။ ခုတော့ ငါ့မှ အရေးမလုပ်ကြဘဲ။ ဒါတောင် မနေနိုင်လို့ လူကြီးတန်မဲ့ အရှက်ငဲ့ပြီး ကျုပ် ခုနကပဲ လာပါသေးတယ်။ ကျုပ်ကို စုန်းမကြီးလို့ သူတကာတိုက်တာယုံပြီး ပြောကြတော့ ကျုပ် ဒေါသဖြစ်ပြီး ပြန်ခဲ့တာပေါ့"

အမယ်ကြီးက ဒေါသဖြစ်ဖြစ်နှင့် ကျွန်တော့ကို ဖိ၍ ရန်တွေ့နေ သည်။

"အို ကွာ မိအိုဇာကလဲ လာခေါ်ရှာတဲ့ လူကို အေးအေးသက်သာ ပြောစမ်းပါကွာ။ ဒီလိုစာရေးကြီးရေ ဒီလို၊ ကျုပ်တို့မှာက အိုကြီးအိုမနဲ့ သားထောက် သမီးခံလဲ ရှိတာမဟုတ်။ အလုပ်ကလဲ ထမင်းနပ်မမှန်၊ ပြောပါရစေတော့ ကျုပ်တို့ မရှက်ပါဘူး။ ဒီတော့ သူများအိမ် ဝိုင်းလုပ် ဝိုင်းစား သူက သွားသွားလုပ်သဗျ၊ ဒီကောင်မကြီးက ဗေဒင်ကလေးကလဲ မတောက်တခေါက်၊ ကလေးငယ် နာမာတရာကျမ်းကလေးကလဲ မတောက်တခေါက်၊ အနှိပ်အနင်းကလေးကလဲ မတောက်တခေါက်၊ နတ်တို့၊ စုန်းတို့ဆိုတာလဲ ရှေးလူကြီးပီပီ အယူရှိထင်ပါ့ဗျာ။ ဒါကလေး တွေနဲ့ တတ်သမျှမှတ်သမျှ လူစွာလုပ်ပြော၊ လူတတ်လုပ်ကု၊ ပျောက် တဲ့အခါလဲ ပျောက်ပေါ့လေ။ မခေါ်လဲ သွားတာပဲဗျ။ အမြင်မတော် လဲ အာကျယ်ပါကျယ်နဲ့ ပြောခဲ့တာပဲဗျ။ ဒီတော့ စုန်းလိုလို ကဝေလိုလို ထင်ကြသပေါ့။ အဲသည်လို ထင်တာလဲ ရှက်ရကောင်းမှန်း မသိဘူး။ အစားရချောင်တယ်ဆိုပြီး ရောယောင်အထင်ခံမိတာ။ ကြာတော့ သူက

အထင်မခံချင်လဲ မရတော့ဘူး။ တစ်ရွာလုံးက ရှုံ့ကြောက်ကြီး ကြောက်နေတာပဲ စာရေးကြီး"

"ကျွန်တော် သဘောပေါက်ပါတယ် ဘကြီးရဲ့။ တောရွာကလေးတွေ ဆိုတော့လဲ ဒီအယူအဆမျိုးတွေက ကျန်သေးတာကိုး၊ ကဲ ကဲ ကျွန်တော်တို့အိမ်သာ ပြန်လိုက်ခဲ့ပါ။ ခင် စိတ်ကောင်းသွားအောင်။ မိန်းကလေးဆိုတာကတော့ ပြောရင် ယုံလွယ်မယ်၊ ကြောက်လွယ်မယ်ပေါ့ ခင်ဗျာ စိတ်မရှိပါနဲ့"

"မင့်မိန်းမကို ကျုပ် သမီးကလေးအရင်းလို ချစ်တာပါတော်။ လူ့ဘဝ တုံးရပါစေရဲ့"

"အေးလေကွယ် ကျိန်မနေပါနဲ့ မိအိုဇာရဲ့၊ ဒီအမယ်ကြီးကို ဖွေ မယူပါနဲ့နော် စာရေးကြီး။ ခင်ဗျားတို့ ပေးတဲ့ကမ်းတာ သာဓုခေါ်လျက်ပါဗျာ။ သာဓု သာဓု"

ထိုနေ့ကစ ခင်ရော ကျွန်တော်ပါ သံသယကင်းရှင်းစွာဖြင့် အားကိုးအားထား ပြုကြရပါသည်။ တစ်ရွာလုံးက ကျွန်တော်တို့အား ဘာမှ မပြောကြတော့ပါ။ စကားစပ်မိတိုင်း ဒေါ်အိုဇာ၏ စေတနာရင်းကို ဝါဒဖြန့်ပေးသော်လည်း ယုံသလိုလို မယုံသလိုလို အေးစက်စက်နှင့် လုပ်နေကြပါသည်။

ဒေါ်အိုဇာကတော့ သူ့ကိုအခွင့်အရေး အလေးအမြတ်ပြု၍ ပေါင်းလေ ဝမ်းသာ၍မဆုံး၊ တပြုံးပြုံးနှင့် သိမ်းကျုံး၍ အောက်ခြေသိမ်းလုပ်လေ ခင့်ကို ပို၍ ကူညီသည်။ ခင့် ကျန်းမာရေးကို တကယ် ဂရုစိုက်ရှာသည်။ တစ်အိမ်လုံးအား သုတ်သင်လှည်းကျင်းပေးသည်။ စနစ်မကျတာ တွေ့သမျှလည်း ဗျစ်တောက်ဗျစ်တောက်နှင့် မြည်တွန်တောက်တီးသေးသည်။ ဒီအကျင့်ကတော့ ဒေါ်အိုဇာ နည်းနည်းကလေးမှမလျှော့။ သူ့သဘောကို သိထားတော့လည်း ကျွန်တော်တို့ လင်မယားမှာ ပြုံး၍သာ သူကြိမ်းသမျှ

ခံကြရသည်။ သူကြီမ်းတာကိုခံလျှင် အင်မတန်ဝမ်းသာသည်။ တစ်နည်းအားဖြင့်ဆိုသော် ယောက္ခမ၊ မိဘနှင့်နေရသလို စိုစိုပြည်ပြည် ပျော်ပျော်ရွှင်ရွှင် ရှိခဲ့ပါသည်။ ခင့်ကိုယ်ဝန်ကို တစ်နေ့တစ်ခါ မှန်မှန်စမ်း၍ ရှောင်သင့်တာ၊ ဆောင်သင့်တာတွေ ပြောရသည်မှာလည်း အမော။ ဆန်လွှတ်နန္ဒင်းကို ကိုယ်တိုင်ထောင်းရသည်ကလည်း အမော။

ဤသို့နှင့် လေးလလောက် လွန်ခဲ့သည်။

တစ်နေ့သော် ရန်ကုန်ရုံးကြီးမှ ကျွန်တော့အား ပြန်၍ ခေါ်သဖြင့် လိုက်၍ နှုတ်ဆက်ရပါသည်။ ကျွန်တော်တို့ ပြန်၍ ပြောင်းရတော့မည်ဟု ကြားလိုက်ရသည်နှင့် တစ်ပြိုင်နက် ဒေါ်အိုဇာကြီး ရှုံ့မဲ့ချ၍ ငိုပါတော့သည်။ ခင့်မှာလည်း မျက်ရည်စက်လက်။ အကယ်၍သာ အမယ်ကြီးတစ်ကိုယ်တည်းဆိုလျှင် ကျွန်တော်တို့ ခေါ်ခဲ့မည်အထိ စေတနာရှိပါသည်။ ယခုကား သူကလည်း မလိုက်နိုင်။ အဘိုးကြီးကလည်း မခွဲနိုင်။

သွားမည့်နေ့ ငွေငါးဆယ်နှင့် ထိုင်၍ ကန်တော့ကြသောအခါ အဘိုးကြီးပါ မျက်ရည်ကျရှာပါသည်။

"သာဓုပါ မောင်တို့ရယ်၊ သာဓုပါ သာဓုပါ။ ကျုပ်တို့မှာ ဒီလောက် ငွေမျိုး မကိုင်ခဲ့ရတာ အနှစ်နှစ်ဆယ် ကျော်ခဲ့ပါပြီ။ နောက်လဲ သေသာသေမယ် ကိုင်ရတော့မှာမဟုတ်ပါဘူး။ သားသမီးအရင်း မွေးထုတ်ထားတောင် မောင်တို့လင်မယားလောက် သဒ္ဓါချင်မှ သဒ္ဓါကြမှာပါ။ ဒါတွေထက် ဝမ်းနည်းတာကတော့ တစ်ရွာလုံး အထင်သေးနေတဲ့ဘဝမှာ မောင်တို့လို ခေတ်ပညာတတ် အထက်တန်းစား မြို့ကြီးသားတွေက ပေါင်းပြကြတာ အရည်လည်တော့မယ်လုပ်ခါမှ အားကိုးရာမဲ့တဲ့ မျက်နှာငယ်ဘဝ ပြန်ရောက်ရတာ ဝမ်းနည်းတာပါပဲ။ ကဲ ကဲ သွားကြရော သွားကြရော"

အဘိုးကြီး ပြောအပြီး ဒေါ်အိုစာကား ဘာတစ်ခွန်းမှ မပြောဘဲ အောင့်၍ ရှိက်နေရာက ပေါက်ကွဲကာ "အမယ်လေး သမီးကြီးရဲ့"ဟု ခင့်ကို တအားဖက်ငိုပါတော့သည်။ ကျွန်တော်တို့မှာ သံယောဇဉ် အဘယ်မျှ ကြီးမားကြောင်း ကိုယ်ကိုယ်တိုင် အခုမှ သိကြရပါတော့သည်။

ရန်ကုန်သို့ ပြန်ရောက်ခဲ့၍ လေးငါးလကြာသည့်တိုင်အောင် ဒေါ်အိုစာကြီးအကြောင်း နေ့စဉ်ရက်ဆက် ပြော၍မပြီး၊ ပြောတိုင်း ပြောတိုင်းလည်း ဝမ်းနည်းမိပါသေးသည်။ ထိုသို့ ဒေါ်အိုစာကြီးအား မမေ့နိုင်သည့်အကြောင်းကတော့ တစ်နေ့တခြား ရင့်မာလာသော ခင်၏ ကိုယ်လေးလက်ဝန်ကိစ္စ ဖြစ်ပါသည်။ ရှေးလူကြီးပီပီ နားလည်သည်။ ရှေးလူကြီးပီပီ ဂရုစိုက်ရာစိုက်ကြောင်း တတွတ်တွတ်နှင့် သွန်သင်ပေးခဲ့ ရှာသည်။

မှတ်မှတ်ရရ ခင် မီးဖွားသည့်နေ့ပင် ကျွန်တော် ရန်ကုန်၊ ရွှေဘုံသာ လမ်းသို့အလာ စာဖြူစုရွာက ပန်းထိမ်ဆရာကိုစိန်အုပ်နှင့် ပက်ပင်းတိုး မိပါသည်။ ချက်ချင်းပင် သတိရ၍

"ဒေါ်အိုစာကြီးတစ်ယောက် ရှိသေးရဲ့လားဗျာ"

"ဟာ စာရေးကြီးရေ၊ ဒေါ်အိုစာကြီးအကြောင်း ပြောရမှာများ သနားပါသေးဗျာ"

"ဘာဖြစ်လို့လဲ ဆုံးရှာပြီလား"

"သူ့ပုန်တွေအတက် သေနတ်မှန်လို့လား"

"အင်း သူပုန်အတက်တော့ သူပုန်အတက်ပဲ။ သူပုန်တက်တုန်းမှာ ပေါ့။ ဒီလိုဗျို့ ဒီလို၊ ခင်ဗျားမိတ်ဆွေ စပါးပွဲစား ကိုဘိုးဟန်က သူ့ သားကလေး ဖျားသေတာ ဒီမိန်းမကြီး ပြုစားလို့ပါဆိုပြီး ဓားနဲ့တက်ခုတ် သဗျာ။ မိုက်လိုက်တဲ့အကောင်"

"ဟောဗျာ၊ ဖြစ်မှဖြစ်ရလေ။ သူ့ခဗျာ မဟုတ်ရှာဘဲနဲ့ဗျာ"

"အေးလေ၊ သူတို့က တယ်ပြီး အစွဲအလမ်း ကြီးတာ။ ဒါပေမဲ့ ဒီကောင်လဲ သူ့အကုသိုလ်နဲ့သူ သူ့ဗုန်က ဝင်သတ်သွားတာပဲ"

"နို့ အဘိုးကြီးကောဗျာ"

"အဘိုးကြီးကတော့ အမယ်ကြီးစိတ်နဲ့ တစ်လသာ ခံတယ်။ လိုက်သွားရှာတော့တာပေါ့"

ကျွန်တော် ကိုစိန်အုပ်နှင့် နှုတ်ဆက်ပြီး ခွဲခဲ့ပါသည်။

စုန်း စုန်း စုန်း တဲ့။

သာသနာ နေလိုလလိုထွန်းအောင် ဆဋ္ဌသင်္ဂါယနာကြီးတင်တော့မည်ဆိုသည့်ဆဲဆဲ ဗဟိဒ္ဓမိစ္ဆာ အယူလွဲတွေကို ချွတ်လွဲတော်မူနိုင်ကြသည်သာ ဗုဒ္ဓဝါဒ ပထမသာသနာ။

[ရှုမဝ]

# သားယောက္ခထီး

မိဘနှင့် သားသမီး၊ ညီအစ်ကိုမောင်နှမ၊ တူ တူမ၊ လင်မယား ဇနီး၊ ခင်ပွန်းဟူ၍ ဤလူ့ဆွေမျိုးပေါက် (ကူညီလိမ့်)၊ ပုလ္လိင် ခွဲခြားနိုင်ပါလျက် သမီးယောက္ခမ ဆိုသော ဆွေမျိုးကျကာမှ လိင်ခွဲခြား မပြုသည်မှာ ကျွန်တော်တို့မြန်မာ ပြည် ဝေါဟာရ ချို့ယွင်းနေလို့လားဟု ထင်မှားစရာ ဖြစ်တော့သည်။

သား၏မိန်းမကို ချွေးမ။

သမီး၏ယောကျ်ားကို သမက်။

ထိုမှဆက်၍ သူတို့နှစ်ဦး ရောစပ်ခေါ်ဆိုရလျှင် သား၏ဇနီးနှင့် မိခင်ကြီးအား သမီးယောက္ခမဟု ခေါ်နိုင်ရုံသာရှိပြီး သား၏ဇနီးနှင့် ဖခင်ကြီးအား သမီးယောက္ခထီးဟု ခေါ်ရတော့မလို ဖြစ်နေလျက် သမီး၏ ခင်ပွန်းနှင့် မိခင်ကြီးအား သားယောက္ခမဟု ခေါ်ရကောင်းနိုးနိုး၊ သမီး၏ ခင်ပွန်းနှင့် ဖခင်ကြီးအား သားယောက္ခထီးဟု ခေါ်ထိုက်သလိုလို ဖြစ်နေပြန်တော့သည်။

မည်သို့ပင်ခေါ်ခေါ် ဆက်ဆံရေးအပေါ် ကြည့်လိုက်လျှင်တော့ သားကို မိခင်ကချစ်၍ သမီးကို ဖခင်က ချစ်သလို ချွေးမနှင့်ယောက္ခမ မတည့်ကြတာများ၍ သမက်နှင့် ယောက္ခထီး အဆင်မပြေတာချည်းသာ တွေ့ရတတ်သည်ကို ထောက်ပါမူ လိင်တူချင်းမို့ မြင်ပြင်းကတ်နေကြဟန် တူပေသည်။

ဟုတ်ပါလိမ့်မည်။ မိန်းမချင်းဆိုတော့ မဲ့ကာရွဲ့ကာ၊ စောင်းကာ မြောင်းကာ၊ ရုကာဆောင့်ကာ၊ အတင်းပြောတာ၊ သက်သာနိုတာ၊ ငါ တတ်လုပ်တာ၊ သဝန်ကြောင်တာ၊ ဩဇာပေးချင်တာ၊ ဂိုဏ်းခွဲချင်တာ တို့ဖြင့် စရနယ်ထားသော မိန်းမစိတ်ကို မွေ့မွေ့ချင်း ခြေမြင်၍ ထစ်ခနဲ ဆိုလျှင် သိလိုက်ကြ၊ ရိပ်မိလိုက်ကြ၊ ကိုယ်ချင်းစာကြသောကြောင့် နိုင်ချင်ကြကြက်လို မိုလ်လုနေကြခြင်းသာ ဖြစ်လေသည့်နည်းတူ သားနှင့် ယောက္ခထီးကျတော့လည်း ထိုနည်းနှင်နှင်။ လျှင်သူချင်း ကြမ်းပိုးကျခဲ့၊ ကလိန်ကျခဲ့ ခွက်ပုန်းတုတ်ခဲ့သမျှ၊ စက်ပုန်းခုတ်ခဲ့သမျှ 'ဂျင်'ကျ။ မြှာလိုက် ဝါသနာစရိုက်တွေ ထပ်တူထပ်မျှ သုံးဆယ့်ခုနစ်မင်း ပန်း မကိုင်ဘဲ ကျခဲ့ကြသည်ကို အသီးသီး နောစကေ နောနေကြခြင်းကြောင့် ရှိပါနှင့် ပခန်း ဉာဏ်စမ်းရင်း မျက်နှာချင်းဆိုင်နေကြပုံ ရလေသည်။

ထို့ကြောင့် ပွဲစားကြီးဦးရွှေလုတ်သည် လိင်တူဖြစ်သည့် တစ်ဦး တည်းသော သမက်အသစ်စက်စက် မောင်ဟန်လှကို မနှစ်လို မရှုစိမ့် ဖြစ်ခဲ့ဟန်တူသည်။

"မင့်သမက် ကြည့်ရတာ မင်းသဘောတူလို့သာ နေလိုက်ရ။ ငါ့မျက်စိထဲတော့ ကြမ်းပိုးကျမယ့် အကောင်ပဲ"ဟု ပွဲကတော်ဒေါ်ရွှေအိ ကို ဖိ၍ချည်းသာ အပြစ်တင်တတ်သည်။

"တော်က ဒီလို ဦးစွန်းပက္ခ မပြောချင်ပါနဲ့တော့။ လူဟန် ချောတယ်၊ အပြောချိုတယ်၊ လူကြီးမိဘကို ရိုသေတယ်၊ နေရာတကာမှာ ဖင်ပေါ့တယ်၊ ထထကြွကြွ ရှိတယ်။ ဒါတွေတော့ တော်က မမြင်ဘူး"

"ဟဲ ဟဲ ဟဲ ဒါတွေဟာ ငါက ဖြစ်သွားတာတွေပါဟ မယ်အိရ၊ မင်းတို့ မိန်းမသူတွေက ဒါတွေတွေ့ရရင် သဘောကျတယ် မဟုတ်လား။ ဟား ဟား ဟား အဲဒီလို ကန့်ကလျ ပျော့စိစိလူမျိုးပေါ့၊ ပျော့ပျော့နဲ့ နံ့တဲ့ကြောင်ချေးဆိုတာ"

"နေပါဦး၊ တော်က ဒီလောက် မှိုချိုးမျှစ်ချိုး ပြောနေရတာက ဘာများ သူ့အကြောင်း မကောင်းတာတွေ သိထားလို့လဲဟင်၊ ပြောစမ်းပါဦး။ တကတဲ အရပ်ထဲက မနာလိုတဲ့လူတွေတောင် ဒီလောက် ကျုပ် သမက်ကို အထင်မသေးဘူး။ ချင့်ကြည့်စမ်းပါဦး။ ပညာက ဘီအေ၊ ရောင်းရေးဝယ်တာမလဲ ကုမ္ပဏီကလေး သူဖွင့်လို့၊ ပစ္စည်းဆိုလဲ လေးငါး ခြောက်သိန်းစနဲ့လောက် ပါလာသေးတယ်။ အဲ ပါးရေနပ်ရေရှိတာ တို့ လည်လည်ဝယ်ဝယ်ရှိတာတို့ကတော့ ကြီးပွားမယ့်လူ တစ်ယောက် ရဲ့အရည်အချင်းမျိုး မဟုတ်လား။ ဟင်း ကျုပ်က ဒါတွေ သိလို့ ကိုယ့် သမီးနဲ့ အမိဖမ်းလိုက်ရတာ တော်ရေ့။ သိရဲ့လား၊ သိရဲ့ လား။ ဟင် ကျုပ်က အခုမှ ဖွင့်ပြောမယ်။ ဒါ ကျုပ်လျင်လို့ ဒီသမက်မျိုး ရတာ နားလည်လား။ စီးပွားရှာမယ့် ယောကျ်ားကလေးများ လည်စမ်းပါစေ တော်၊ လည်လို့ ကျုပ်ကိုရောင်းစားတောင် ကျေကျေနပ်နပ် ခံလိုက်ဦးမယ်။ နလပိန်းအနွများတော့ ကျုပ်က ထမင်းချက်အစေခံတောင် မလိုချင်ဘူး"

"အင်း အင်း မလည်ကြိုက်၊ မလည်ကြိုက်ကြီး။ တော်တော်ကြာ ခင်ဗျားတို့အပေါ်မှာ လည်သွားမှာပဲ"

လူပါးကြီး ဦးရွှေလုတ်ကတော့ အပွေးမြင် အပင်သိသလောက် ဒိုးဒိုးဒေါက်ဒေါက် ပြောချလိုက်လေသည်။ ဒါကိုပဲ ဝဝအီအီ မရွှေအီ က ကသိကအောက် ခံလိုက်ရလေသည်။ သို့ပေမယ့် ပြန်တော့ ပက် လိုက်ပါသေး၏။

"ဘာလည်မလဲ၊ ဘာလည်မလဲ ပြောစမ်းပါဦး၊ ပစ္စည်းရေးမှာ လည်မလား၊ အသောက်အစားမှာ လည်မလား၊ ကိုယ့်သမီးကို နှိပ်စက် ကလူပြုအောင် လည်မလား။ ဟား ဟား ဟား မရွှေအီတို့က ဒါတွေ ပြေးမြင်ထားလို့ အိမ်ခွဲမနေဘဲ ဥမကွဲသိုက်မပျက် အတူနေရအောင် ခေါ်ထားတာပေါ့ ကိုရွှေလုတ်ကဲ့ ရှင်ရိပ်မိရဲ့လား။ ဟင်း လူလည်လူနပ်

ကြီးရဲ့ ကိုယ့်အိမ် ကိုယ့်မျက်စိအောက်မှာ နေနေတော့ ငွေဘယ်လောက်ဝင်တယ်ဆိုတာ သိတယ်။ ကိုယ့်သမီးကို အရေးပေး၊ ဦးစားပေးရမယ်။ အဆွယ်အပွား သူ့ဆွေမျိုးသားချင်းတွေကို ခေါ်ထားချင်သလို မထားနိုင်ဘူး။ ယုတ်စွအဆုံး ဘယ်လူနဲ့ စကားပြောလို့ ဘယ်လူက တွေ့ရအောင် လာတယ်၊ ဘယ်အချိန်က ထွက်သွားတာတာ၊ ဘယ်အချိန်ပြန်လာတယ်ဆိုတာမျိုးကအစ ကိုယ် သိရပြီ မဟုတ်လား။ ဟင်း သင်းဒီတော့ ပွေချင်လေဦး၊ ခြေချုပ်နဲ့ပါလား တော်ရဲ့"

"အေးပါကွာ၊ မင်းတို့ အနိုင်ယူပါ အနိုင်ယူပါ"

"ကျုပ်က ဟုတ်တာပြောတာ အနိုင်မယူလို့ အရှုံးပေးရဦးမလား"

"အေးလေ၊ ဒါကြောင့် အနိုင်ယူပါလို့ ပြောပါကော"

"ရှင်ပြောလိုက်မှဖြင့် အထွန့်ကလေးနဲ့"

"ဝါး ဟား ဟား အိပ်တောင် အိပ်ချင်လာပြီကွာ"

"ဒါပဲ သူ့ပြောလိုက်ရင်"

ဒေါ်ရွှေအိက သူ့တင်ပါး အိပက်ပက်ကြီးကို တောင်ဆင်းတောင်တက်ဖြစ်သွားအောင် ဆောင့်ဆောင့်ကလေးထွက်သွားလေရာ ကိုရွှေလုတ်ကတော့ ပြုံး၍သာ နေလိုက်ပါတော့သည်။ တကယ့်တကယ်ကျတော့ မိန်းမကျမ်းကျေသော ဦးရွှေလုတ်သည် သူ့မိန်းမကို ဘယ်အခါမဆို နှုတ်ရေးပြိုင်၍ အနိုင်မယူခဲ့ပေ။

ဝါစာကမ္ဘ၊ နားအေးအောင် အလျှော့ပေး၍ ကွယ်ရာကျတော့မှ သူလုပ်ချင်သမျှ သဘောကျ လုပ်လေ့ရှိသည်။ အဲဒါမှ နှစ်ဦးနှစ်ဖက် အနိုင်မခံ အရှုံမပေးဆိုသောဝါဒကို ကိုယ်စီကိုယ်င ပီတိသောမနဿ ဖြစ်ကြရသည် မဟုတ်ပါလော။

အိမ်တွင်းတွင် မရွှေအိ သဘောကျ ပြောသမျှ ငုံ့ခံရသည်နှင့် ကာမိအောင် အပြင်ဘက်ကျတော့ အရက်ကလေးကိုလည်း တမြမြ၊

မယားငယ်ကလေးတွေနှင့်လည်း တကြွကြွ၊ ဒါတွေကို အိမ်က ကြက်မကြီးက မသိလုံး၀။

တကာယ်ဆိုတော့လည်း ယောကျ်ားတွေ လည်သမျှ၊ အိမ်တွင်းက မိန်းမ ဘယ်သိကြမတုံး။ မိန်းမဟူသည်ကား အတူနေဆွေမျိုး အဝေးနေဆွေမျိုး ပံ့ပိုးနေရလျှင် ကျေနပ်နေကြသည်။ ယောကျ်ားဘက်က ဆွေမျိုးတွေ တစ်ခါတလေ လာ၍ အောက်ကျို့ပြီး အပေါင်းအသင်း ခံနေရသည့်အရသာပင် အတော်ကြီး မှိုင်းမိနေတတ်ကြသည်။ ဦးရွှေလုတ်က ပါးလုပ်သောဉာဏ်ဖြင့် ဤသို့ တွေးကာ အခွင့်အရေး အကုန်ပေးထားခဲ့သည်။

ယခုပင် မအေပစ်သွားသော မရွှေအိ၏ တူကလေး၊ တူမကလေးနှင့် အဒေါ်ကမွေးသည့် ညီမအထွေးကလေး ဆိုသူတို့ကိုပင် ခေါ်ငင်ကျွေးမွေး သုတ်သင်ပေးခဲ့သည်မှာ နမစုံမွေး သမီးကလေးဒွေးဒွေးလှနှင့် မတိမ်းမယိမ်း ဖြစ်လာခဲ့လေပြီ။

မိမိနှင့် မင်္ဂလာဆောင်ပြီး၍ တစ်နှစ် မပြည့်သေးခင်

"ကိုရွှေလုတ်ကယ်၊ သင်းကလေးတွေကိုတော့ သဒ္ဒါပါနော်။ ကျုပ်ကလွဲပြီး အားကိုးစရာရှိရှာတာ မဟုတ်ဘူး။ ဒီလို ကျွေးမွေး ဆင်ပြင်ထားရင်လဲ ရှင့်ဂုဏ်ပါပဲ။ ဟုတ်ဘူးလားဟင် ဟုတ်ဘူးလား။ အရပ်ကလဲ တော့်ကို အတော်သဘောပြည့်ဝတယ်လို့ ကြည်ညိုကြမယ်။ ကျုပ်ဆွေမျိုးတွေကလဲ မယ်အိတစ်ယောက် တယ်လင်ကံကောင်းသတော်လို့ ကျုပ်ကို ချီးမွမ်းကြမယ်။ အေးလေ၊ ဒါလဲ ရှင့်ကို ချီးမွမ်းရာကျတာပါပဲ။ ဟုတ်ဘူးလား ဟုတ်ဘူးလားလို့ဟင်၊ ကြည့်စမ်းပါဦး။ သူကလဲ စကားဖြင့် နားမထောင်ဘူး။ ဖယ်စမ်းပါဦး၊ ဖက်ထားလိုက်တာ တကတဲနော်လို့ နော်လို့"ဟု ဓားမကြီး ပွဲပွဲကွာဆိုတဲ့ အချိန်ကောင်းမှရွေးပြီး အဆိုတင်သွင်းသောကြောင့် ကန့်ကွက်စရာ မရှိ၊ ပီတိနှင့် ခွင့်ပြုခဲ့ဖူးသော

ကျေးရှူးကလေးမှာ တကယ်အရေးမပါသော စကားစစ်ထိုးပွဲကလွဲလျှင် မိမိမယားကဝတ္တရား ကျေပွန်၍ အပြုအစု အယုအယ အိမ်ဦးကထားပြီး ဘုရားတစ်ဆူ ဂူတစ်လုံး မှတ်ထင်စေလေ၏။

ထို့ကြောင့် ထိုအတွက် ဦးရွှေလုတ်နှင့် ဒေါ်ရွှေအိတို့ တစ်သက်တွင် တစ်ယောက်ကလည်း လူပါး၊ တစ်ဦးကလည်း မိန်းမပါးအဖြစ်ဖြင့် ကိုယ့်အထင်နှင့်ကိုယ် သာယာစိုပြည်နေကြလေသတည်း။

သူတို့သမီး ဌေးဌေးလှကျတော့ မိခင်ကြီးလောက်လည်း မလည်၊ ဖခင်ကြီးလောက်လည်း မကြွား၊ သားသားနားနား လှလှပပနှင့် ခေတ်ဗဟုသုတ ပြည့်ဝရုံကလေး ရှိခြင်းကြောင့် လူတိုင်းစွဲမက်ခဲ့ကြရသည်။ လူပျိုတိုင်း ပိုးခဲ့ကြရသည်။

တစ်နေ့သော် ကျွန်ုပ်တို့ဇာတ်လိုက် မောင်ဟန်လှနှင့် ဘဝကရေစက်ပန္နက်ဖူးသော သစ္စာ၊ မေတ္တာနှင့် ချစ်တာစုပြီး လဟောဏ္ဍု မင်္ဂလာဆောင်ကြလေသတည်း။

မောင်ဟန်လှအဖို့ ပြောရလျှင် အသက်သုံးဆယ်ကျခါမှ လူပျိုကြီးဘဝကို စွန့်လွှတ်လိုက်ကြသည့် ကာလသားပီပီ ယခင်ယခင်အခါများက ရည်းစားတွေ မှိုလိုပေါက်အောင် ထားခဲ့ဖူးပါသည်။ သောက်သောက် စားစား လူမင်းသားလည်း လုပ်ခဲ့ဖူးပါသည်။ တစ်ခါနှစ်ခါကများ ယခု ယောက္ခမကြီး ဩော် ယောင်လို့ ယခု ယောက္ခထီးကြီးနှင့်မတော်ရသေးခင် အတွင်းဝန်ကလေးအိမ်တစ်အိမ်၌ အတူတွေ့ခဲ့မိဖူးပါသေးသည်။ ယခုအခါမှ ဒါတွေတွေးတွေးပြီး မျက်နှာပူဖြစ်တော့ရာ ယောက္ခထီးကြီးကလည်း ဒါကြောင့်ပင် သမက်ကို မကြည်ညိုဘဲ 'ငါ့လို အကောင်ပါတကား'ဟု မျက်နှာထား မရျိုချင်အောင် ဖြစ်ရလေသည်။

သို့သော် သို့သော် မောင်ဟန်လှမှာ အတိတ်က မောင်ဟန်လှမဟုတ်တော့ပါ။ ဌေးဌေးလှကို တကယ်ချစ်၍သာ အရကုပ်ကပ်ပိုးပြီး

ဟိုးလေးတကျော့်ကျော့် လက်ထပ်ယူခဲ့ခြင်း ဖြစ်ပါသည်။ တော်ရုံတန်ရုံမျှနှင့် တလူလူနှင့် ပျိုနိုင်သော လူပျိုဘဝနာမည်ကို သဂြိုဟ်လိုက်မည် မဟုတ်ပါ။ တကယ်ချစ်၍ တကယ်ညှားကြည့်ပြန်တော့ တကယ်က နှစ်ကယ် ချစ်သည်ထက် ချစ်စရာတွေကို တွေ့ကြုံရ၊ ခံစား စံစားရပြန်လေ ရကား သူမကောင်း ညစ်ကျုခဲ့သမျှ ဉာဉ်ကလေးတွေကို စွန့်ပယ်ပစ်ခွာဖို့ သန္နိဋ္ဌာန် ဒုံးခနဲ ချလိုက်ပါပြီ။

ကိုယ့်မိဘနှင့်အတူ နေရပေမဲ့ ဒွေးဒွေးလှသည် မောင်ဟန်လှကို အတော်ရိုသေသည်။ အတော်အရေးပေးသည်။ မောင်ဟန်လှပြောသမျှ ပြုသမျှ အကောင်းချည်းဟုသာ ယူဆထားသည်။ လင်ခံတွင်း တွေ့တာ ကလေးတွေကိုမှ တပင်တပန်းခံ ကိုယ်တိုင်ကိုယ်ကျ ချက်ကျွေးသည်။

"ဒွေးရယ် မောင် ညောင်းလိုက်တာ"ဟု မပြောရသေးခင်

"ကိုလှ၊ ဒွေး တစ်ချက်လောက် တက်နင်းပေးစမ်းမယ်၊ ကန်တော့နော်။ နှိပ်ပေးချင်တာ လက်က မသန်လို့ အကြောထိမှာ မဟုတ်ဘူး" ဟု မောင်ဟန်လှက ငြင်းနေသည့်အတောအတွင်း နင်းဖြစ်အောင်နင်း ပေးလိုက်တတ်သည်။

"ကိုလှ ထမင်းစားစို့၊ ဖေဖေ ထမင်းစားကြမယ်"ဟု လင်ကို မိဘထက် အမှတ်တမဲ့ ဦးစားပေးမိသောကြောင့် ကိုယ့်လိပ်ပြာကိုယ် မလုံအောင် ကြောင်တောင်တောင်ကလေးများဖြစ်သွားရသည်ကို မောင်လှ ကတော့ ချက်ဆို နားခွက်က မီးတောက်သော လူလည်ပီပီ သနားတောင် သနားမိပါသေးသည်။ သို့ကလို မိမိ၏ မယားအသစ်စက်စက်ကလေးကို သနားလိုက်မိသည်သာမက

"ငါ့သမီးနှယ်၊ ဒီကောင့်များ အရေးလုပ်လိုက်ရတာ လွန်လို့"ဟု ပြောလိုက်ချင်သလို နှုတ်ခမ်းမွေးကြီး ပွစိပွစိကိုလည်း ရိပ်မိလိုက်ပါသေး သည်။

"မောင် မောင်လုပ်ချင်တာ၊ မောင်ဖြစ်ချင်တာတွေ မှန်သမျှ ဒွေး ကို ပြောသာပြနော်၊ ဒွေးက ကိုယ့်မိဘနဲ့နေရတာမို့ မောင် ဘယ် တစ်ချက်မှ မျက်နှာမငယ်စေချင်ဘူး။ ဘုရားစူး၊ ဒွေး တကယ်ပြောတာ ရယ်မနေနဲ့ သိလား။ ဟင်း မောင် စိတ်ကျဉ်းကျပ်တယ်။ အချုပ် အချယ်ရှိတယ် ထင်ရင်လဲ ဖွင့်သာပြောနော်။ ဒွေး စိတ်ကျေနပ်အောင် ဆိုပြီး ဝမ်းထဲ အောင့်မထားနဲ့။ မောင့်နောက်ကို လိုက်ဖို့ အမြဲ စိတ်ထဲ ထားတယ်။ မိဘနဲ့ သားသမီးဆိုတာ ဘယ်တော့မှ မပြတ်နိုင်ဘူး။ ဘယ်တော့မှလဲ မမုန်းနိုင်ဘူး။ ဝေးဝေးနီးနီး ဘယ်နေရာနေရနေရ ဖြစ်တယ်။ အဲ လင်နဲ့မယားသာ ချစ်သော်သက်နှုန်း၊ မုန်းသော်ရန်သူ၊ လောလောလတ်လတ်က ဖြစ်သွားနိုင်တာကို ဒွေး အမြဲသတိထားတယ်။ ဒါ့ကြောင့် မောင့်အမုန်းကို ဘယ်တော့မှမခံပါရစေနဲ့လို့ အမြဲ ဆုတောင်း တယ်။ အမြဲလဲကြိုးစားမယ်။ အဲ ဒွေးက မောင့်မုန်းဖို့ဆိုတာများတော့ လား ဘုရားမှာ သစ္စာပြုဝံ့တယ် မောင်။ မောင် မယုံလဲနေတော့"

ဤလို စကားကလေးမျိုး နားဝမှာ သကာလောင်းလိုက်သောအခါ မောင်ဟန်လှသည် ယုယုယယကလေး နဖူးကို နမ်းမိတော့သည်။ တကယ်ပကတိ ရိုးသားလိမ္မာ၊ ချစ်ရှာသောမယား။ အို မယားကံ ကောင်းလေစွတကား။

မာနချင်းသာပြိုင်ရလျှင် သူ့မိဘတွေက မောင်ဟန်လှထက် ချမ်းသာ သည်။ ချမ်းသာသည်နှင့်အမျှ ဂုဏ်ပကာသနတွေ ဝိုင်းဝိုင်းလည်နေသည့် ပွဲစားကြီး ဦးရွှေလုတ်နှင့် ဒေါ်ရွှေအိတို့က လက်ကိုကိုင်၍ ထိုင်နေသော သတို့သားနှင့် သတို့သမီးတို့ကို လက်ထပ်ပေးရုံကလေးနှင့် သတင်းစာ အသီးသီးတွင် အထူးကျေးဇူးတင်ကြောင်း အရေးတကြီး မင်္ဂလာသတင်း တွေတွင် ပါနေကျဖြစ်သည်။ ယုတ်စွအဆုံး ပွဲထိုင်သွားတာကအစ

ကြွရောက်သူ ကျေးဇူးတင်ရသူ အမည်စာရင်းမှာ ထင်းထင်းကြီးပါလာတတ်သည်။ မိဘသာမက ဒွေးဒွေးလှဆိုလျှင်လည်း အများတကာက ရွှေလိုဥတော့မတတ် အရေးပေးကြရသည်။ သို့တိုင်အောင် လင်ကျတော့ တကယ်နိဂါတနှင့် အောက်ကျခံ၍ ချစ်စရာကောင်းအောင် နေတတ် ပြောတတ် ပြုစုတတ်ပါပေသည်။

မောင်ဟန်လှသည် ယခုမှ သူလည်ခဲ့သမျှ နောင်တရမိသည်။ အသက်သုံးဆယ်မတိုင်မီ ခင်ခင်၊ စိန်စိန်၊ မာဂရက်၊ မကျင်လွမ်၊ အမိနာတို့နှင့် ပွေခဲ့သမျှ ရက်တွေကို နမြော်တသမိသည်။ ဤကြားထဲ တစ်နေ့တခြား ဒွေးဒွေးလှက လိမ္မာရလာလေလေ ကိုယ့်အပြစ်တွေကို ကိုယ်မြင်လာလေ ဖြစ်တော့သည်။

ယခုလည်း သူ့မှာ ဖျက်ခြေ၍ မရသည့် အပြစ်ကြီးတစ်ခု ရှိနေသေးသည်။ ဤအပြစ်မှာ အဘယ်အထိ ပူးကပ် လူကိုနှောင့်ယှက်နေဦးမည် မသိ၊ ခွာချ၍မရသော ထာဝရအပြစ်ကြီးတစ်ခု ရှိသေးသည်။

ကိုယ်ချင်းသာ စာပြောရလျှင် အပြစ်ကင်းသူကို ကိုယ်က အပြစ်ကင်းချင်ယောင်ဆောင်၍ တစ်ဖက်စီးနင်း လိမ်ညာမနေချင်တော့အောင် ဖြစ်လာလေသည်။ ထို့ကြောင့် မိမိအပြစ်ကို ဖြောင့်ချက်ပေးကာ ဝန်ခံ၍ ချစ်သူထံ အသနား ခံချင်လာတော့သည်။ သို့ပေမယ့် သူကြောက်တာ တစ်ခုကလည်း ရှိသေးသည်။ မိန်းမသည် အူတိုမျိုး မဟုတ်ပါလော။ သူ ဖွင့်ပြောသော အပြစ်အတွက် မုန်းရုံငိုရုံနှင့် အပြီးမသတ်ဘဲ အပြီးအပြတ်ရှောင်ကွင်းသွားမှာတော့ သူစိုးသေးသည်။ အရိုးသားဆုံး ဝန်ခံရလျှင် ချစ်မိသောအချစ်က များစွာသောမိန်းမတွေကို ကိုယ်က စွန့်ပစ်ခဲ့သလို ဒွေးဒွေးလှကျတော့ သူက စွန့်ပစ်သွားမှာကိုပင် တွေး၍ ကြောင့်ကြမိပါသည်။

"အိုလေ၊ ထိုင်နေအကောင်းသား ထသွားမှ ကျိုးမှန်းသိ ဖြစ်ကုန်ပါဦးမယ်။ ဗိုလ်နေမြဲ ကျားနေမြဲ ကောင်းပါတယ်"ဟု တွေးသည့်အခါ တွေးမိပြီး အမှတ်တမဲ့ နေသည့်ကြားက တစ်ခါတစ်ခါတော့လည်း

"ငါမတရားဘူး၊ ငါ ဘီလူးက လူယောင်ဆောင်တဲ့ သီလကြောင်ကြီး ဖြစ်နေပြီ။ ငါဟာ တစ်သက်လုံး မပေါ်တော့ဘူးထား၊ လှည့်စားနေရာတော့ ရောက်နေတာပဲ။ အပြစ်မဲ့တဲ့လူအပေါ်မှာ နိုင်လိုမင်းထက် နှိပ်စက်နေတာနဲ့ အတူတူပဲ။ ငါ ဖွင့်ပြောလိုက်မယ်။ သူက ခွင့်လွှတ်ချင်လွှတ်၊ မလွှတ်ချင် လုပ်သမျှခံ။ ဒါက သူ့ဘက်က ဝတ္တရား၊ ငါက ရိုးသားသူကို ရိုးသားစွာဝန်ခံပြီး ပေါင်းရမှာက ငါ့ဝတ္တရား၊ သူလဲ သဘောထား အကြီးသားပဲ"စသည်ဖြင့် တွေးမိတော့လည်း ယောကျ်ားကောင်း တစ်ယောက်လို ရဲစိတ်ရဲမာန်တွေ တဖွားဖွား ပေါ်လာသောကြောင့် အုံးအိပ်ရာ ယှဉ်တွဲပြီး အခန်းထဲ ရောက်နေကြသည့်အခါ

"ဋွေး၊ ဋွေး"ဟု နှစ်ခွန်းဆင့်ခေါ်လိုက်မိသည်နှင့် တစ်ပြိုင်နက်

"မောင် ဘာပြောချင်သလဲ၊ ပြောလေ ဋွေး အိပ်သေးပါဘူး"ဟု သွက်သွက်လက်လက် ထူးပြောပြောလိုက်ပြန်တော့

"ဩော် မနက်ဖြန် မောင် အလုပ်သွားရင်"

"ဟုတ်ကဲ့"

"ဩော်"

"ပြောလေ၊ ပြောပါမောင်ရဲ့၊ ဘာလုပ်ပေးရမှာလဲ"

"ဟို"

"အင်းလေး ဘာကို သတိပေးရမှာလဲ"

"ဟုတ်ပါဘူး။ ဋွေးလိုချင်တယ်ဆိုတဲ့ပစ္စည်းတွေ စာရင်းလုပ်ပေးလိုက်ပါလို့ ပြောမလို့"

"ဩော်၊ မောင်ကလဲ ဒါများ အရေးတကြီးလုပ်လို့"

ဌေးဌေးလှသည် ဒီလိုသာ ပြန်ပြောလိုက်ရသော်လည်း အကြောင်းမမှန်ကြောင်း ရိပ်မိသလိုနှင့် ခပ်ကြောင်ကြောင်ကလေး ကြည့်နေရှာတော့သည်။ သူ မသက်သာခြင်းမှာ ရန်ရှာလို၍ မဟုတ်။ ပြောချင်တာပြောမပြ၍ အားမလိုအားမရ ရှိရပုံကလေးသာ ဖြစ်သောကြောင့်မောင်ဟန်လှမှာ ငါ စမိတာ သနားစရာတောင် ကောင်းနေပြန်ပြီဟုဆုံးဖြတ်မိလေ၏။ သို့နှင့် ဝိတက်၊ ဝိစာရမှာ နေ့ပေါင်းများစွာ ကြာလာသလောက် မောင်ဟန်လှကို ညှဉ်းဆဲနေတော့သကဲ့သို့ မကြာမကြာငိုင်၍ တွေး၍တွေး၍ ငေး၍နေမိသည်။ အလုပ်ထဲတွင်လည်း ဤစိတ်၊အစားထဲတွင်လည်း ဤစိတ်၊ တအုံ့နွေးနွေး ဖြစ်လွန်းမက ဖြစ်လာသောအခါ စိတ်ထောင်း၍ ကိုယ်ကြေရှာတော့သည်။

"မောင်၊ ဌေးကို တစ်ခုခုတော့ ပြောချင်နေတာ ဌေးသိတယ်၊ပြောစရာရှိတာ ပြောစမ်းပါလား မောင်ရယ်၊ ကိုယ့်လင်နဲ့မယားပဲ၊မောင့်စကားကို ဘယ်တုန်းက ဌေးပယ်ခဲ့ဖူးလို့လဲ ပြောစမ်း၊ မေမေတို့နဲ့အိမ်ခွဲနေချင်သလား"

"ဟုတ်ပါဘူး ဌေးရာ"

"အင်း၊ ဒါဖြင့် ငွေရေးကြေးရေး"

"အို ဌေးကလဲ မဟုတ်တာကွာ၊ ဘာမှ ပြောစရာ မရှိပါဘူး"

"အိုလေ၊ ဌေး ရိပ်မိပါတယ်။ ကေ့ နတော့ ကေ့ နပဲ။ မောင့်ဝမ်းထဲမှာ အဆောက်အအုံကြီး ဖြစ်နေတာ။ ခုတလော မောင့်ရုပ်ကို ကြည့်ရတာဌေး သနားလှပြီ။ ပြောစမ်းပါ မောင်ရယ်။ ပြောစမ်းပါ။ မယားကြားစမ်းပါရစေ။ နေပါဦး၊ ဌေးအပေါ်များ မကျေနပ်စရာ အပြစ်တွေ့နေလို့လား ဒီလိုဆိုလဲ ဌေး ပြုပြင်မပေါ့"

"အမယ်လေး ဒွေးရာ၊ ဒွေးအပေါ်များ အပြစ်တွေ့ရမှာလား တွေ့ခြင်းတွေ့ရင် "

"အင်း အင်း တွေ့ခြင်းတွေ့ရင် မောင့်အပေါ်မှာ ဒွေးက တွေ့နေတယ်၊ တွေ့ထားတယ်လို့များ ထင်နေလို့လားဟင်၊ အဝေးကြီး၊ တွေ့စရာ မပြောနဲ့ တွေးတောင် တွေးမကြည့်မိဘူး"

"ဩော် မိန်းမ မိန်းမ"

"ဟာဟ ဒါဖြင့် မောင့်ကို ဒွေး တစ်ခုမေးလိုက်မယ်။ ဖြေမလား"

"ဖြေပါ့မယ်ဗျာ၊ ဖြေပါ့မယ်"

"မေးသာ မေးရတယ်။ ဒွေးမယုံဘူးနော်၊ ဘယ်တော့မှ မယုံဘူး။ မောင် မယားငယ်လိုချင်လို့လား။ ယူထားမိလဲ ဒွေးကတော့ ခွင့်လွှတ်မှာပဲ"

"အို ဒွေး ဒွေး"

"နေပါဦး၊ ဒွေး ဆက်ပြောပါရစေဦး၊ ပါးစပ်ကို လိုက်မပိတ်ပါနဲ့။ အဲ အဲ ခွင့်လွှတ်မှာ ဆိုတာက မောင် စိတ်ချမ်းသာအောင် ဟန်ဆောင်ပြီး အသားယူ ပြောနေတယ် မထင်နဲ့။ နောက်ပြီး ခွင့်လွှတ်နိုင်လောက်အောင် မောင့်ကို ဥပေက္ခာ ပြုဖို့လို့လဲ မထင်နဲ့။ တကယ်ပြောရရင်လေ၊ ယူထားတောင် မောင် အပျော်မယားပဲ ဖြစ်မယ်။ တကယ် ချစ်တာကတော့ ဒွေးကိုမှ ဒွေးတစ်ယောက်တည်းကိုဆိုတာ ဒွေးကသိထားသမှ အသည်းအောက်က ကျောက်ကပ်မှာ စူးနေတာမို့ သိတယ် သိတယ်။ ကဲ ဒါကြောင့် ဝမ်းတောင် မနည်းဘူး။ မောင် ပျော်သလိုသာနေ ပြီးရော"

မောင်ဟန်လှမှာ ဒီစကားလောက်ကျအောင် မျက်ရည်မဝဲဘဲ တင်းမခံနိုင်တော့ပေ။ မျက်ရည်မှာ ပတ်ချွဲနပ်ချွဲနှင့် မယား၏ စိတ်ကို ဆွဲယူသော အရေးပေါ် လက်ကိုင်တုတ် မျက်ရည်မဟုတ်။ တစ်ဖက်သားက ကောင်းပြုလေ၊ ကိုယ်က ကိုယ့်ကိုယ်ကို ဆုံးမပြချင်လေသော

ရင်ထုမနှာ မျက်ရည်အစစ်ဖြစ်ကြောင်း ဒီတစ်ခါမှ မောင်ဟန်လှ သတိရမိပါသည်။ ကိုယ့်ဝမ်းနာ ကိုယ်သာသိသော လက်ကိုင်တုတ်မျက်ရည်များဖြင့် မိန်းကလေးများအား လှည့်စားသုံးစွဲခဲ့ပြီးသည့်နောက် ဤမျက်ရည်များကား ဝင့်လည်သော မျက်ရည်သာ ဖြစ်တော့သည်။

မောင်ဟန်လှ သတိထားမိသောအခါ မိမိသာမက ဌေးဌေးပါ ဘုမသိ ဘမသိနှင့် မျက်ရည်ကလေး ဝေ့လည်လည် ဖြစ်နေရှာပါပြီ။

နောက်ဆုံးကျတော့ မောင်ဟန်လှ စိတ်ကို ဆုံးဖြတ်လိုက်ပါပြီ။ ချောင်းတစ်ချက် ဟန့်၍ သူ့ကိုယ်သူ မာန်ထောင်လိုက်သည်။ ပြီးတော့ သူ့စကားကိုလက်ခံ အပြစ်လွှတ်အောင် သိုင်းသိုင်းဝိုင်းဝိုင်းနှင့် ဟန်ဆောင်မှုကလေးပါ ထည့်၍ ဆင်လိုက်သည်။

"ကဲ ဌေး၊ မောင်ဖွင့်ပြောမယ်"

မောင်ဟန်လှက အရေးကြုံလျှင် သုံးရအောင် ယခင်က လှူလည်စိတ်ကလေးပါ စေတနာအရင်းမှာ ညှပ်၍ ပါးစပ်ရာဇဝင် ခင်းပါတော့မည်။

"ပြောပါ မောင်၊ ဌေး နားထောင်နေပါတယ်"

ကျယ်ဝန်းသော အခန်းထဲတွင် မိမိတို့ လင်မယားမှလွဲ၍ မည်သူမျှ မရှိ။

အိမ်ကြီးတစ်အိမ်လုံး ပတ်ဝန်းကျင်မှာလည်း တိတ်ဆိတ်၍ ယောက္ခမ ယောက္ခထီးကြီးတို့ပင်လျှင် အိပ်ပျော်နေကြဟန် တူသည်။ မိမိစကားကို ကြားက ကြားမည့်သူအတွက် တစ်ဆိတ်တစ်ပေါက်မှ စိတ်ထောင့်စရာ မရှိ။ နှစ်ကိုယ်ကြား နှစ်နားဆင်ပါတော့မည်။

"ပြောလေကွယ်။ မောင်ကလဲ ဌေး ငိုချင်လာပြီ။ ဘာအပြစ်ကြီးဖြစ်ဖြစ်၊ ခွင့်လွှတ်မယ်လို့ ဆိုထားပကော"

"ဒွေးကို မောင်ချစ်တာ ယုံရဲ့လား"

"အို ဒါတွေ မဟုတ်ဘူး။ ဒွေး ကြားချင်တာ"

"မဟုတ်ပါဘူး။ ဒါက စရမယ် ဒွေးရဲ့"

"ယုံသမှ အကြွင်းမရှိ၊ ကဲ"

"အဲသည်လို ချစ်နေလို့ မောင်မှားခဲ့သမျှ ဝန်ချချင်တယ်"

"ကဲ ချ ချ"

"မောင် မျိုသိပ်ထားသမျှ တစ်ဖက်စီးနင်းကျနေတယ်လို့ ထင်ထားတယ်။ ဒါကြောင့် လင်နဲ့မယား၊ တကယ်သစ္စာရှိသော လင်နဲ့မယား အဖြစ်နဲ့ ခြွင်းချက်မရှိ၊ တစ်ယောက်ရဲ့ မှားယွင်းမှုကို တစ်ယောက် သိထားစေချင်တယ်။ ခွင့်လွှတ်ဖို့၊ မလွှတ်ဖို့ မောင် တောင်းပန်နေတာ မဟုတ်ဘူး။ နောက်ပြီး မောင် သစ္စာပြုချင်တာက ဒွေးနဲ့ ညားပြီးမှ ဘယ်မိန်းမဖြစ်ဖြစ် မောင် မပြစ်မှားခဲ့မိဘူး။ နောက်လဲ ပြစ်မှားမိမယ် မဟုတ်တော့ဘူး။ ဘာဖြစ်လို့လဲဆိုတော့ တကယ့်မယားကို မောင် တွေ့ထားပြီ"

"ပြောပါ မောင်ရယ်၊ မယားကို သိန္ဒိတင်မနေပါနဲ့တော့"

"ကဲ အကြောင်းက ဒီလိုဒွေးရယ် မောင်လေ မောင် ဒွေးနဲ့ မတွေ့ခင်က မြဆိုတဲ့ မိန်းကလေးနဲ့ ချစ်ကြိုက်မိဖူးတယ်"

"ဒါများ အဆန်းလုပ်လို့ မောင်ကလဲ"

"နေဦး ဒွေး၊ နေဦး။ အဲသည်လို ကြိုက်မိတာ သားယောကျ်ား ကလေးတစ်ယောက် ရတယ်။ မိန်းကလေးက ဆင်းရဲတယ်။ တစ်ကောင်ကြွက် တစ်မျက်နှာ ဆိုပါတော့ အဲဒါကလေးလဲ ရပြီးရော သေသွားရှာတယ်။ ဒီတော့ မောင်မှာ ဒီကလေးကို တာဝန်ယူရပြီး မောင့်အဒေါ်ကို ပေးထားရတယ်။ ခုဆိုရင် ငါးနှစ်သားလောက် ရှိပြီ။ စကားကလေး

တီတီတာတာနဲ့ ချစ်စရာကောင်းတဲ့အရွယ်ပေါ့ ဒွေးရယ်။ တကယ်ဆို တော့ သားသမီး သံယောဇဉ်ဆိုတာ တကယ်ကြီးတာကလား ဒွေးရဲ့။ နောက်ပြီး ဖအေတစ်ယောက်အနေနဲ့ တာဝန် မကျေတာကိုလဲ ကိုယ့်ကိုယ် ကို တွေးတိုင်း ရှက်နေမိတယ်။ ဒေါ်ဒေါ်ကလဲ သိပ်ပြီးတောင့်တင်း ရှာတာ မဟုတ်တော့ သူ့ခမျာ မိတဆိုးကလေး မျက်စိသူငယ် နား သူငယ်နဲ့ နောက်ကို လူတစ်လုံး သူတစ်လုံးဖြစ်ဖို့အရေးတောင် ဂုဏ်မရှိ မျက်နှာမရှိဖြစ်သွားမှာ စိုးရိမ်နေမိတယ်။ ဒါလဲ တစ်ကြောင်းပေါ့ကွယ်။ အို ဒွေး ဒွေး၊ ဘာဖြစ်လို့ငိုရတာလဲကွယ်။ မောင့်ကို ခွင့်မလွှတ်နိုင်လို့ လား။ မောင့်စကားကြားရတာ ဝမ်းနည်းလို့လား"

ဤအထိရောက်တော့ မောင်ဟန်လှမှာ အရှိန်ရသွားပြီ ဖြစ်သော ကြောင့် ကိုယ့်လိုဘ ပြည့်တော့မည်ဟု ကြမ်းပိုးဥာဉ်ကလေးဝင်ကာ ဝမ်းမြောက်လာမိတော့သည်။

"ပြောပါ မောင်ရယ်။ ဆက်သာပြောပါ။ အဲဒါ မောင်ဘယ်လို စီမံချင်လို့လဲ၊ ဒွေးကို ပြန်မေးမနေပါနဲ့"ဟုမျက်ရည်ကိုသုတ်၍ ရှိုက်သံ နှင့် ပြောရှာသည်။

မောင်ဟန်လှသည် သူ့မယားကို ဝမ်းနည်းဝမ်းသာ ကြည့်မိရင်းက

"အဲဒါ မောင် နောက်ပိုင်းမရှင်းခဲ့တာကို ဒွေး မျက်မှောက်မှာ ဝန်ခံပြီးတော့ မောင့်သားကလေးလဲ ချမ်းချမ်းသာသာ မောင့်မျက်စိ အောက် နားအောက်မှာ နေရအောင် မောင့်တူကလေးအဖြစ်နဲ့ ခေါ် ထားချင်တာပါပဲ ဒွေးရာ၊ ဒွေးခွင့်ပြုမယ်ဆိုရင်လေ ကလေးကတော့ မောင့်ကို ဖအေမှန်းတောင် မသိရှာပါဘူး။ သိပ်ကဲဆိုးတဲ့ ကလေးပါကွာ"

မောင်ဟန်လှ စကားဆုံးသည်နှင့် တစ်ပြိုင်နက် ဒွေးဒွေးလှသည် ငိုကြီးချက်မနှင့် ပွင့်ပွင့်လင်းလင်း ငိုချလိုက်လေ၏။ ထိုတွင် မောင်ဟန်လှ မှာ ထိတ်ထိတ်ပျာပျာပင် ဖြစ်သွားမိတော့သည်။

"ဒွေး ဒွေး ခမည်းတော်ကြီးတွေ ကြားကုန်ပါလိမ့်မယ်ကွယ်။ နောက်ဆုံး ဒွေးသဘောအတိုင်း ဖြစ်ပါစေမယ် တိတ် တိတ်"

"မဟုတ်ပါဘူးမောင်၊ မောင့်ကို သနားလွန်းလို့ သနားလွန်းလို့"

ဤစကားကြား၍ ဝမ်းပန်းတသာ ဖြစ်လိုက်ရသည်မှ အရှိန်မရသေးခင်

"မောင်လေ မောင် ဒွေးအဖြစ်နဲ့ တူလွန်းလို့ သိလားဟင်"

"ဘာ ဘာ ဘယ့်နှယ် ဒွေး"

"မောင့်ကိုလဲလေ ဖွင့်ပြောမလို့ဟာ တစ်နေ့တစ်နေ့နဲ့ ဟီး ဟီး မောင်နဲ့ကံတူအကျိုးပေးပါပဲ မောင်ရယ်။ ဒွေးမှာလဲလေ မေမေကြောင့် အထက်တန်းကို လှမ်းမီပါတယ်။ ကျောရအောင် ကြံသွားလို့ သမီးကလေး တစ်ယောက်ကို ဖေဖေ မသိအောင် စစ်ကိုင်း သွားမွေးထားရတယ် မောင်ရယ်"

"ဟောဗျာ"

"အခုဆိုရင် သုံးနှစ်သမီးလောက် ရှိပြီမောင်ရယ်။ ဟိုလူယုတ်မာကို လေ မောင့်ခြေဖျားလောက်မှ မရျစ်ပါဘူး။ ဘုရားကြီး စူးရပါစေရဲ့ အိမ်တွင်းဖခင်ကြီးကို သက်သေ ထူပံ့ပါတယ်။ ဒါပေမဲ့ ဒွေး သမီးကလေး တော့ သိပ်သနားတာပဲ မောင်ရယ်"

"အမယ်လေးဗျာ"

"အဲဒါ မောင်ပြောမှ ဒွေးလဲ အကြံရတာပဲ။ မောင့်ကို ခွင့်လွှတ်သလို ဒွေးကိုလဲ ခွင့်လွှတ်မယ်ဆိုရင်ဖြင့်လေ ဖေဖေ မသိအောင် ခေါ်မွေးစား ချင်တာပါပဲ။ နောင် ကြီးတော့ မောင့်သားကလေးနဲ့ ပေးစားကြတာပေါ့ နော်။ အမယ်လေး သမီးရဲ့ ဟီး ဟီး ဟီး"

ယနေ့အထိ အပျိုအစစ်ဟု ထင်လာခဲ့သမျှ လူငယ်မောင်ဟာန်လှမှာ

"ကိုယ်ကျိုးကြီး နည်းကုန်ပါပြီဗျို့"ဟု ယောင်၍ အော်မိကာ အခန်းတွင်းမှ တဒုန်းဒုန်း တဒိုင်းဒိုင်းနေအောင် ထွက်ပြေးမိလေ၏။

"ဟဲ့ ဟဲ့ ဘာဖြစ်ကြတာတုံး။ မရွှေအိ၊ မရွှေအိ ထစမ်းပါဦး မင်းသမီးနဲ့ မင့်သမက် အသံပါကလား၊ ဟော ဒါ မင့်သမီး ငိုသံ ထင်တယ်" ဟု ဦးရွှေလုတ်က ငုတ်တုတ် ထထိုင်ရင်း နှိုးလွှတ်သောအခါ ဒေါ်ရွှေအိ ဝဝဖိုင့်ဖိုင့်ကြီးမှာ ကပိုကရို ထဘီမနိုင့်တနိုင် အဘော်လီ အကျွတ်ကျွတ်နှင့် ထ၍ "တော် မလိုက်ခဲ့နဲ့ မလိုက်ခဲ့နဲ့ ယောကျ်ားချင်း လက်လွန်ကုန်မယ်"ဟု ပြောပြောဆိုဆို ခံပြေးလာတော့သည်။

"အင်း ဘာတွေဖြစ်ကြလဲ မသိဘူး။ သင်းတို့သားအမိ မိန်းမချင်း ပွင့်ပွင့်လင်းလင်း အမှုဖွင့်ပါစေတော့။ ဖအေနဲ့ သမီး မကြားဝံ့မနာသာ ငါ ပါမသွားတာ ကောင်းပါတယ်"ဟု စိတ်ထဲက ရေရွတ်ရင်း ဦးရွှေလုတ် သည် ငုတ်တုတ်က ပြန်မလှဲသေးဘဲ အားခဲ၍ စောင့်နေသော်လည်း တစ်အောင့်နှင့် ပြန်မလာ တော်တော်နှင့် ပြန်မရောက်။ သူတို့အခန်းဆီက သာ သမီးက ကျိတ်ရှိုက်၍ မအေကြီးက တွတ်တွတ်ထိုးနေသည်ကိုသာ ခပ်တိုးတိုး ခပ်သဲ့သဲ့ ကြားနေရလေ၏။

"ဘာပဲဖြစ်ဖြစ်၊ လင်နဲ့မယားပဲ မိရွှေအိ ကြားသမျှတော့ ငါ့နား ရောက်လာမှာကပဲ"ဟု စိတ်ထဲကတင်းသော်လည်း အကင်းပါးလှသော ဦးရွှေလုတ်သည် မိမိအပေါ်အုပ်တန်ဘာအုပ်၍ မဟုတ်တရုတ် လီဆည် ပြောမှာကိုတော့ လူလည်ပီပီ ခံပြင်းပါသေးသည်။ ထို့ကြောင့် ရှုပ်ရှုပ်ချွံချွံ ခြေဖျားထောက်၍ သွားရောက်ချောင်းမြောင်းနားထောင်လိုက်ခါမှ

"အံ့ပါ့တော် အံ့ပါ့၊ ငါ့သမီးနှယ် မိုက်လုံးကြီးလိုက်တာ မသကာဆို သူပြောသမျှ ကိုယ်ကသာ နားထောင်ပြီး အသာယူထားပါတော့လား။ နောက်မှ ရောက်ရားပေါ့။ ခုတော့ တကတဲ သူ့အားကျပြီး ညည်းက

ဖအေမသိအောင် စစ်ကိုင်း သွားမွေးထားတဲ့ ကလေးအကြောင်း ထည့်ပြောလိုက်ရသေး။ ငါ့နှယ် သေသာသေလိုက်ချင်တော့တာပါပဲ။ ညည်းမှာ ညည်းလင်မသိအောင် ကိုယ်မွေးခဲ့တဲ့ ကလေးတစ်ယောက်သာ ရှိသေးတာ။ ဒါကို လုံအောင်မဖုံးနိုင်ဘူး။ ငါ့ကြည့် ငါ့ကြည့်၊ ကလေးသုံးယောက်မွေးထားတာ ညည်းအဖေ ကနေ့ထက်ထိ သိလို့လား ဟင်း။ တူ၊ တူမ၊ ညီမကလေးပါဆိုပြီး ကိုယ့်မျက်စိအောက် နားအောက် ခေါ်ထားလို့ ညည်းနဲ့ပဲ အပြိုင်းအရိုင်း ဖြစ်ကုန်ကြပြီ"

ဤတစ်ကြိမ် အိမ်ကြီးပေါ်မှ ဝုန်းဝုန်းဒိုင်းဒိုင်းနေအောင် ဒုတိယဆင်းပြေးရှာသူကား မောင်ဟန်လှ၏ယောက္ခထီး ဦးရွှေလုတ်ကြီးသာ ဖြစ်ပါတော့သည်။

ကျယ်ဝန်းသော အိမ်ရှေ့ပန်းခြံထဲတွင် မောင်ဟန်လှမှာတော့ ကြိတ်မနိုင်ခဲမရ ဒေါအပ္ပကြီး ပွတိုင်း

"နွားကျတဲ့ ဟန်လှရဲ့ နင့်ဘဝ ဒါနဲ့ပဲ တန်တယ်။ စားလိုက်စမ်းဟ ဝါးလိုက်စမ်းဟ"ဟု ကိုယ့်ကိုယ်ကို နွားဇာတ်သွင်းကာ မြက်ပင်တွေကို တဖျင်းဖျင်းနုတ်၍ တပြုတ်ပြုတ်ဝါးစားနေသော နံဘေးသို့ ဦးရွှေလုတ်ကိုယ်တိုင် ကရုဏာကြီးစွာဖြင့် ဘယ်အချိန် ဘယ်ကာလက ရောက်လာသည် မသိ။

"ဟန်လှရာ၊ မင်းကမှ တော်သေး။ ငါမှ သင်းပစ်ဖို့သာ ကောင်းတော့တဲ့ နွားအိုကြီးပါပဲဟ"ဟု သူခံခဲ့ရသမျှ ဖောက်သည်ချပြီးသည့်အဆုံး၌ကား သားယောက္ခထီးတို့ တစ်ဦးကိုတစ်ဦးဖက်ကာ ကြင်ကြင်နာနာကြီး ငိုကြွေးရှာလေသတည်း။

*

# သမီးရည်းစား

**အချစ်ဆုံးမြ**

မြ ့မောင့်ကို သိပ်နှိပ်စက်တာပဲနော်။ လုပ်ပါမြရယ် လုပ်ပါ။ ချစ်မိပြီကို။ ချစ်သူရဲ့နှိပ်စက်မှုဟာ ပါရမီဖြည့်သလို ခံရမှာ ခမ္မတာပေါ့။ မောင်ကတော့ အထူးအထွေ ဘာမှ ပြောစရာ မလို ဘူး။ မြကို မောင် ဘယ်လောက်ချစ်နေတယ်၊ ဘယ်လောက် ချစ်ခဲ့တယ်၊ ဘယ်အထိ ချစ်လိမ့်ဦးမယ်ဆိုတာ မြကိုယ်တိုင် အကြွင်းမဲ့ သိထားတယ်လို့ မောင်ယုံနေတာမို့ မြက မောင့်ကို ဘယ်အထိ နှိပ်စက်နှိပ်စက် မောင့်ချစ်စိတ် မပျက်နိုင်ရတော့ပါဘူး။

ဟိုနေ့ညက မောင်သုံးနာရီထိုးမှ မြတို့အိမ်နားက မောင် ပြန်ခဲ့ရတယ်ဆိုတာ မြသိမှာပေါ့။ မရယ်ပါနဲ့မြရယ်၊ မရယ်ပါနဲ့။ ဒီစာကိုဖတ်ပြီး မြရယ်နေမှာကို မောင်ရိပ်မိပါတယ်။ မြအဖို့မှာတော့ ရယ်စရာပေါ့လေ။ နှုတ်ခမ်းပါးကလေးဖွင့်ပြီး အဟင့်လို့ ရယ်လိုက် ရတာဟာ မြအတွက်မှာ အရသာဖြစ်နိုင်ပေမဲ့ မျှော်လင့်ချက် ဗိမာန်ကြီး ပြိုကျလို့ မောင်တစ်ယောက်တည်း ပြန်ရတဲ့ ဒုက္ခ ကတော့ အတော် စိတ်ဆင်းရဲရပါတယ်။ အဲသည့်အချိန်ဟာ မြမှာတော့ အိပ်ရာထဲကနေပြီး ပြုံးလိုက်ဦးမှာပဲ။

တကယ်ဆိုတော့ မြကို အဆိုးမဆိုပါဘူးလေ။ မောင်ခံရတဲ့ ဒုက္ခဟာ မြပယောဂမှ မဟုတ်ဘဲ။ ဒါကိုလဲ သိပါတယ်။ မြ သဘောတူညီချက်မရဘဲ မောင်ကသာ မြရဲ့ကရုဏာကို အားကိုးပြီး ဖွတ်တိုးလို့ လာနေရတာကို မောင့်ကို နှစ်ယောက်ချင်း မယုံလို့ အတွေ့မခံချင်တာဘဲဖြစ်ဖြစ်၊ ကြောက်လို့ အတွေ့မခံချင်တာဘဲ ဖြစ်ဖြစ် မြချစ်တာကို မောင်သိထားတဲ့အတွက် မြကိုယ်တိုင် ကရုဏာသက် မလာမချင်း မောင့်အချစ်ဖွဲ့ကို ပြရအောင် စနေနေ့ ညတိုင်း လာမျှော်နေမှာပဲ။

ဒီကနေ့ညလဲ ရောက်မှာပဲ။

မောင်

*

ဒေါ်မြမြ၏လက်သည် စာရွက်ကလေးကိုကိုင်ရင်း တုန်တုန် ယင်ယင် ဖြစ်နေလေသည်။ စာကိုဖတ်ရင်း နက်နက်နဲနဲ စဉ်းစားလိုက် သောအခါ မျက်ရည်ကလေးများပင် လည်လာမိသည်။ ဝမ်းနည်းသလော ဝမ်းသာသလော ကြည်နူးမိသလော စိတ်ဆိုးနေမိသလောဟု စစ်ကြော၍ မရအောင် စိတ်ထားမငြိမ် ရှိတော့သည်။ ဤသို့ အမည်မတပ်နိုင်ပေမဲ့ ရင်ထဲကတော့ တလှပ်လှပ် ခံစားနေရတော့သည်။

ဒေါ်မြမြမှာ ယခုဆိုလျှင် အသက် လေးဆယ်နားသို့ တရွေ့ရွေ့ နီးစပ်လာခဲ့ရပြီ။ ဤအသက်အရွယ်သို့ ရောက်၍သာ လာခဲ့သည်။ ဤစာမျိုးတော့ ဤတစ်ကြိမ်သာ ဖတ်ခဲ့ရဖူးပါသည်။ ထို့ကြောင့်ပင် ဤရွေ့ဤမျှ တုန်လှုပ်နေသလား မပြောတတ်။

ဒေါ်မြမြသည် နှုတ်ခမ်းကို အမှတ်မထင် ကိုက်လိုက်မိသည်။ မသိမသာကလေး ခေါင်းယမ်းလိုက်မိသည်။ ထို့နောက်မှပင် စာရွက် ပေါ်မှ မျက်လုံးကိုခွာ၍ အဝေးသို့ လှမ်းမျှော်လိုက်မိသည်။

"ဩော် သမီး သမီး ရည်းစားတောင် ထားနေမှကို"

ဒေါ်မြမြသည် အသံမထွက်သော စကားကိုပြော၍ ခပ်လေးလေး ခေါင်းညိတ်လိုက်မိပြန်သည်။ ဤစာမှာ သူနှင့် တိုက်ရိုက်သက်ဆိုင်သည် ဟုလည်း ပြောနိုင်သည်။ မသက်ဆိုင်ဟူ၍လည်း ငြင်းရပေတော့မည်။

ဒေါ်မြမြ၏ တစ်ဦးတည်းသော ဖအေမဲ့သမီးကလေး၏ အမည်မှာ လည်း မြမြဝင်းပင် ဖြစ်သောကြောင့် ဤစာမှာ အသက်လေးဆယ်နီးပါး မုဆိုးမဒေါ်မြမြ၏ စာမဟုတ်။ သူ့သမီး မြမြဝင်း၏ သမီးရည်းစားစာ ဖြစ်ကြောင်း လွယ်ကူစွာ သိနိုင်ပေတော့သည်။ မြမြဝင်းသည် ဆယ့်ခုနစ် နှစ်၊ ဆယ့်ရှစ်နှစ်ခန့် ရှိပြီဖြစ်၍ အပျိုကလေးတို့ဘဝတွင် အစွမ်းကုန် လှနေသောအရွယ် ဖြစ်တော့သည်။

ဒေါ်မြမြကိုယ်တိုင်ကပင် အသက်လေးဆယ်နားနီး၍ ကြီးသည်ဟု ဆိုစေကာမူ ရုပ်ရည်လက္ခဏာများမှာ အတော်နုပျိုလန်းဆန်းသော မျက်ခုံးကောင်း၊ မျက်လုံးကောင်း၊ အဆစ်အမြစ်ပြေပြစ်သော မိန်းမချော တစ်ယောက်ဖြစ်သောကြောင့် သမီးလေးမြမြဝင်းမှာ မအေတူ၊ အရွယ် ကောင်း အလှတွေ စုပေါင်း၍ ပြည့်ပြည့်တင်းတင်း ကြွကြွရွရွရှိလှသည်။

ဒေါ်မြမြ စီးပွားပျက်ခဲ့သောအချိန်မှာ သမီးကလေး သိမ်သိမ် ငယ်ငယ် ရှိနေသည်ကို ရင်ထုမနာ ဖြစ်ခဲ့သော်လည်း ယခု မိမိရင်အုပ် မကွာ၊ အချစ် ဥပနာထားရာက ရည်းစားဟူသော သူစိမ်းတစ်ယောက်ကို ဖောက်ဖောက်ပြန်ပြန် ဆက်ဆံကူးလူးနေကြောင်း ဒိဋ္ဌသိရသောအခါ တွင်ကား ရင်ထုမနာအဖြစ်က ရင်ထု၍ နာသလိုနာလိုက် ဝမ်းနည်း လိုက်မိလေသည်။

မိဘလက်ထက်က ဆင်းသက်လာခဲ့သော ပိုးကုမ္ပဏီကြီး ပျက်စီးပြီး သည့်နောက် ယခုအချိန်မှာ ဆင်ပိန်ကျွဲလောက်တော့ ကြွင်းကျန်ခဲ့သေး သဖြင့် မိုလ်ချုပ်ဈေးထဲတွင် ပိုးထည်ဆိုင်ကလေးဖွင့်ကာ သားအမိ

နှစ်ယောက် ဒိုးတူပေါင်ဖက် ဆက်လက်၍ ရောင်းဝယ်နေကြရသည်။ မိမိကိုယ်တိုင် အပျိုဘဝက သမီးရည်းစားဟူ၍ မထားခဲ့စဖူး ထားရကောင်းမှန်းလည်းမသိ။ မိခင်ကြီးနှင့်သာ ရောင်းရေးဝယ်တာကို ကြိုးစားကာ လောဘတက်ခဲ့သည်။ ထို့အတူ မိမိသမီးကျပြန်သော် မိမိနည်းအတိုင်း ဗိုင်းကောင်းကျောက်ဖိ ပိရိလိမ္မာလှပြီဟု မှတ်ထင်နေခဲ့သည်။

ယခုမှ ယောက်မကို မြင်းစီး၍ထွက်သည့် အချက်အချာ သမီးရည်းစားစာကို မိတော့၏။ ဈေးဝယ်သူ ပါးသည့်အခိုက် မြမြဝင်းသည် ဆိုင်နီးချင်း အပျိုဖော်ကလေးတစ်သိုက်နှင့် ဆိုင်ပေါ်မှ ဆင်း၍ နောက်ဖေး နောက်ဖီ ထွက်သွားခဲ့သည့်အတွင်း မြမြဝင်းအိတ်ထဲမှ မတော်တဆ အမှတ်တမဲ့ ကျကျန်ရစ်ခဲ့ဟန်တူသော အထက်ပါစာကို ဒေါ်မြမြကိုယ်တိုင် ကောက်တွေ့ ဖတ်မိခြင်းဖြစ်တော့ရာ အဘယ်မှာလျှင် မတုန်မလှုပ်သော မိဘဟူ၍ ရှိနိုင်ကြပါမည်နည်း။

ဘယ်အရွယ်ပင်ရှိရှိ မိမိ၏ ရင်နှစ်ဖြစ်သော သားသမီးကို ကြီးသည်ဟု မထင်နိုင်။ အချိန်တန်အရွယ်ရောက်၍ အချစ်စိတ်တွေပေါ်ပေါက်သော သဘာဝကို မလွန်ဆန်နိုင်ကြောင်း သိကြစေကာမူ အပင်ကိုသာ အညှိုးခံ၍ မိမိကိုယ်တိုင် ချိုးဆွတ်၍လည်း မပန်ရက်၊ သူတစ်ပါး၏ လက်နှင့် ခြွေမှာကိုလည်း ရွံ့စိုးသည့် ပန်းပင်ရှင်မျိုးလို ဖြစ်ကြရသည်မှာလည်း မိဘနှင့်သားသမီးပင် ဖြစ်ပေသည်။ ပေးဝေနီးရင်း၊ ထိမ်းမြားခြင်းလျှင် ဝတ်ငါးအင်ဆို၍သာ ထိုဝတ္တရားကို သားသမီးက ပူဆာ၍ လိုက်နာဆောင်ရွက်ပေးကြရသည်။ တချို့ မှာကား ချစ်၍မှ အားမရမိ သူစိမ်းလက်ကို ဝကွက်အပ်လိုက်ကြဖို့ မလိုလားသဖြင့် အပျိုကြီးဖားဖားက ဟိုင်း၍သာ သွားစေကြတော့သည်။

ဒေါ်မြမြအဖို့မှာသာ သာ၍ ခင်တွယ်စရာဖြစ်တော့သည်။ သူ့တွင် မြမြဝင်း တစ်ယောက်တည်းသာ လက်ကတုံးတောင်ဝှေး ဆေးပေးမီးယူ

ရှိသည်။ တိုင်ပင်ဖော် တိုင်ပင်ဖက်ဆိုကတည်း ဤသမီးသာ ဖြစ်ခဲ့သည်။ ဥမကွဲသိုက်မပျက်နေသွားဖို့ အရေးကြီးသည်။

ဒေါ်မြမြ စဉ်းစားနေမိသည်မှာ တစ်ခဏလောက်သာ ကြာလိုက်သည် ထင်ရမည်။ သို့သော် သမီးသည်မြမြဝင်းသည် သူ့စာ ကျကျန်ရစ်ခဲ့သည်ကို သိသည်အလား ပျာယီးပျာယာနှင့် ပြန်လာသည်ကို အဝေးကပင် သိသာနိုင်လောက်သည်။

မြမြဝင်းဘက်ကနေကြည့်လျှင် သမီးရည်းစားစာ မိခင်ကြီးမိ၍ သိသွားမှာ စိုးရှာသည်။ မိခင်ပင် ဖြစ်လင့်ကစား ရှက်စရာကြီးက အကြောက်တရားကလည်း မကင်းသေးချေ။ မိမိ လော်မာဖောက်ပြန်မှုကြောင့် မိခင်ကြီး စိတ်အနှောင့်အယှက် ဖြစ်သွားမည်ကို အတော်စိုးရှာသည်။

ထို့ကြောင့် ဣန္ဒြေမပျက်အောင် မနည်းဟန်ဆောင်၍ မုန့်ပဲသရေစာမှ မစားနိုင်ဘဲ ဆိုင်သို့ တောက်လျှောက် ပြန်လာခဲ့သည်။ ဂနာမငြိမ်သောမျက်လုံးက မိခင်ကြီး၏ အရိပ်အကဲကို တစ်ဖက်ကကြည့်ရင်း တစ်ဖက်က မိမိ၏ပေါ့လျော့မှုကြောင့် ကျကျန်ရစ်ခဲ့သောစာကို ရှာဖွေနေမိသည်။ စာရွက်ခေါက်ကလေးကို မြမြဝင်း တွေ့လိုက်ရသောအခါ ခေါင်းနပန်းများ ကြီးသွားမိတော့သည်။

“ကံကောင်းလို့ ကံကောင်းလို့”ဟု တိတ်တခိုး ဘုရားတမိရှာသည်။

အကြောင်းမှာ မတွေ့စကောင်း တွေ့စကောင်း စာရွက်ခေါက်ကလေးမှာ မိမိနမော်နမဲ့ ကျကျန်ရစ်ခဲ့ဟန်တူသောနေရာတွင်ပင် ခြေရာလက်ရာမပျက် တွေ့ရသောကြောင့် ဖြစ်လေ၏။ မိခင်ကြီးမျက်နှာကို အကဲခတ်လိုက်သောအခါ မသိလိုက် မသိဘာသာပင် ရှိပါသေးသည်။ ထို့ကြောင့် မြမြဝင်းသည် စပါးရောဖွဲရောနှင့် ကျင်လည်စွာ အိတ်တွင်းသို့

ပြန်ထည့်လိုက်နိုင်တော့သည့် နောက်တွင် ဟင်းခနဲ သက်မကြီးတစ်လုံး ဗုန်းဗုန်းပါအောင် ပစ်ချလိုက်ရတော့လေ၏။

ညနေစောင်းခါနီးမှ ဈေးဝယ်သူ တဖျောက်ဖျောက် ပေါ်ပေါက်လာသောကြောင့် သားအမိနှစ်ယောက်စလုံး သမီးရည်းစားကိစ္စကို မေ့ပျောက်သွားကြတော့သည်။ ထိုသည့်နောက်လည်း ညနေဆိုင်ပိတ် အိမ်ပြန်၊ စားမှုသောက်မှုဝေယျာဝစ္စတို့က သူတို့၏အသီးသီး ဒုက္ခကို ဖုံးလွှမ်းတားဆီးထားလိုက်ပါသေးသည်။ ညဦးကလေးတွင်လည်း အညောင်းပြေ အပျင်းပြေ မိတ်ဆွေသင်္ဂဟများနှင့် သွားသွားလာလာ၊ စားစားသောက်သောက်စကားကို ကရွတ်ကင်းလျှောက် ပြောနိုင်သေးသဖြင့် ဆွေးစရာအကြောင်းများ မစဉ်းစားမိကြသေး။

တဖြည်းဖြည်း ညဉ့်နက်ခဲ့လေပြီ။ ဦးစွာပထမ သမီးကလေးမြမြဝင်း၏ ဘုရားကန်တော့သံနှင့် ဓမ္မစကြာဝတ်ရွတ်သံမှာ ဒေါ်မြမြ၏စိတ်ကို ဘုရားခန်းက လှမ်း၍ သတိပေးလိုက်ခြင်းပင် ဖြစ်တော့သည်။ မြမြဝင်း အသံကလေး စလိုက်သဖြင့် ကိုယ့်မိဘ၊ ကိုယ့်လင်၊ ကိုယ့်သား ကိုယ့်အဖြစ်အပျက်များကို အစပေါ်လာတော့လေ၏။

"ဩော် ကိုလွင် ကိုလွင် ရှင့်သမီးဖြင့် ရည်းစားတွေ ဘာတွေတောင် ထားကုန်ပကော ကိုလွင်ရယ်။ ရှင်သာရှိရင် ဘယ်လိုများပြောမလဲ။ ရှင့်ကိုတိုင်ပြီး ရှင့်အဆုံးအဖြတ်ကို ခံရရဲ့။ အခုတော့ မြမှာ တိုင်ရမယ့်လူလဲ မရှိ။ တိုင်ပင်ရမယ့်လူလဲ မတွေ့ မဆုံးမရက်။ အိုးဖျက်လိုဖျက်ဆီးလုပ်ရမှာလဲ ခက်ပါတယ်"ဟု တိုးတိုးကလေး ပွင့်ထွက်ရင်း မျက်ရည်ကိုသာ ငုံ့သုတ်မိရှာသည်။

ဒေါ်မြမြအဖို့မှာတော့ ဤအတိုင်း အမှန်ဖြစ်ပါသည်။ သူသည် ညနေက ဘာမှ မလုပ်တတ်သောကြောင့် သမီးကလေး စိတ်ချမ်းသာမှုရှိအောင် စာကို သူ့နေရာ သူပြန်ထားပြီး မသိချင်ယောင် ကြိုးစား၍

ဟန်ဆောင်ရသည်။ ဝမ်းထဲမှာတော့ ဗလောင်ဆူသွားမိရှာသည် မဟုတ်လော။ သူ့သမီးကလည်း သူ့ ဤအထိ ချစ်ခင်ကြင်နာရိုးမှန်ဘိ၏။

အချိန်သည် သစ်သားကို ခြစားသလို တရွေ့ရွေ့ တတိတိနှင့် ကုန်မှန်းမသိအောင် ဝါးလျက် ရှိတော့သည်။ မြမြဝင်း၏ အမျှဝေသံနှင့် ကြေးစည်ခတ်သံတို့ ပေါ်လွင်လာပြီးသည့်နောက် ညင်သာသော ခြေလှမ်းနှင့် အခန်းတွင်းသို့ ဝင်လာခဲ့သည့်အချိန်တွင် ဒေါ်မြမြမှာ စိုစွတ်သော မျက်လုံးအစုံကို မှိန်းကာထားလိုက်မိတော့သည်။ သို့သော် မြမြဝင်းသည် နေ့စဉ် ဝတ်ပြုနေကျအတိုင်း ခြေရင်းဘက် ခပ်ကျကျက ပုဆစ်ဒူးတုပ်ထိုင်၍ မိမိအား ကန်တော့လိုက်သေးသည်ကိုတော့ မှိန်းနေရာကပင် သိလိုက်ပါသေးသည်။

"မေမေ"

ကိုယ့်သမီးမို့ ကိုယ်ထင်လေသလားတော့ မပြောတတ်။ မြမြဝင်း၏ အသံကလေးမှာ ချိုမြိန်လှသည်။ သာယာလှသည်ဟု ထင်မိလိုက်သည်။ ဒေါ်မြမြက ပြန်၍ မထူးသောအခါ ခြေရင်းတွင် လာထိုင်၍ ခြေသလုံးကို ကိုင်ရင်း တစ်ချက်နှစ်ချက် နှိပ်လိုက်သေးသည်။

"မေမေ၊ အိပ်ပြီလား မေမေရဲ့"

"ဩော် သမီး၊ ဘုရားတောင် ဝတ်ပြုပြီးပြီလား"ဟု ဒေါ်မြမြက ဝမ်းနည်းသံမပါအောင် မနည်းကြိုးစား၍ လျှောင်းနေရာက ပြန်ပြောလိုက်ရသည်။ သူ့ဝမ်းထဲမှာတော့ အလိုလိုဝမ်းနည်းနေမိသည်။ သို့သော် ဝမ်းနည်းနေကြောင်း သမီးကောင်းကလေး မသိစေချင်ပါပေ။

"တစ်ချက် နှစ်ချက်လောက် အနှိပ်ခံလိုက်ပါဦးလား မေမေ။ ညနေက ညောင်းတယ်ဆို"ဟု ပြောရင်းဆိုကာ အသာအယာ လက်ကလေးနှစ်ဖက်နှင့် ဆုပ်နယ်ပေးရှာသည်။

သူ့ခများကလည်း မအေတစ်ခုသမီးတစ်ခုမို့ ဂရုပြုရှာပါပေသည်။ ရှိသေကြင်နာ၍ ဝတ်ကြီးဝတ်ငယ်ပြုစုလျက်ရှိပါသည်။ သမီးရည်းစား ထားရုံနှင့် သားသမီးတို့က ပြုအပ်သောဝတ် ချို့ယွင်းသည်ဟု ဆိုရပါ မည်လော။ ချို့ယွင်းသည်ဟု ဒေါ်မြမြ မထင်နိုင်ရှာ။ သို့သော် ဤရွေ့ ဤမျှ လိမ္မာသောသမီးကလေးမို့ မိမိမှတစ်ပါး တခြားလူတစ်ဦးကို အချစ်ထူးဖြင့် ယစ်မူးစွာချစ်သည်ကို မခံနိုင်ခြင်းသည်သာ ဖြစ်ပါသည်။ ဤမခံနိုင်ခြင်းမှာ မနာလိုစိတ်ဖြစ်ကြောင်းကိုတော့ မစဉ်းစားမိ။ စဉ်းစားမိ သည့်တိုင်အောင် ဝန်ခံနိုင်မည်တော့မဟုတ်။ မဟုတ်သည့်အကြောင်းတွေ နည်း အမျိုးမျိုးပြ၍ အနိုင်မရရအောင် ကိုယ့်ကိုယ်ကို ပြန်လိမ်ရပေတော့ မည်။ ကိုယ့်သမီး ရည်းစားထားတာ မနာလိုဘူးဆိုတာတော့ အဖြစ်မခံနိုင်။ ဘယ်နည်းနှင့်မှ အဖြစ်မခံနိုင်။

"ပေါင်ရင်းကို နင်းပြီး အပူထုတ်ပေးမယ်လေ မေမေ"

ဒေါ်မြမြကား မည်သို့မှ အဖြေမပေး၊ မျက်စိမှေးကာ တွေး၍သာ နေမိသည်။

"မေမေ၊ အိပ်ပျော်သွားပြီလား။ မေမေကလဲ မြန်လိုက်တာ"

မြမြဝင်းသည် စကားပြန်၍ ပြောဖော်မရသောသူ့မိခင်ကို ဤသို့ မှတ်ချက်ချလိုက်တော့သည်။ ထို့နောက် နှစ်ယောက်အိပ်ခုတင်ကြီးဖြစ် သောကြောင့် မိခင်၏ဘယ်ဘက်ဘေးက ခပ်ကွေးကွေးကလေး ဝင်ခွေ လိုက်တော့သည်။

လူငယ်ပီပီ ဟာခနဲ အပျင်းတွဲ၍ သမ်းဝေခြင်း၊ ခြေညောင်း လက်ဆန့်နေခြင်းဖြင့် လွတ်လွတ်လပ်လပ်နေပြီးမှ ငြိမ်ဆိတ်၍ သွားတော့ သည်။ သို့သော် ခုတင်တစ်ခုတည်းပေါ်က သားအမိနှစ်ယောက်စလုံးမှာ ဘယ်သူမှ အိပ်၍မပျော် ကိုယ့်အတွေးနှင့်ကိုယ်

မြမြဝင်းအဖို့က သူ့ချစ်သူ ယနေ့ညလာလျှင် ဆင်း၍ တွေ့သင့် မတွေ့သင့်ဟူသော အကြောင်းမှာ စာပါအရေးအသားနှင့် ရိပ်မိနိုင်လောက်သည်။ သို့သော် ဒေါ်မြမြ၏ အတွေးမှာကား ကိုယ့်သမီး ရည်းစားထားသည်ကို တားသင့်၊ မတားသင့်ပင် ဖြစ်သည်။ တားဆီးခြင်း ပိတ်ပင်ကန့်ကွက်ခြင်းသည် တစ်ကိုယ်ကောင်းသာကြည့်သော အာဏာရှင်တို့အတွက် အလွန်လွယ်ကူသလောက် သူ့အကျိုးသူ့ဆန္ဒပါ ရောဖက်၍ ကြည့်ရလျှင် အတားခက်လှသည်။

"သမီးရယ်၊ ရည်းစားထားတာတော့ မေမေ မကြိုက်ဘူးကွယ်။ မေမေလဲ ရည်းစား မထားခဲ့ဖူးဘူး။ ငါ့သမီးလဲ ရည်းစားမထားနဲ့နော်" ဟု မိမိက ပြောလိုက်သည်နှင့် တစ်ပြိုင်နက်

"အို မေမေကလဲ မေမေတို့ ခေတ်က မထားခဲ့တာနဲ့ သမီးတို့ မထားရတော့ဘူးလား"ဟု မြမြဝင်းက အထွန့်တက်နေလိမ့်မည် မဟုတ်။ မျက်ရည်ကိုသုတ်၍ ခေါင်းညိတ်ပြမည်ကား သေချာလှပါသည်။ ဤအထိ လောက်ပင် ဒေါ်မြမြသည် သူ့သမီးကို သူ စိတ်ချထားပါသည်။

မိဘရဲ့စကား တမာလို ခါးသော်လည်း ပျားသကာကဲ့သို့ ချိုပါမည် ဟူသော စကားများမှာ ပွဲထဲ၊ ဇာတ်ထဲတွင်သာ ကြားရိုးကြားစဉ် ရှိခဲ့သည်။ လောကတွင်ကား ရှားပါးလှသည်။ သို့သော် ဒေါ်မြမြတို့သားအမိအတွက်မှာမူ မိခင်လုပ်သူကလည်း တမာလိုခါးသည့်စကား ဘယ်အခါမှ မပြောခဲ့သောကြောင့် ပျားသကာလို မချိုစေကာမူ အလိုကျ အလိုက်သင့်နာခံဖို့ အဆင်သင့် ရှိခဲ့လေသည်။ ထိုကဲ့သို့ သိတိုင်း ကိုယ့်သမီးကို ကိုယ် နိုင်လိုမင်းထက် ကန့်ကွက်မိမှာ စိုးသည်။ သူ့ စိတ်ချမ်းသာမှုကို ဖျက်ဆီးမိမှာ ရွံ့မိသည်။

သမီးရည်းစားထားခြင်းသည် အပြစ်ရှိသလော။

လူကြီးမိဘ ဩဇာကို နာခံ၍ အိမ်ထောင်ရက်သားနေခြင်းသည် အပြစ်ကင်းသလော၊ ဒါကိုပဲ ဒေါ်မြမြ စဉ်းစားရတော့မည်။ ကိုယ်ချင်းစာ၍ကြည့်နိုင်ရန် ဒေါ်မြမြကိုယ်တိုင် ငယ်စဉ်က ရည်းစားမထားခဲ့စဖူး မိဘဩဇာကိုနာခံ၍ မိဘသဘောတူသူနှင့်သာ စုံဖက်ခဲ့ရသည်။ ကိုယ့်သားသမီးကို အပျိုကြီးဘဝနှင့် အရိုးထုတ်စေချင်သည်ဟု ပြောကြသည့် စကားမှာ လွယ်ကူသလောက် သားသမီးများကိုယ်တိုင်က လိုက်နာဖို့ ခက်ခဲကြသည်။

သုံးဆယ့်တစ်ဘုံ ကျင်လည်ကုန်သမျှ ကာမနှင့်မကင်း အချစ်စာရင်းက ငါတကော မကောနိုင်သဖြင့် လင်နှင့်သားနှင့် နေကြရမည်ဖြစ်သော် မိမိမျက်စိနှစ်လုံး စုံမမှိတ်မီ စိတ်ချရအောင် ပေးစားခဲ့မှ သူရောကိုယ်ပါ ဒုက္ခအေးကြရမည် မဟုတ်လော။ ထိုသို့ဆိုလျှင် မိမိသဘောကျသူနှင့် ထိမ်းမြားမလော၊ သူသဘောကျသူနှင့် ပေးစားမလော။

ဒေါ်မြမြသည် ပြဿနာကို အပြန်ပြန်အလှန်လှန် သုံးသပ်ကြည့်နေမိသည်။ မြမြဝင်းမှာလည်း အတွေးအာရုံကြောတွင် နစ်မျောနေပုံရသည်။ သူ့တွင်လည်း အိပ်မပျော် လမ်းပေါ်က အသံကို နားစွင့်နေရတော့သည်။

"ဆွတ်ချူရန် ခက်ပါရဲ့။ မျက်ပါနဲ့သက်လယ်၊ အုံ့ပုန်းမောင့် မျက်နှာငယ်မှာ၊ ကွက်မလယ်နိုင်သေး၊ ရွှေငုံးမင့် အမြီးမျှော်သလို၊ ခရီးနော် နီးလျက်နဲ့ဝေး"

ဤတေးသံသည် မင်ဒိုလင် တီးသံကလေးနှင့် ပေါ်ပေါက်လာသောအခါ မြမြဝင်းမှာ အိပ်နေရာက ခေါင်းကြွ၍ နားထောင်လိုက်ကြောင်း ဒေါ်မြမြ သတိမူလိုက်မိသည်။

အမှန်စင်စစ် ဤသီချင်းမှာ ကာလသားတိုင်း ဖန်တစ်ရာတေအောင် ဆိုနေကျ သီချင်းဖြစ်၍ မထူးခြားနိုင်သော်လည်း မြမြဝင်းအတွက်မှာ

တော့ ခေါင်းထောင်၍ ထစေလောက်အောင် တန်ခိုးအာနိသင် ပြည့်ဝသည်။

"ဘယ်သောအခါများ တူနှစ်ကိုယ် နီးရပါ့မယ် မောင်ကြွရွှယ်
နတ်ပန်းထက်ပင် ရူးရခက်သေးတယ်"

ဆက်၍ ပေါ်လာပြန်၏။ မြမြဝင်းသည် ဟင်းခနဲ သက်မချပြီး ပြန်အိပ်လိုက်ပြန်သည်။ ပြီးတော့ သတိရသလို မိခင်ကြီးအား ကြည့်မိသည်။

ဒေါ်မြမြသည် သမီးက ထကြည့်လိုက်မှန်းသိလိုက်သည်။ သို့သော် မလှုပ်မယှက် အသက်ကို မှန်မှန်ရှူ၍ အိပ်ပျော်ယောင်ဆောင် နေလိုက်ရသည်။ စိတ်ကတော့မကျ ဘယ်အထိ မကျသနည်းဟူမူ သူ့ ကိုယ့်ခန္ဓာမှ လွင့်စဉ်ကျက်စားနေသလားဟု မှတ်ရသည်။ သမီး၏ ကိုယ်ရေးကို စိတ်ပါဝင်စားစွာ စဉ်းစားလိုက်သည်မှစ၍ အသက်လေးဆယ်နီးပါး ဒေါ်မြမြဘဝမှ သမီးမရခင် အိမ်ထောင်ကျစ မြမြအဖြစ်သို့ ခန္ဓာမပြောင်း လိပ်ပြာမပြောင်း အဟောင်းတွေ အသစ်ပေါ်လာခဲ့ရှာတော့သည်။

*

သင်ပုန်းကြီး မကျေဘဲနှင့် မင်္ဂလသုတ် တက်ခဲ့ရသလို သမီး ရည်းစား မထားရဘဲနှင့် လင်ယူခဲ့ရသော မြမြသည် ယခုမှ ပင့်သက်ရှူ၍ အိမ်ထောင်ရေးမှုကို စဉ်းစားမိသည်။

သမီးရည်းစားထားခြင်းသည် အလကားကိစ္စမဟုတ်။ လင်ယူသည့် ပြဿနာကို မတတ်တာတတ်အောင် သင်တန်းတက်ခြင်း သာ ဖြစ်၏။ တကယ် ပြောရလျှင် မိဘပေးစားတာကို အသာဝင်'ထိုင်' လိုက်ရတာ ထက် သမီးရည်းစားထားရခြင်းက ပို၍ ခက်ပေသည်။ တစ်ချက်ကိုပဲ စဉ်းစားကြည့်ပါတော့။

သမီးရည်းစားဆိုသည်မှာ ကိုယ့်ကို သူချစ်သည်ဟုသိရ၍ ကိုယ်က သူ့ကိုချစ်မှ သမီးရည်းစားရယ်လို့ ဖြစ်နိုင်ကြသည်။ ကိုယ်က သူ့ကို ချစ်၍သော်လည်းကောင်း၊ ကိုယ့်ကို ချစ်နေ၍သော်လည်းကောင်း၊ အကြောင်းနှစ်ပါး မဆုံသမျှ သမီးရည်းစားစင်စစ်တော့ မဖြစ်နိုင်ချေ။ ဒါတစ်ခုတည်းနှင့်ပင် ခရီးရောက်လှပေသည်။

မိဘပေးစား၍ညားရသော လင်မယားမောင်နှံတို့အနက် ကိုယ်ကသာ နှစ်သက်၍ သူက မစုံမက်၊ ကိုယ်က စုံမက်၍ သူက မကြည်ဖြူ၊ ဂုဏ်ကို ယူ၍သာ ပေါင်းနေရသောအကြောင်းမလှ အဆင်မပြေသည့် သတို့သမီး၊ သတို့သားများကို သနားစရာပင် ကောင်းသေးသည်။

သမီးရည်းစားတို့ သဘာဝမှာကား ဤသို့မဟုတ်။ စာမေးပွဲဝင်ချင်လျှင် သင်ခန်းစာတွေ ကြိုးစားပြီး မေးခွန်းအတန်တန် ဖြေဆိုခဲ့ရသကဲ့သို့ သမီးရည်းစား စစ်တမ်းနှင့် သင်ခန်းစာတွေ တွေ့နိုင်ကြသည်။ မိမိ၏ 'လူ'ကို မိမိစစ်ဆေးလိုသမျှ ကိုယ်တိုင်ကိုယ်ကျ စစ်ဆေးမေးမြန်းနိုင်သည်။ အကဲခတ်နိုင်သည်။ ကိုယ့်လူအကြောင်း စနည်းနာ၍ စပ်စုစုံစမ်းနိုင်သေးသည်။ သူ့အလိုနှင့် ကိုယ်ဝါသနာ ကြိုက်ရာကို လိုက်နာနိုင်ပါ့မလောဟု စစ်ကြောဆင်ခြင်နိုင်သေးသည်။ ဤသို့သော အခွင့်အရေးများကို နားလည်၍ ရှေးမြန်မာ ယဉ်ကျေးမှုခေတ်က သုံးနှစ်သုံးမိုးကြာအောင် ရည်းစားပြုသနာ ရှင်းခဲ့ကြသည်။ ရည်းစားတစ်ထောင်အနက်မှ လင်ကောင်တစ်ယောက် မမှားအောင်ရွေး၍ 'လင်'ဟူသည့် ဘွဲ့ကို ပေးအပ်နိုင်ကြသည်။

"ကိုယ့်ကို သင်းဘယ်အထိ သံယောဇဉ် တွယ်နေသလဲ"

"ကိုယ့်အကျိုးကို ဘယ်အထိ သယ်ပိုးနိုင်ခဲ့သလဲ"

"ကိုယ့်ဩဇာကို ဘယ်နှခါ နာခံသလဲ"

"မျက်နှာများ၍ လောင်းကစားနှင့် အရက်သမားဟုတ် မဟုတ်"

"ကိုယ့်ဆွေမျိုးမိဘနှင့် သဘာဝတူ မတူ၊ ဂါရဝမှု မမှု"

"လူစွမ်း၊ လူစ အားကိုးလို့ ရ မရ"

မိန်းကလေးတွေအတွက် တစ်သက်တစ်ခါ အရေးအပါဆုံးသော ဤအချက်တို့ကို သမီးရည်းစား လက်ထက်ကတည်းက စစ်ကြောချင့်ချိန်နိုင်သဖြင့် အလွန်အဖိုးတန်လေသည်။ မီးကို မလောင်ခင်က တားနိုင်သည်။ လူတစ်ယောက်သည် ကြာရှည်စွာ ဟန်မဆောင်နိုင် ငါးပိကိုအနံ့မထွက်အောင် မဖုံးမဖိနိုင်သည့်နည်းတူ လူတစ်ယောက်၏ အကျင့်စာဂစာရိတ္တကို ဖုံးဖိ၍မရ။ ထို့ကြောင့် အရေးပုံတော်မလှလျှင် အပျိုရည်ဘဝမပျက်ခင် ဆလ်ပေး၍ အဝေးကရှောင်နိုင်ရကား ဤသို့မှ မဟုတ်ဘဲ သူစိမ်းပြင်ပြင် ရေသွင်သွင်က အောင်ဖေယျဟု ဆိုကာမျှနှင့် လင်ဘဝသို့ ရောက်ခဲ့ပြီးမှတော့ ကိုယ် သဘောမကျသော်လည်း "အိမ်ထောင်မှုဘုရားတည်၊ ဆေးမင်ရည်စုတ်ထိုး၊ ဤသုံးချက် မှုမပိုင်လျှင်၊ နောက်ပြင်နိုင် ခက်သည့်အမျိုး"ဟူသော စာချိုးထဲသို့ ခေါင်းလျှို၍ ဝင်ရရုံသာရှိသည်။ မိုးလွန်မှ ထွန်ချ၊ လူမိုက်နောက်မှ အကြံရသော် ယောင်တွေက မထောင်းတာ၊ မိန်းမတွေမှာ မခံချို၊ ဒူးနှင့် မျက်ရည်ကိုဖိ၍ တအိအိ ကျိတ်ရှိုက်ရုံမှတစ်ပါး အခြားသော လွတ်မြောက်ခွင့် မရှိနိုင်တော့ပေ။ လူမြင်လျှင် အမှုလုပ်ပါလို့ မပူရပ်ပြုးရပါတော့သည်။

ဒါတွေ ဒါတွေကို နေရာချပေးမယ့် လူကြီးမိဘတွေက မစုံစမ်းမစစ်ဆေး အလွယ်ကလေးနှင့် ဈေးပေါင်ကျိုးမှာ ကျိတ်ထိုးနှိပ်ထိုးထိုးရောင်းသလို ရောင်းလိုက်ကြတာမဟုတ်ပါဘူးဟုဆိုစေကာမူ လူကြီးပီပီ အရိပ်အကဲဖမ်းသည့် အစမ်းစာမေးပွဲများမှာ သမီးရည်းစားတွေလောက်တော့ အတွင်းစိတ်ခတ်အထိတော့ မရောက်နိုင်ပေ။ ဥစ္စာရင်လိုဥစ္စာရင်ခဲ ကိုယ့်ဝမ်းနာ ကိုယ်သာသိ၊ ကိုယ့်ဆေးကိုယ် ဖိသောက်မှပျောက်နိုင်သည့် ကိုယ်တွင်းရောဂါပေတကား။

"ကဲ အဓိတို့ ကိုယ်တိုင်ရွေး ကိုယ်တိုင်ကြိုက်လို့ နိုးရာလိုက်ပြေးတဲ့လင်မယား မကြာခင် အိုးစားကွဲကြတာတွေကော ဘယ်လိုပြောမလဲ"ဟု စောဒကတက်ကြသည် ဆိုပါတော့။ ဤမေးခွန်း၏ အဖြေမှာ မိဘတွေ သမက်အဖမ်းများ၍ တစ်လမ်းသွားဖြစ်ခဲ့ကြရသော လင်မယားအပူသည်တွေနှင့် ဘဲကင်းဘဲကြေ ပြေလည်နိုင်လောက် ကောင်းပါသည်။ ထိုအထဲမှာ မှားခြင်းမှားလျှင် လူငယ်များတာက တော်ဦးမည်။ လူကြီးတွေမှားမိက ကိုယ့်ပယောဂကိုယ်သိ၊ ကိုယ့်သမီးကိုယ်ကြည့်၍ မချိတရိရင်ထုမနာ ရှိရှာပေလိမ့်မည်။

မြမြသည် သမီးကလေး မြမြဝင်း အပျိုပေါက်ကလေး ဖြစ်လာကတည်းက ကိုယ့်ဘဝ ကိုယ့်ဖြစ်စဉ်ကို ဆင်ခြင်မိလေသည်။ မိမိကိုယ်တိုင်မိဘစကားကို မြေဝယ်မကျ နားထောင်ခဲ့သည်။ မိခင်ကြီး မုဆိုးမအဖြစ်နှင့်အုပ်ထိန်းသည့် အောက်မှာ မိခင်နှင့်အတူပင်လျှင် ဒိုးတူပေါင်ဖက်အရောင်းအဝယ် ဂရုစိုက်ခဲ့သည်။ ဗိုင်းကောင်းကျောက်ဖိ ပိပိရိရိနေခဲ့သည်။ ခေတ်ကာလ သားသမီးများ လွန်ဆန်နိုင်ခဲ့သော သမီးရည်းစားသော်မှ ကိုယ့်သဘောနှင့် ကိုယ်မထားမနေခဲ့စဖူး။ မိခင်ကြီး သဘောကျလှပါသည်ဆို၍ သမက်ဖမ်းခဲ့သော မောင်မောင်လွင်ကျကာမှ မချစ်မမုန်းဘဝက သာမိက အခေါ်ခံလိုက်ရတော့သည်။

မိမိတို့ကလည်း ပိုးကုန်သည်၊ နာမည်ကြီး မောင်မောင်လွင့်မိဘကလည်း သင်္ကန်းပရိက္ခရာကုန်သည်၊ မျက်နှာကြီး သားသမီးနှစ်ယောက်ပေါင်းသဖြင့် အကောင်းဆုံးမင်္ဂလာဆောင်ဖြစ်အောင် အကုန်ခံလိုက်ကြသည်။ ဂျူဗလီဟောပေါ်တွင် ပရိသတ်တွေသောက်သောက်လဲ လက်ဖွဲ့ပစ္စည်းတွေ ခြိမ့်ခြိမ့်သဲသဲ ပိုးဖဲစိန်ရောင်ခန်းမကြီးတစ်ခုလုံး ဝင်းပြောင်ထိန်တောက်ခဲ့တော့သည်။ ပတ်ဝန်းကျင်တစ်ခုလုံး ရွှင်ရွှင်ပြုံးပြုံး နှလုံးသည်းခြေကြိုက်စရာတွေသာ မြင်ရသည်။

ရေခဲမုန့်၊ ကော်ဖီ၊ ကိတ်မုန့်၊ ချိုမြိန်သော အစားအစာတွေကို စားသောက်ကြရင်း သံသာညှင်းညှင်း ရယ်သံမောသံ သောသောညံနေကြသည်။ "အတိုင်းမသိ ကျက်သရေ မင်္ဂလာရှိပါဘိတယ်ကို" ဟူသော အချီးမှစ၍ "တော်ကြီး ငယ်ယဉ်ရာ ဇမ္ဗူတောင်ကျွန်း တင့်ရှန်းသည့် ကျက်သရေဖြာ"ဟူသော မင်္ဂလာဘွဲ့သီချင်းကို ရွှေပြည်အေးတီးဝိုင်းက သာယာငြိမ့်ညောင်းစွာ သီဆို၍ တီးမှုတ်နေကြသည်။ အဆိုကျော် စိန်ပါတီ၏ ရှသံရှိက်သံ ဟာစ်ကြွေးလိုက်သည့် အသံထဲတွင် ထုတ်ဩဘာ မင်္ဂလာအဆီအနှစ်တွေ ပြည့်ဝရွှန်းစိုနေတော့သည်။ ထိုအသံကို ကြားရုံနှင့် စိတ်ချမ်းသာစရာ ကောင်းလှသည်။

ထို့နောက် ဧွသုံးရာပေး၍ အခါကောင်း အခါမြတ်ရွေးကာ ဩဘာစာ ဖတ်စေသော မန္တလေး ပုဏ္ဏားတော်ဆရာစိန်၏ ဌေစရာသင်း မှုတ်သံနှင့် ညြောင်း ဟာရီ ဟာရီ ရွတ်သံမှာ သာသ်ရိုက်သံပါလှသည်။ ဖယ်ဖေျာတု ဖယုတ္တရောဆိုသည့် ဖေျာမင်္ဂလ်ထဲမှ မထွက်သည့် အောင်ခြင်းမင်္ဂလာ လက်ာပတ်တမ်းတွေကိုလည်း ငွေပေးရတာ တန်သည် ထင်အောင် ကြိုးစားမင်းစား သရဇ္ဈာယ် နေပြန်ပါသေးသည်။ အောင်ပါစေ သပြေပန်းနှင့် ရေချမ်းကို လောင်းဆိုသော စည်တော်သံကိုလည်း ကြားလိုက်ရသည်။ ထိုသည့်နောက် ရေကိုသားသော်လည်း အခြားမထင် ရေကိုခွဲ၍ မကွဲဟူသည့် ဥပမာအားဖြင့် ငွေဖလားကြီးထဲက ရွှေရည်ငွေရည် ရတနာရေအေးထဲတွင် မောင်မောင်လွင်လက်နှင့်ထပ်ကာ နှစ်လိုက်ကြရပြန်သေးသည်။

ယခုခေတ် ဂုဏ်ပကာသနတို့တွင် အထွတ်အထိပ်ဟု ထင်သော နန်းရင်းဝန်ကိုယ်တိုင်က မောင်မောင်လွင်နှင့်မြမြကို လက်ဆက်၍ပေးကာ တတ်သမျှ မှတ်သမျှထုတ်ဩဘာ မင်္ဂလာစကားများ ပြောကြားလိုက်သေးသည်။ ဝိသာခါ စနဥ္စယပုဏ္ဏဝမုဏာ သတို့သမီး၊ သတို့သားတွေနှင့်

နိုင်းကာ ရှာသက်ပန် မကွေမကွဲ ရွှေလက်တွဲ၍ အမြဲပျော်ကြပါစေဟု ဆုမွန်များ ပေးလိုက်သေးသည်။

ဤကဲ့သို့ ပွဲကြီး ယဉ်၍ မိဘနှစ်ပါးက ထင်သမျှသော စေတနာ မင်္ဂလာတို့၏ တန်ခိုး ဆွေမျိုးပရိသတ် အထပ်ထပ်တို့၏ အာသီသတို့နှင့် ဆိုရလျှင် မြမြတို့ လင်မယားမှာ ယခုမှစ၍ ငှက်ဖြစ်တောင် တစ်ကိုင်း တည်း နားသွားနိုင်ကြလောက်ပါပေသည်။ သို့သော်သို့သော် အများက ရှင်မောင်္ဂလာန်ဆိုပေမဲ့ ရှာန်ကြွနိုင်မှ ယုတ္တိရှိသကဲ့သို့ အများက ထင်သလို ကာယကံရှင်လင်မယားက အကြင်နာတရားကိုယ်စီရှိကြမှ အရှည်သဖြင့် တည်စွဲနိုင်မြဲ သွားနိုင်ကြမည် မဟုတ်ပါလော။

မြမြသည် လက်ထပ်လိုက်ရသော မောင်မောင်လွင်ကို မြင်ဖူးတွေ့ဖူး ရုံမျှရှိသည်။ ထိုကတစ်ဆင့်တက်၍ မိမိနှင့် စုံဖက်ရမည်ဟု သိရသောအခါ တစ်ခွန်းစနှစ်ခွန်းစ ပြောဖူးဆိုဖူးရုံမျှရှိခဲ့သည်။ ထို ပြောဖူးသည့်စကားများ မှာလည်း သမီးရည်းစား စကားများလို အတွင်းကျကျ အသည်းနှလုံးထဲက စကားမျိုးမဟုတ်။ အပရိက အာသံဝစ္စတို့သာ ဖြစ်တော့သည်။ ထို့ကြောင့် ထိုနေ့က မင်္ဂလာကိစ္စတွေပြီးကတည်းက မောင်မောင်လွင်နှင့် နှစ်ကိုယ် ချင်း မတွေ့ခဲ့ရ။ တွေ့ရဖို့လည်း အာသာမရှိ။ မချစ်ဘူး၊ ချစ်တယ် စဉ်းစားဖွယ်မဟုတ်။ မချစ်ဘူးပဲပြောပြော၊ ချစ်ပါတယ်ပဲပြောပြော နောက်ဆုံးသဘောကတော့ 'သုံးတောင်ပြည့်ခန်းသာလယ်၊ လေးတောင် ပြည့်ခန်းသာလယ် မောင်ကြဲရွယ်တဲ့ စံပယ်ကုံးရယ် မင်းဘယ်သို့တုံး'ဟု ယနေ့ညပဲ မေးတော့မယ်ဟု သိခဲ့ရသည်။

သမီးရည်းစား မဟုတ်ခဲ့သူများအဖို့ ထိုနေ့ညသည် အတော်ခွကျ သည်။ မိမိတို့အဖို့ သတ်မှတ်ပြင်ဆင်ထားသောအခန်းတွင်းသို့ ကိုယ်က အရင်ဝင်နေပြန်လျှင်လည်း မတင့်တယ်။ နောက်ချန်နေပြန်လျှင်လည်း အရုပ်ဆိုး၊ ရှိုးတိုးရှန့်တန့်ဖြစ်စရာ တွေ့ကြုံရသည်။ နောက်ဆုံး ခုတင်

ပေါ်တွင် ထိုင်နေသောအခါ အခန်းတံခါးကိုဖွင့်၍ မောင်မောင်လှ်င် ဝင်လာသည်ကို စောင်းပါးရိပ်ခြည် ကြည့်နေရတော့သည်။ သူ့အမူအရာမှာ ကြောက်ရွံ့ထိတ်လန့်ခြင်းမှ ကင်း၍ မင်းမူမည့် ဣန္ဒြေမျိုး လိုလိုတည်တည်ခန့်ခန့်ကြီး ထင်ရသည်။ တဏယ်တွေးလိုက်တော့ ကိုယ့်ချစ်သူ မဟုတ်ခဲ့၍ ဤသို့ ထင်လေသလားဟု စဉ်းစားသည့်အခါ ကိုယ့်ချစ်သူ ဖြစ်ကလည်း ခပ်တည်တည် ဣန္ဒြေကြီးနှင့်လာသူကလည်း လာမည်မဟုတ်။ မှီရသည့်မျက်နှာ ပြုံးစိစိစပ်ဖြဲဖြဲ အမူအရာမျိုးသာ တွေ့ရမည် ဖြစ်၍ ကိုယ်ကလည်း သူ့မျက်နှာထား ရှုးနှမ်းနှမ်းကို ချစ်မျက်စောင်းနှင့် လှမ်း၍ ပက်လိုက်တော့မည် ဖြစ်၏။

မောင်မောင်လွင်က အနားရောက်လာသောအခါ ပြုံးကားပြုံးပါ၏။ သူ့အပြုံးမှာ စစ်နိုင်သော စစ်သူကြီးက လက်နက်ချ၍ အညံ့ခံရသော သူပုန်အပေါ်ကို ကျော်၍ ကြည့်ပြုံးသည့် အပြုံးမျိုးဖြစ်လေရာ ယခုထက်ရှင်းအောင် ပြောရလျှင်ကား

"ကဲ မင်း ဘာတတ်နိုင်သေးသလဲ ငါ့လက်ခုတ်ထဲကရေ"ဟု ကြုံးဝါးချင်သယောင် ရှိတော့သည်။ ထို့နောက် သူက အနားကပ်ထိုင်ချလိုက်ပြီး မေးခွန်းထုတ်လိုက်သည်။

"ဘယ့်နှယ်လဲ ပျော်ရဲ့လား"

ဤမေးခွန်းမှာ အတော်အဖြေရကျပ်သည်။ ရည်းစားမဟုတ်ခဲ့ရသောမြမြအတွက် ရှက်စရာ ကြောက်စရာ မိန်းမတို့ဣန္ဒြေပါ ငှဲညာဖို့ အလုံးစုံ အကျုံးဝင်နေတော့သည်။ သမီးရည်းစားသာ ဖြစ်ခဲ့ရပါမူကား ဤမေးခွန်းကို ကြားလိုက်ရသည့်နှင့် တစ်ပြိုင်နက် သူ့ရင်အုံကြီးကို ခေါင်းနှင့် ဝင်ဝှေ့ကာ

"ဘယ်နှယ့်မေးပါလိမ့် မောင်ရယ်။ အနေ့နေ့အရက်ရက် အထိတ်ထိတ်နဲ့ မျှော်လင့်လာခဲ့ရတဲ့ အောင်မြင်မှုကို မပျော်ဘဲ နေပါ့မလား။

မောင်ကော မပျော်ဘူးလားဟင် ဟင်လို့ ဒီကမေးနေတာများ ပြော
စမ်းပါဦး။ တကတဲ ပြုံးနေဖို့ပဲတတ်တယ်။ ဟင်းနော် ဒါပဲ နောက်
တော့မှ မြကို မပစ်နဲ့သိလား။ နည်းနည်းကလေးများ စိတ်ညစ်အောင်
လုပ်ရင်တော့ ဒီချည်းပဲ ပစ်လိုက်မယ်"ဟု မူကာန္တဲ့ကာ ခရာလို့ကောင်း
လိုက်မည့်ဖြစ်ခြင်း နော့လို့မူလို့ အရသာရှိလိုက်မည့်ဖြစ်ခြင်း။

ယခုတော့ ယခုတော့ မိမိအတွက် တစ်သက်လုံးအထင်သေး
စရာ မဖြစ်အောင် ဟန်ဆောင်မည့် သိက္ခာ၊ သူ ကန်းမတက်ရအောင်
စောင့်စည်းချုပ်တည်းရမည့် အမူအရာတို့အပြင် ကိုယ်အလှဂုဏ်၊ ကိုယ့်
မိဘဂုဏ်၊ ကိုယ့်နေဂုဏ်ကလေးတွေက မာနရယ်လို့ ရှိသေးသည်။

"ပျော်ပါတယ်"ဟု ဖြေလိုက်မိလျှင် သူနဲ့ညားလို့ ဝမ်းသာအားရ
ရှိလှသည်ဟုများ ထင်သွားလေမလား။ ဒီလိုဆိုရင် မိန်းမဈေးပျက်ရ
ချည့်ရဲ့။

"ဟင့်အင်း မပျော်ပေါင်"ဆိုလိုက်ပြန်ကလည်း

"ဒါဖြင့် မင်းငါ့ကို မကြိုက်ဘဲနဲ့ ယူရတာပေါ့လေ"ဟု လေရှည်
စရာဖြစ်ရာက တစ်သက်လုံး စိတ်မချမ်းသာစရာဘဝတွေကို မောင်မင်း
ကြီးသားက ဖန်တီးလိုက်မှာ စိုးရသေးသည်။

ထို့ကြောင့် မြက လိမ္မာစွာနှင့် မတင်မကျ ဖြေလိုက်ရသည်။

"ကိုယ်ချင်းစာကြည့်လေ"

မောင်မောင်လွင်က အဖြေကို သဘောကျသွားသကဲ့သို့ သံညှင်း
ကလေးနှင့် မပွင့်တပွင့် ရယ်ပြလိုက်သည်။ ရယ်ရာက မြ၏ပခုံးနှစ်ဖက်
ကို စုံကိုင်လိုက်ရာ မြက မသိမသာ ပခုံးတွန့်၍ ရွံ့ဟန်ပြလိုက်သည်။
အမှန်အားဖြင့် ဆိုရလျှင်လည်း လန့်တော့ လန့်သွားမိသည်။ ထိုကဲ့သို့
ကြောက်ခြင်းလန့်ခြင်းတို့မှာ အချစ်စိတ်နှိုးဆော်မှု မရှိ၍သာဖြစ်ကြောင်း

မြကိုယ်တွေ့ကြုံရသည်။ မြက မထုံတက်သေး ခပ်အေးအေး နေလိုက်ခြင်းကြောင့် မောင်မောင်လွင်ကလည်း မကျေနပ်သလိုလို ဖြစ်သွားသည်။ သူကိုယ်တိုင်ကလည်း မြကို ချော့ချင်သည့် စိတ်စေတနာ မရှိ။ မြကလည်း အောက်ကျမခံချင်။

"မြ၊ ကိုယ့်ကို ချစ်ရဲ့လား"

ဤမေးခွန်းမျိုး ထွက်လာမှာကို မြ အတော်စိုးရိမ်လိုက်မိသည်။ သူ မမေးစေချင်သည်မှာ အဖြေခက်၍ဖြစ်တော့သည်။ ဒါဖြင့် ကိုယ်က သူ့ကို မေးလိုက်ပါတော့ကော

"မြကို ချစ်ရဲ့လား"

ဤမေးခွန်းမျိုးကိုလည်း ကိုယ်က အမေးခက်လှသည်။ အတော်ဆက်ဆော့သည့် မိန်းကလေးမှ ကိုယ်က၍ မေးဝံ့လိမ့်မည်။ ဤသို့နှင့် သူတို့၏ အိမ်ထောင်ရေးသည် စက္ကူနှင့် ပြုလုပ်ထားသော နှင်းဆီပန်းကလေးကဲ့သို့ အမြင်လှသော်လည်း အနံ့အသက်ရှူ၍မရအောင် ရှိတော့၏။ လင်မယားဟူသည့်စပ်ကြားတွင် ဂုဏ်တွေ၊ မာနတွေက ကာဆီးလျက်ရှိတော့သည်။ သည်အယူအဆ အစွဲအမြဲတို့က အသီးသီးပင် ပယောဂ ဖိစီးနေကြသည်။

စကားပြောရာက မောင်မောင်လွင်သည် ခုတင်ပေါ်တက်၍ ပက်လက်လှန်အိပ်လိုက်သည်။ ထို့နောက် ပါးစပ်က ဝါးခနဲနေအောင် သမ်းဝေလိုက်ရင်း တစ်နေ့လုံးပင်ပန်းခဲ့ရသမျှ ယခုမှ အနားယူအပန်းဖြေရသလို လေးဖက်လေးတန် ခြေပစ်လက်ပစ်ဆန့်၍ ဟင်းခနဲ သက်ပြင်းမှုတ်ထုတ်လိုက်သည်။ သူ့မျက်စိအစုံမှာတော့ ခြင်ထောင်အမိုး မျက်နှာကြက်ကိုသာ မမှိတ်မသုန် စိုက်ကြည့်၍ နက်နက်နဲနဲ စဉ်းစားနေဟန်တူသည်။ မြမှာကား အနားက ငုတ်တုတ်ကလေး ထိုင်လျက်ပင်။

ထိုညမှစ၍ မြမြ မျက်ရည်ကျရသည်။

မိန်းမ၊ ယောကျ်ားနှစ်ဦးသားတို့ လင်မယား ဖြစ်လာကြသည်မှာ ချစ်၍ပင် ညားသလော၊ ညား၍ပင် ချစ်သလော စောဒနာဖို့အကြောင်း ဆိုက်လာခဲ့လေသည်။

မြမြနှင့်မောင်မောင်လွင် အကြင်လင်နှင့်မယားဟု လူသိနတ်ကြား လက်ထပ်ခဲ့ကြရသည်။ အများမျက်မြင် နှစ်ကိုယ်ယှဉ်၍ ပြုံးပြုံးရွှင်ရွှင် နေခဲ့ကြရသည်။ သို့သော် အတွင်းရေးကို ကြည့်လိုက်ရလျှင်ကား သံပတ် ပေးထားသည့် စက်အရုပ်တွေလို ဝတ္တရားကျေဆောင်ရွက်နေကြကြောင်း နှစ်ကိုယ်ချင်းသာ သိနိုင်ကြသည်။ လင်ဝတ္တရား၊ မယားဝတ္တရား ထို ဝတ္တရားတွေကို ကျေပွန်လျှင် လင်မယားစခန်း၌ စိတ်ချမ်းသာမှု ရ လိမ့်မည်ဟု ထင်မှတ်မှားနေသူများအဖို့ စိတ်စေတနာ သဒ္ဓါတရား ရှေ့ဆောင်မှု မရှိ။ ဝတ္တရားသိ၍သာ ဆောင်ရွက်ပေးမှုကို ခံစားနေရသူများ အဖြစ်သို့ ရောက်ဖူးမှ သိကြကျုံကြရပေသည်။

လောကမှာ ပိုက်ဆံသာ အရေးကြီးတာပါပဲကွာဟူသော ဥပါဒါန် ဖြင့် ငွေပေးကာ ခိုင်းကြသည်။ ငွေရအောင် လုပ်ကြသည်။ ထိုအခါ ငွေပေးရသူက ငွေပေး၍ ခိုင်းသည်ဟု ခပ်ရိုင်းရိုင်း သဘောထားကြသလို ငွေရဖို့ ထမ်းဆောင်သူကလည်း ငွေရလျှင်ပြီးစတမ်းဟု ပရမ်းပတာ လုပ်လိုက်ကြပြန်သည်။ ခိုချင်လျှင်ခို၊ ကပ်ချင်လျှင်ကပ်၊ ခိုးချင်လျှင်ခိုး၊ ဖှက်ချင်လျှင်ဖှက် နှစ်ဦးနှစ်ဖက် စေတနာအရင်းမခံသဖြင့် အမှု မှန်လျက် မကြီးပွားနိုင်သည့်နည်းတူ အိမ်ထောင်ရေးပြဿနာ လင်မယား သင်ခန်းစာမှာလည်း ပမာထို့အတူ ဤမှုအတိုင်းသာ ရှိတော့သည်။

လင်ယောကျ်ား ရှာဖွေ၍ရသမျှ မယားကိုသာ အပ်ကြရမည် ဟူသည့်အတိုင်း

“ရော့ဟော့၊ လခထုတ်လာတယ်”ဟု ပိုက်ဆံကို ပစ်ပေးလိုက်သကဲ့သို့ အိမ်မှုကိစ္စ မယားများက လုပ်ကြရမည်ဟူသော ဥပဒေအရ

“ဟောဒီမှာ ထမင်းရူးပြီးပြီ”ဟု မယားက မီးဖိုချောင်က လှမ်းအော်လိုက်ပြီးလျှင် နှစ်ဦးစလုံး၏ ဖျားရေးနာတာ ဝေဒနာများအတွက် ဆရာဝန်ခေါ်ပေး၊ အနှိပ်သည် အနှိပ်ခိုင်း၊ ထိုထက်တစ်ဆိတ် အခံဆိုးလာလျှင် ဆေးရုံကိုပို့ပေးရုံနှင့် လင်မယားအရသာ လင်မယားတို့၏ဝတ္တရားကျေပွန်သည်ဟု ဆိုရမည်လား။ ချွတ်ယွင်းသည်ဟု မဆိုနိုင်သော်လည်း ပြည့်ဝသည်ဟု မမှတ်ယူနိုင်သော ဤအကြောင်းတရားများသည် လင်မယားအမည်ခံယူရုံသာ နေကြရသော အိမ်ထောင်မောင်နှံ၌ ရှိတတ်ကြသည်။

လူကို ချစ်လို့ ယူတာလား၊ ပစ္စည်းကို မက်၍ ယူတာလား၊ မိဘဩဇာကို နာခံရလို့ ယူတာလား ဟူသော လားပေါင်းတစ်ရာ့ခြောက်လောက်သည် ဘုမသိဘမသိ မင်္ဂလာဆောင်ယူရသော ဇနီးခင်ပွန်းတို့၏ စိတ်ဝယ် ကိန်းဝပ်နေတတ်သည်။ ပျော်တုန်းတော့မထောင်းတာ နာစရာဖက်မိတော့ ဤအချက်တွေကပါဝင်၍ စနိုးစနောင့် ဒုက္ခပေးတတ်သေးသည်။ ညားပြီးမှ မေးလျှင်တော့

“မချစ်ဘဲနဲ့ ယူပါ့မလား”ဟူသော အဖြေသာ ဒိဋ္ဌကြားကြရပေမည်။ ထိုမှလွဲသောအဖြေကား ကွဲပြားခါနီးမှ စစ်ကြေညာသလို ကြေညာရင်း အဖြေထွက်လာတတ်ပေသည်။ ဆူးပေါ်ဖက်ကျလျှင် ဖက်ပေါက်၍ ဖက်ပေါ်ဆူးကြလျှင်လည်း ဖက်သာပေါက်ရအံ့သော မြမြတို့လို မိန်းကလေးတစ်ယောက်အတွက် တည်မိတဲ့ဘုရား လင်းတပင်နားနား၊ ရတနာသုံးပါးအဖြစ်က ရွှေလျားနိမ့်ကျ၍ မသွားနိုင်သကဲ့သို့ ညားမိသော လင်ကိုလည်း ဆိုးဆိုးကောင်းကောင်း ပေါင်းရပေတော့မည်။

မြမြသည် ထိုသဘောတရားအရ လင်ကို ဂရုစိုက်ဖို့ ကြိုးစားခဲ့သည်။ ရင်းရင်းနှီးနှီး တိုးတိုးခွေ့ခွေ့ နေနိုင်ရအောင် သွေးဆောင်ကြည့်မိသည်။ သို့သော် မြမြ၏ဆန္ဒအတိုင်း မဖြစ်မြောက်ခဲ့။

လင်နှင့်မယားဟူသည် အပေးအယူရှိစမြဲ၊ အပေးအယူ အပြန်အလှန် မှန်သားကဲ့သို့လည်းကောင်း၊ ရေကသိုဏ်းကဲ့သို့လည်းကောင်း ရှိတတ်သည်။ ရှိမှလည်း သဘာဝဖြစ်သည်။ လင်မယားဘဝသာမက ကမ္ဘာ့ လူမှုပေါင်းသင်း ဆက်ဆံရေးတွင်ပင် အဓိကတရားကြီးဖြစ်သည်။ သူ့လက်လာမှ ကိုယ့်လက်နှင့် တွေ့ကြမည်။ ကိုယ်က လက်လှမ်းလျက်နှင့် သူ့လက်က မကမ်းလျှင် လမ်းတွင် တွေ့ဆုံနိုင်ကြသည်မဟုတ်။ ထိုသို့သောအခါ သူမာလျှင် စိန်သံချောင်းသာပ၊ သူပျောင်းလျှင် အရည်ဖြစ်နိုင်ငှဲ။ သူတော်မှ ကိုယ်ကောင်းမည်ဆိုသော စကားမျိုးနှင့် ချင်းစိမ်းနှင့် မိဿလင် သူကြင်မှ ကိုယ်ကြင်မယ်ဆိုသောဥပမာများ၊ သံကို ကြွက်စားလျှင် သားကိုစွန်ချီသော ထုံးတမ်းသည် အာဃာတတရားနှင့် နှစ်ဦးကြားတွင် မားမားကြီး ပေါ်ပေါက်လာဆီးလာတတ်ကြသည်။

အခါခပ်သိမ်း တွဲဖက်၍ တစ်သက်တာ ဘဝခရီး၏ ဇနီးမောင်နှံများကို မဆိုထားနှင့် တကယ် လင်မယားမဟုတ်သော ပွဲထဲက မင်းသား၊ မင်းသမီး ကပြသူများပင်လျှင် သတိထား၍ ကြည့်ပါဦး။

“မာလာ ငွေဖော့၊ ခွေလျော့လျော့၊ ကြွေတော့မယ့်ပုံ၊ နကသိုဏ်းကျ၊ ရှုတိုင်းလှပါတဲ့၊ မြကြေးမုံ ခင်လေးဗျ” ဟု မင်းသားက ချွဲချွဲပစ်ပစ် ခေါ်စမ်းလိုက်သည့်အခါ

“ဘာတုံး” ဟု နှစ်လုံးတည်းသာ မင်းသမီးက ထူးလိုက်သည် ဆိုလျှင် နားဝင်တစ်မျိုးကြောင့် ခွက်ထိုးခွက်လန် ရယ်စရာအမှန် ဖြစ်သွားနိုင်သေးသည်။ ထို့အတူ မင်းသမီးက

"ရွှေလည်ပင်းနှင့်၊ ခင်းသင့်သင့်မှာ၊ ညှင်းနှစ်ပွင့်ဆိုင် သျှောင်ထုံး တွဲတွဲ၊ ဆောင်လုံးနွဲ့တဲ့၊ မယ်ကေခိုင်မောင်မောင်ဘုရား" ဟု ခရာတာတာ မာယာသံတွဲ၍ရွဲ့လိုက်မှ မင်းသားက ကဗျာဆန်ဆန်ကာရန်နဲ့ ပြန်မလာဘဲ "ဘာလဲကွာ၊ တကတဲ နားပူလိုက်တာ" ဟု ဆိုလိုက်လျှင်လည်း အပေး အယူ နားဝင်ပီယံ မဟုတ်၊ မင်းသမီးခမျာအတွက် အောင့်သက်သက် ဆန့်တင့်ငံ့ ခံလိုက်ရရှာမည် မဟုတ်လော။

ထို့အတူ မြမြအတွက်လည်း အခေါ်အပြော အဆက်အဆံစ၍ အဆင်မပြေမှုကလေးတွေ ကြုံရသည်။ တစ်ခါက နှစ်ခါ မောင်မောင် ဘာဘာလုပ်၍ အဆင်မပြေသောအခါ နောင်ကို မျက်နှာပြောင်တိုက်ဖို့ အတော်ကလေး ဝန်လေးလာတော့သည်။ ဝန်လေး၍ ဆက်မလုပ်သော အခါ လင်ယောကျ်ားက အမြင်တစ်မျိုး အထင်တစ်မျိုး မြင်လာ ထင် လာတတ်တော့သည်။

လင်နှင့်မယား နှစ်ဦးကြားဝယ် မယားငယ်ယူမှု၊ လင်ငယ်နေ မှုတို့ သည်သာလျှင် ကွဲပြား ခွာပြဲလောက်အောင် အရေးကိစ္စကြီးတစ်ခု မဟုတ်။ အမှတ်မထင်သဘောနှင့် ကြည့်လျှင် မပြောပလောက်ဟု ထင်ရသည့် အကြောင်းတရားကလေးများကလည်း တဖြည်းဖြည်းနှင့် အရေးကြီးလာလောက်အောင်သတ္တိရှိကြ၏။ ဥပမာအားဖြင့် တဟုန်းဟုန်း တောက်လောင်သော မီးအလျှံကြီးသည်သာ ပြာသာဒ်ကြီးတစ်ခုလုံးကို မျိုဝါး စွဲလောင် ဖျက်ဆီးနိုင်သည်ကား မှန်၏။ သို့သော် ထိုမီးဟုန်းဟုန်း ၏ ဘဝသည် မပြောပလောက်သော မီးပွားမီးမှုန်ကလေးက မှုတည်၍ စခဲ့ခြင်း ဖြစ်သည်။

မြမြနှင့် ကိုလွင်တို့၏ အိမ်ထောင်ရေးဘဝ သက်တမ်း၌လည်း မီးပွားကလေးတွေကို သတိမပြုခဲ့သဖြင့် မီးတောက်မီးလျှံ ကြီးသည်ထက်

ကြီးကာ မြမြဝင်း ပဋိသန္ဓေ အရင့်အမာတွင် အိမ်ထောင်ရေး မီးလျှံကြီး တဝုန်းဝုန်း တဟုန်းဟုန်း တောက်လောင် ဝါးမျိုခံရခဲ့လေသည်။

*

ဒေါ်မြမြတို့ အိမ်မှ တိုင်ကပ် သံစုံနာရီကြီး၏ ဆယ့်နှစ်ချက် တီးခေါက်သံသည် အတွေးထဲတွင် နစ်မျောနေခဲ့မိသော ဒေါ်မြမြအား လန့်ဖျပ်ဖျက်ဆီးလိုက်လေ၏။

ခေါင်းအုံးတစ်ဖက်စွန်းတွင် တစိမ့်စိမ့် စီးကျနေသော မျက်ရည်များသည် အတော်ကလေး စိုစွတ်နေတော့သည်။ သို့သော် သမီးကလေး မြမြဝင်းနိုးမည်စိုး၍ ကိုယ်ခန္ဓာလည်း မလှုပ်ဝံ့၊ မျက်ရည်လည်း မသုတ်ဝံ့ ဖြစ်နေရှာသည်။ ထိုသို့ နေသည့်ကြားက မြမြဝင်း၏ ကိုယ်ကလေးမှာ လှုပ်လှုပ်ရွရွ ဖြစ်လာသည်ကို သိလိုက်ရသည်။ ထို့နောက် မြမြဝင်း ထထိုင်လိုက်မှန်းလည်း သိသည်။ မိမိအား ငုံ့ကြည့်၍ အိပ်ပျော်မပျော်ကို အကဲခတ်နေကြောင်းလည်း ရိပ်မိလိုက်သည်။ ဒေါ်မြမြကား ဝမ်းတွင်းက ဘလောင်ဆူလျက်နှင့် မျက်စိကို စုံမှိတ်၍ အိပ်ချင်ယောင်ဆောင်နေလိုက်လေသည်။

မြမြဝင်းသည် ခုတင်ပေါ်မှခြေဖျားထောက်၍ ဆင်းလိုက်သည်။ ထို့နောက် တစ်လှမ်းချင်း လှမ်းကာ အခန်းဝသို့ ရှေ့ရှုနေလေသည်။

ထိုအချိန်တွင်ပင် အိမ်နောက်ဖေးပေါက်မှ ရွှီခနဲ လေချွန်သံတစ်ချက် ကြားရပြန်သည်။ မြမြဝင်းသည် ထိုအသံကြောင့် စိတ်မလုံနိုင်ဘဲ မိခင်ကြီးရှိရာကို ပြန်လှည့် ကြည့်လိုက်သေးသည်။ မိခင်ကြီးက ဘာမှ မထူးခြားသောအခါ ဆက်၍လှမ်းကာ အခန်းအပြင်အရောက် ထွက်သွားတော့သည်။ ဒေါ်မြမြမှာ စိတ်တွင်းက တားရမယောင်ယောင် ဥပေက္ခာပြုရမယောင်ယောင်နှင့် ဝမ်းနည်းလျက်သာ ရှိလေသည်။ အဘယ်ကြောင့် ဝမ်းနည်းနေသည်ကိုမူ သူကိုယ်တိုင်ကမှ မသိ။

ယခု ထ၍ ထွက်သွားသော ခရီးသည် သမီးသည်မြမြဝင်းအတွက် အလွန်တရာ စိတ်ချမ်းမြေ့စရာအဖြစ်ဖြင့် တည်ရှိပေလိမ့်မည်။ ထိုသို့ သမီး စိတ်ချမ်းသာလျှင် မိခင်၌ မုဒိတာ ဖြစ်ဖို့သာ ရှိသည်။ ယခုကား အဘယ်ကြောင့် ဝမ်းနည်းခြင်း ဖြစ်ရသည်ကို မတွေးတတ်။

ဒေါ်မြမြသည် ကိုယ့်စိတ်ကို အစိုးမရသော ပုဂ္ဂိုလ်တစ်ယောက်ကဲ့သို့ ခုတင်ပေါ်မှ ထထိုင်လိုက်မိသည်။ ယောင်ယောင်နန ဖြစ်နေခြင်းမှာ စဉ်းစားနေသောကြောင့်မဟုတ်။ ဘာလုပ်ရမည် မသိသလိုသာ ဖြစ်နေ လေသည်။ ထို့နောက် ဒေါ်မြမြ ကိုယ်တိုင် မြမြဝင်း သွားရာခရီးကို ခြေရာနင်းမိသည်။

အိမ်နောက်ဖေးတံခါးသည် အသာကလေး စေ့ထားသလို တွေ့ရ သည်။ တံခါးကို တဖြည်းဖြည်း ဖွင့်ကြည့်လိုက်သောအခါ အိမ်နောက်ဖေး ပန်းရုံကလေးနားရှိ ခုံတန်းလျားကလေး အပေါ်၌ ယောကျ်ားပျိုတစ်ဦး၏ ရင်ကို ခေါင်းမှီကာ လောကကြီးတစ်ခုလုံး၏အာရုံကို ပီတိနှင့် အဆက် ဖြတ်ထားဟန် ဣန္ဒြေနှင့် ကြည်နူးနေဟန်တူသော သမီးသည်၏ အမူ အရာကို မြင်လိုက်ရသည်။

"မြ၊ မြ မောင့်ကို ချစ်တယ်ဆိုတာ ဘယ်တော့မှ မပြောင်းဘူး နော်"

"အို မောင်ကလဲ။ မြ အချစ်ကို မယုံလိုက်တာ မောင့်ကိုလေ မောင့်ကိုလေ မြ မေမေထက်တောင် ချစ်သေးတယ် သိလား၊ သိလား"

နောက်ဆုံးကြားရသော မြမြဝင်း၏ စကားသည် တံခါးကို မှီနေ သော ဒေါ်မြမြတစ်ကိုယ်လုံးအား သွေးတွေ လျော့နည်းသွားသလို ထင် လိုက်မိရုံမျှမက မျက်ရည်တွေတွေကျရာက အိပ်ခန်းထဲသို့ တစ်လှမ်း ချင်း တစ်လှမ်းချင်း လေးလေးပင်ပင် ဖင့်ဖင့်နွဲ့နွဲ့ မချီတင်ကဲနှင့် ပို့လိုက်သလို ရှိလေ၏။

[ရှုမဝ ၁၉၅၁ မေ]

## ဖြစ်လေရာ ဘဝယ်

ခုတင်ပေါ်တွင် ပိုးလိုးပက်လက်လန်နေသော လင်သည် ကိုဘိုးဟန် ကိုကြည့်ရင်း စိတ်ပျက်၍ စက်ဆုပ်လာခဲ့သည့်အကြိမ်ပေါင်းမှာ မယား ဖြစ်သူ မသန့်အဖို့ မရေမတွက်နိုင်အောင်ရှိလှပြီး မုန်းသည်၊ မုန်းသည်။ သို့သော် ပစ်နိုင်လောက်အောင်၊ ကွာနိုင်လောက်အောင်၊ ထွက်ပြေးနိုင် လောက်အောင် မုန်း၍တော့မရ။

မုန်းမယ့်မုန်းလျှင် သို့ကလောက်အထိ မုန်း၍မရနိုင်သည့်အတွက် ကိုယ့်ကိုယ်ကို ဒေါသထွက်မိပြန်သည်။ သူ့ကို ငါ ဘာမက်စရာရှိသလဲ၊ နေရေးထိုင်ရေး၊ စားရေးခါးရေး၊ ဒါတွေကို အပထား၊ နေ့တိုင်းနေ့တိုင်း စိတ်ချမ်းသာလား။ နည်းနည်းလေးမှ စိတ်မချမ်းသာ။ ဒါနှင့် ဘာကိုမက်၍ ဤအရက်သမားကို လင်ပြုနေရပါလိမ့်။

အဲဒါကျတော့ မိန်းမ၊ မသန့်မှာ မိန်းမဖြစ်နေ၍သာ ကျိတ်မှိတ် ပိန်လိန်၍ သူ့ဘဝ၏အညစ်အကြေးကို မျက်ရည်နှင့် ဆေးဆေးနေမိတော့ သည်။

မသန့်သည် သူ့လင်၏မျက်နှာကို စေ့စေ့စပ်စပ်ငုံ့ကြည့်နေသည်။ ခုတင်တစ်ခုလုံးကို လေးဖက်လေးတန်ကား၍ ပစ်စလက်ခတ် အိပ်မော ကျနေသည်။ ခွီး ခွီး ဟူသော ဟောက်သံသည် ကြမ်းတမ်းခက်ထရော်

သောသူ့မျက်နှာနှင့် လိုက်လျောအောင် မနှစ်မြို့စရာဖြစ်သည်။ ခက်ထန်သောမျက်နှာထားမှာ အိပ်မောကျနေပြီဖြစ်၍ ပြေသင့်သလောက် ပြေနေစေကာမူ မိမွေးတိုင်းဖမွေးတိုင်း မဟုတ်တော့သော သူ၏ပါးစုံ၊ သူ၏နှာတံ၊ သူ၏နဖူး၊ သူ၏မျက်ခွံတို့မှာ ဩဇာသီးများလို အဖုအပိန့်တွေထနေပေသည်။ အရက်တွေ အရောင်တက်သလို ပြောင်လက်နေသည်။ အရက်ချွေးပြန်သလို စေးထန်းနံစော်သော ပေါင်းအိုးက ချွေးတွေကဲ့သို့ စွတ်စိုနေသည်။ ဒီကြားထဲတွင် ပါးစောင်မှအာရေတို့သည် သူဖြစ်ကတတ်ဆန်း ပရမ်းပတာ ဆွဲအုံးထားသော ခေါင်းအုံးပေါ်မှာ တတွေတွေ ကျဆင်းနေသေးသည်။

မြင်ရသူအဖို့ ဤသည့် ဤပုံအနိဋ္ဌာရုံတွေ မြင်တွေ့နေရလင့်ကစား အရက်သမားဖြစ်သော သူ့အဖို့မှာတော့ ဣဋ္ဌာရုံချည်းသာ အိပ်မက်မက်ချင်မက်နေပေသည်။

မသန့်သည် မရှုနိုင်မကယ်နိုင်ဖြစ်နေသော ရင်ဝက အလုံးကို ဗုန်းဗုန်းကျအောင် သက်မနှင့်ရော၍ ချလိုက်ရသည်။ ချ၍မှကျတော့ မည်ကြောင်း ရှိသေးသည်။ မခင်မြအစရှိသော ခုတင်ခြေရင်းက သားသမီးသုံးယောက် လူးကြွလိမ့်ကြွသံကြောင့် သူတို့ထံ အာရုံရောက်သွားရပြန်သည်။

အကြီးဆုံးသမီး မခင်မြ အသက် တစ်ဆယ့်သုံးနှစ်။

မသန့်သည် ကလေးတွေ၏မျက်နှာကို အဝေးက လှည့်ကြည့်လိုက်ရုံနှင့် အပြစ်ကင်းမဲ့စွာ ကြောင့်ကြပူပင်မှု မရှိ၊ နှစ်နှစ်ခြိုက်ခြိုက် အိပ်ပျော်နေကြသည့် မျက်နှာထားကို မြင်လိုက်ရပါသည်။ ကလေးတွေ အကုသိုလ်ကင်းစင်သလို သူတို့အဖေ ကင်းစင်နေပါသဖြင့် ဘယ်လောက်ဆင်းရဲဆင်းရဲ ဆင်းရဲပါစေ ကျေနပ်နိုင်ပါသေးသည်။ ယခုကား သူကိုယ်တိုင်မကင်းသည်မဟုတ်၊ ယနေ့လား နက်ဖြန်လား အပျိုသွေးဝင်

တော့မည့် သမီးကလေးကို လူကြမ်းလူသရမ်း၊ ကြော့ကြမ်းဟော့ရမ်းသူ တို့၏ သားရဲတွင်းဖြစ်သည့် အရက်ဆိုင်သို့ အရက်ပုလင်းအဝယ်လွှတ် တတ်ပါသေးသည်။ သူ့အဖို့တော့ "ခိုင်းလာတာပဲ သုံးလေးနှစ်ရှိမှကွာ" ဟူ၍ မထူးဆန်းသောဘာဝကို အကြောင်းပြတတ်သည်။ ဤသို့ပြသလို အရက်ကိုသာ ရမည်ဆိုက မယားကိုပါ ခိုင်းချင်ခိုင်းပါလိမ့်မည်။

အရက်သည်သာ သူ့အတွက် အရေးအကြီးဆုံး။

အရက်သည်သာ သူ၏မွေ့လျော်ရာ အရည်ယမကာ။

အရက်သည်သာ သူ အတာပ်မက်ဆုံး အနှစ်သက်ဆုံး။

အရက်သည်သာ သူ၏အဘာဝမုဏာ။

ဒေါင်ခနဲနေအောင် တီးလိုက်သော သံချောင်းသံကြောင့် တစ်နာရီ ထိုးပြီဖြစ်ကြောင်း မသန့်သိလိုက်ရသည်။ ညတိုင်းဆိုလျှင် မသန့်ပါ စိတ်ညစ်ညစ်နှင့် အိပ်ပျော်ခဲ့သည်။ ယနေ့ညတော့ အိပ်၍မပျော်၊ လုံးဝ အိပ်ချင်စိတ်မရှိတော့သလို မျက်လုံးတွေကြောင်နေသည်။ ဤသို့ မအိပ် ချင်ခြင်းက မသန့်အား တောင်တွေးမြောက်တွေးနှင့် စိတ်ညစ်ဆေး ဖော်တော့မည်။ ဒါကိုသိ၍ ဖွတ်အိပ်ကြည့်သည်။ ပရမ်းပတာ ကြမ်းတမ်း စွာ လှုပ်ရှားသော ကိုဘိုးဟန်၏ ခြေနှင့်လက်တို့က မသန့်၏ ပါးကို လာရိုက်သည်။ မသန့်၏ခါးကို လာ၍ ကန်သည်။

ထိုအခါ "အင်း အိပ်ကောင်းခြင်း မအိပ်ရ၊ စားကောင်းခြင်း မစားရ" ဆိုတာ ဒါတွေကို ပြောတာများလားဟု စဉ်းစားလိုက်မိသည့် အစကလေးက သံသရာအမျှင်တန်း မဆုံးခန်းသော တွေးတောမှုတွေ ဖြစ်ပေါ်နေတော့သည်။

"မသန့်၊ မင်းကို ကျုပ်မေတ္တာရှိနေတာ"

"အို ကိုဘိုးဟန်၊ ရှင် အရက်တွေ သောက်လာပြီး ဘယ့်နှယ် စကားတွေ"

"ဟဲ ဟဲ ဟုတ်တယ်၊ ကျုပ်အရက်တွေ သောက်လာတယ်၊ ဒါ ကြိုက်လို့ သောက်တာ မဟုတ်ဘူး၊ မင်းကို မပြောရဲလို့ ရဲဆေးတင်လာရတာ သိလား သိလား"

မညားခင်က တစ်ခွတ်ထိုးပြောလိုက်ပုံကလေးမှာ အဲဒီတုန်းက မသန့်အဖို့ အတော်ဝမ်းသာသွားမိသည်။ အတော်သွေးကြီးမိသည်။

ငါ့ကိုကြိုက်ပါတယ်ဆိုတာလေးတောင် မပြောဝံ့လို့ အရက်သောက်လာရသတဲ့။ ငါ့ကို အတော်ကြောက်နေပါလား၊ လေးစားလွန်းလှပါကလား။ သူမကြိုက်ဘဲနဲ့တောင် ဖွတ်မိုတ်မျိုလာရဆိုပါလားဟု ကိုယ့်ဘက်ကိုယ်ယက်တွေးပြီး အတော်ကလေး ဘဝင်မြင့်ခဲ့မိသည်။ စင်စစ်မှာလည်း ကိုဘိုးဟန်မှာ မျိုးသန့်ရိုးသန့် ခေတ်ပညာတတ်၊ အလုပ်နှင့်အကိုင်နှင့် ကိုယ်လွတ်လက်လွတ် ဖြစ်ခြင်းကြောင့် မသန့်ကိုယ်တိုင်က ငြင်းလိုက်မဟုတ်ဟု မတွေးခဲ့ဖူးရုံမက ဘယ်တော့ စပါ့မလဲဟု အရိပ်အကဲကို စောင့်မျှော်နေစဉ် ဖြစ်ပါသည်။

"ဟင့်အင်း ကွ၊ ငါကတော့ တားမရဘူး၊ ချစ်မှာပဲ ချစ်မှာပဲ၊ ဖွတ်ချစ်မှာပဲ၊ အသေဝနာစ ဗာလာန်၊ မသေရျာသမျှ ငါမပြန်၊ ဘာရမလဲ အရက်ကို မောင်းတင်လာခဲ့ရတာက အရှုံးခံလို့ ဟင်း ဟဲ ဟဲ ဟဲ"

ကြိုက်ကြပြီး၍ နှစ်ယောက်ချင်း ချိန်းတွေ့ပြန်တော့လည်း အရက်ကလေးကို အဖော်လုပ်ကာ အပိုင်စီး၍ နိုင်နည်းကားကြီး နိုင်လိုက်ပြန်သည်။ ထိုစဉ်ကလည်း မသန့်မှာတော့ ဝမ်းသာလွန်း၍ ငိုမိသည်။ အရက်ကြောင့်သာ ဤမျှရဲတင်းသည်၊ မြန်ဆန်သည်၊ စိတ်အားထက်သန်သည်။ နိဂုံးချုပ်လိုက်တော့ အရက်ကြောင့်သာ တောင့်တအပ်သော ပန်းတိုင်ကို အမြန်ဆုံး ရောက်ခဲ့ရသည်။ မသန့်သည် ပီတိကြောမှာ မြော၍ မောသွားသည့်အထိ ဖြစ်ရသည်။

"ကဲ ကိုဘိုးဟန် ပြန်ပါတော့၊ အမေတို့ နိုးကုန်တော့မယ်"ဟု မသန့်က နွမ်းလျလျနှင့်နှုတ်ဆက်၍ နှင်လွှတ်သည်ကိုပင် ကိုဘိုးဟန်က တော့ ပါးစပ်က ပြုံးဖြီးဖြီး ခေါင်းကြီးယမ်းတမ်းတမ်း အငမ်းမရ၊ တတမ်းတတ တစ်လှမ်းစပြန်ပါသေးသည်။

"ဟင့်အင်း ပြန်ဘူး ပြန်ဘူး ဘယ်သူ့ ဂရုစိုက်ရမလဲ၊ ငါ့မယားဆီ ငါလာတာ၊ ချစ်စရာတွေ တစ်ပုံကြီးရှိသေးတယ် သိလား၊ တစ်ပုံကြီး ရှိသေးတယ် ဟီး ဟီး ဟီး"

ဤကဲ့သို့မူးသည့် မူးရမ်း၊ ရူးတည့်ရူးနှမ်း၊ ဘီလူးဖမ်းသလိုဖမ်း ပြန်တော့လည်း မသန့်မှာ ဘာမှ မတတ်နိုင်။ ချဉ်တင်တင် စူးဝါးဝါး အနံ့အသက်ကြားမှာ အသက်ရှုများပင် မှားခဲ့ရပါသည်။

"ဩော် ကိုဘိုးဟန် ကိုဘိုးဟန်"

သူပြန်သွားတော့ မသန့်၏ တစ်ကိုယ်လုံးမှာ အရက်နံ့ကလေး တွေ စွဲကျန်ရစ်ခဲ့သည်။ သူ့ကို အလွန်အမင်း စပ်ပြင်းပြင်းကလေး ချစ်သွားသည်မှာ အရက်ကလော၊ လူကလောဟု တွေးတော၍ပင်နေမိ သည်။ အစက ချဉ်ချဉ်တူးတူး အော်ကလီဆန်စရာကောင်းသော အနံ့ ဟု မသတိခဲ့ပေမင့် ကိုဘိုးဟန်၏ဖောဋ္ဌဗ္ဗကို စားမြုံ့ပြန်လိုက်လျှင် ဤအနံ့ကလေးကမှ တင်းပြည့်ကျပ်ပြည့် အရသာကို ခံစားနိုင်မှန်း သတိရသည်။

တင့်တင့်တယ်တယ်ညားကြသည့် ပထမညကများဆိုလျှင် ကိုဘိုး ဟန်သည် အလုပ်က ပြန်ကတည်းက ပုလင်းကြီးကို ပိုက်၍ ပြန်လာ သည်။

"ကိုဘိုးဟန် ရှင် အရက်သမားဖြစ်တော့မှာလား"ဟု ဆီး၍ ဆူ လိုက်သည်။

"ဟား ဟား ဟား မင်းနဲ့ညားရတာ ဝမ်းသာလွန်းလို့ပါ မိန်းမ ရာ"

"ကြည့်စမ်း သောက်လဲ လာသေးတယ်၊ ပါးစပ်က နံလို့"

"ဟော် ဟော် သောက်တာ အဆန်းမှတ်လို့၊ သောက်တော့ ဘာဖြစ်တုံး၊ စားကောင်းတယ်၊ သောက်ကောင်းတယ်၊ သွေးသား ညီညွတ်တယ်၊ အားရှိတယ်၊ ဒီတော့ ဒီတော့ တို့လင်မယား အားရပါးရ တောင် ချစ်နိုင်သေးတယ်"

"အို ကိုဘိုးဟန် "

"မအိုနဲ့အစ်မ၊ မင့်အတွက် ငါသောက်ရတာ သိလား"

"အို ဘာတွေလျှောက်ပြောနေရတာလဲ၊ နားရှက်ပါတယ်"

"ဟား ဟား ဟား တခြားမဟုတ်ပါဘူး။ ကျန်းကျန်းမာမာနဲ့ လုပ်နိုင်ကိုင်နိုင်မှ စားရေးနေရေး ဟန်ကျပြီး မင့်ကို တင့်တင့်တယ်တယ် ထားနိုင်မှာပေါ့ ဟုတ်ဘူးလား၊ ဟုတ်ဘူးလား၊ အဟီး ဟီး ဟီး မသန့်လေး ချစ်လိုက်ပါတဲ့ အာရုံ ဟုန် ဟုန် ဟုတ် ရွှေမြင်းမိုရ် တစ်တောင်လုံး ဟုန်း ဟုန်း ဟုန်းကို"

"ဩော် ဘယ့်နှယ်အော်ကြီးဟစ်ကျယ် လုပ်နေရတာတုံး၊ ကျုပ် စိတ်ရှုပ်လာပြီနော် သိလား"

မသန့်မှာ တကယ်မှာပင် ကသိကအောက် ဖြစ်၍ ငိုသံပေါက်လာသည်။ အိမ်နီးပါးချင်းများကို ရှက်၍ စိတ်ညစ်ရသည်။ ဒီလို ငိုလိုက်ပြန်တော့ ကိုဘိုးဟန်က ပျာပျာသလဲ ချော့သည်။ ခယယ တောင်းပန်သည်။ ချွဲချွဲပျစ်ပျစ် အောက်ကျို့အသနားခံသည်။ မသန့်သည် ဤလိုနှင့်သာ ကိုဘိုးဟန်၏ အရူးအမူးချစ်မှုကို သာယာရပြန်သည်။ မှန်ပေ၏။ ကိုဘိုးဟန်မှာတော့ အရက်ကို တစ်ခွက်ပြီးတစ်ခွက်သောက်ရင်း ရူး

သလိုလိုနှင့်လည်း ချစ်သည်။ မူးသလိုလိုနှင့် ချစ်သည်။ ထို့ကြောင့်ပင်လျှင် မသန့်ကိုယ်တိုင် "ငါတော့ အချစ်သားပဲ"ဟု ခွင့်လွှတ်လိုက်ရသည်။

သို့သော် ကာလတာတောင် မကြာမြင့်မီပင် မိမိထက် အရက်ကို ပို၍ချစ်ကြောင်း ဓာတ်ပြလာတော့သည်။ တစ်ညတွင် ကိုဘိုးဟန် အလွန်အကျွံ မူးလာသည်။ သူ့အပေါင်းအသင်း သောက်ဖော် သောက်ဖက်တစ်ယောက်က တွဲ၍ ထိန်းလာရသည်။ သူ တကယ်မူးလာတော့ တကယ်စိတ်ပျက်စရာကောင်းကြောင်း ယခုမှ သိရသည်။ အဝတ်အစား အကျွတ်ကျွတ်၊ ဣန္ဒြေအလွတ်လွတ်။

"သန့်၊ သန့် ကိုယ်တော့ မူးလာပြီကွ"

မသန့်သည် ထ၍ တွဲယူရမှာကိုပင် စိတ်နာသည်။ ထို့ကြောင့် ဘာတစ်ခွန်းမှလည်း မပြော။ ဘာတစ်ခုမှလည်း မလုပ်။ ငုတ်တုတ် ထိုင်ကြည့်နေလိုက်သည်။

"ဟော့ မသန့် မသန့် ဟဲ့ကောင်မ၊ မိသန့် နင်ဘယ်လင်ငယ် တွေ့နေလို့ ငါ့ကို ဂရုမစိုက်တာလဲဟင်"

မသန့်သည် ယခုလို မဆဲစဖူး အဆဲခံရတော့ မွှန်ထူသွားလေ၏။ ဝမ်းနည်းတာထက် ဒေါသထွက်လာမိ၏။

"ရှင် အရည်တွေ သောက်လာပြီး ဒီလိုမမိုက်ရိုင်းနဲ့နော် ဟင်း"

"အောင်မာ ကောင်မက လုံ့ပါးဝလို့၊ လင်ငယ်အားကိုးနဲ့လား၊ ဟုတ်လား"

မသန့်သည် ရှိုက်ကြီးတငင်ငို၍ အခန်းထဲဝင်သွားသည်။ အပြင် ဘက်မှာတော့ ကိုဘိုးဟန်က ဆူချင်တိုင်း ဆူနေသည်ကို သူ့အပေါင်း အသင်းက သူ့ကို ချော့မော့ဖျောင်းဖျနေသည်။ မသန့်သည် အဝတ် အစားအနည်းငယ်ယူ၍ အိမ်ပေါ်မှ ဆင်းသွားရန် ပြင်နေသည့်အခိုက် ကိုဘိုးဟန်က

"အောင်မယ်၊ အောင်မယ်၊ ငါ့ကိုမပေါင်းနိုင်ဘူးပေါ့လေ ဟုတ်လား၊ ငါအရက်သောက်လို့ပေါ့လေ၊ ဟဲ ဟဲ မပေါင်းချင်ရင် ဆင်းသွား။ ဟောသည့်လမ်းကကြွ"

"သွားမယ် သွားမယ်၊ ရှင် ပြောဖို့မလိုဘူး"

"ဟား ဟား လိုသေးသပေါ့ အမိရယ်၊ ဒီမယ် ဟဲ့ကောင်မ နင်ဆင်းသွားတော့ ငါဘာဖြစ်ရမလဲ၊ နင်လို မိန်းမကို အရက်တစ်ခွက်လောက် မမက်ဘူးကွ သိလား"

မသန့်အဖို့မှာတော့ ဒီစကားမှာ အသည်းကို လှံစိုက်လိုက်သလိုဖြစ်သွားလေသည်။ ထို့ကြောင့် ထိုနေ့ညနေကပင် မအေ့အိမ်သို့ ဒေါနှင့် မောနှင့် ပြန်ရောက်ရသည်။ အိမ်မှာ လင်နှင့် ကတောက်ကဆတ်ဖြစ်ရ၍ မိခင်ကြီးအိမ် စိတ်ချမ်းသာ လက်ချမ်းသာ လာ၍ ခိုလှုံမည်ကြံပါသည်။ မိခင်ကြီးက ရင်ထုမနာနှင့် ဆီး၍ အပြစ်တင်ပါသေးသည်။

"ညည်း အစက မသိဘူးလားဟင်၊ သူ အရက်သောက်တတ်တာညည်းသိရဲ့သားနဲ့ မနေနိုင်မထိုင်နိုင် ထွန့်ထွန့်လူးလူး ကြိုက်နေတာ၊ ငါက ပေးစားတဲ့လင်လား၊ ညည်းကြိုက်လို့ ညည်းယူခဲ့တာ မဟုတ်လား၊ အခုညည်းဗိုက်ထဲမှာ ကလေးရမှ ကွဲလာတော့ကော ဘာထူးဦးမှာလဲ။ လင်ကိုနိုင်အောင် ဖျောင်းဖျနိုင် ဖျောင်းဖျ၊ ဖျောင်းဖျလို့ မရရင်ညည်းထိုက်နဲ့ညည်းကံပဲ။ မိန်းမဆိုတာ တစ်မျက်နှာက နှစ်မျက်နှာပြောင်းရအောင် လွယ်တာမှတ်လို့"

ဤသို့ကြားရတော့ မသန့်မှာ ဒူးနှင့် မျက်ရည်သုတ်နေရရှာသာရှိသည်။ မိခင်ဆိုပေမယ့် ကိုယ်က အိမ်ထောင်ရက်သားနှင့် နေမိတော့သူစိမ်းလိုလိုဖြစ်ရကြောင်း ခံစားမိသည်။

"နောက်ပြီးတော့တော်၊ ကျုပ်ကိုပါလာပြီး ညည်းလင်က ရန်လုပ်နေပါဦးမယ်။ ပြန်သာပြန်ပါ တော်တော်ကြာ မူးလာမှဖြင့် သူ့မယား လက်ခံထားရလားဆိုပြီး"

မှန်ပေသည်။ လင်ရယ်လို့ ဖြစ်လာမှတော့ သူပြုသမျှနရတော့မည်။ မိခင်ဆိုတာက ဆိုင်ရှိသာဆိုင်သည် မပိုင်တော့ပါတကား။ မယားဟူသည်လည်း လင်က မကျွာသမျှ မိန်းမသာ တစ်ထစ်ချ ဖြစ်ကြရသည်ချည်း မဟုတ်လော။ ဒီကြားထဲတွင် မိမိမှာ ကိုယ်ဝန်နှင့်ဖြစ်နေပေပြီ။ ထို့ကြောင့် အကြောင်းကြောင်းတွေ ထောက်၍ ရှေ့ရေးကို တွေးကြည့်လိုက်သော် ပြေးဖို့လည်း မလွယ်၊ အေးဖို့လည်း မလွယ်၊ ကယ်မယ့်သူ နတ္ထိ။

မိခင်ကြီးအိမ်တွင် တစ်ညတာ အိပ်လိုက်ရသည်။ နောက်တစ်နေ့ မနက်ကျတော့ မိခင်ကြီး ဗေဒင်တွက်ထားသည့်အတိုင်း ကိုဘိုးဟန် ကိုယ်တိုင် ဆိုက်ဆိုက်မြိုက်မြိုက် လိုက်လာချေပြီ။ တော်ပါသေး၏။ မူးမူးရူးရူး ရမ်းရမ်းကားကား မဟုတ်၊ ညက ကျားသတ္တဝါလောက် ကြမ်းတမ်း မာန်ဖီသမျှ မနက်ကျတော့ ယုန်သူငယ်လို နူးနူးညံ့ညံ့နှင့် ချော့လာသည်။

"ငါညက မူးလို့ပါကွာ။ စိတ်မဆိုးပါနဲ့၊ ငါတောင်းပန်ပါတယ်၊ နောက် ဒီလိုမဖြစ်စေရပါဘူး။ ငါဘာတွေပြောမိတယ် ဆိုတာ သိတာ မဟုတ်ပါဘူး။ လာပါ မင်းမရှိရင် ငါဘယ်လိုနေရမလဲ"ဟု ကညာဝတ်တွတောင်းပန်သည်။

သူ တောင်းပန်သမျှ စကားတွေထဲက မင်းမရှိရင် ငါဘယ်လိုနေရမလဲ ဆိုတဲ့ စကားလုံးလေးတွေကား မသန့်၏ အသည်းကြားကို

သကာပျားနှင့် ဖုံးလိုက်ပြန်ပါသည်။ ထို့ကြောင့် နောက်ဆုံးတွင် မိခင်ကြီးကို နှုတ်ခွန်းမှ မဆက်ခဲ့မိ၊ ကိုဘိုးဟန်နောက် ကောက်ကောက်ပါအောင် ပြန်လိုက်ခဲ့ဖြစ်လေသည်။ သို့နှင့် သမီးဦးကလေး မခင်မြ လူ့ပြည်သို့ ရောက်ခဲ့ရသည်။ ကိုဘိုးဟန် မမူးလျှင် အလွန် သဘောကောင်း၍ မယားကို ချစ်သလောက် ကြင်နာသလောက် အလိုလိုက်သလောက် မူးလျှင်တော့ အရက်ကလွှဲ၍ မည်သူ့ကိုမှ မျက်နှာသာမပေး၊ မည်သူ့ကိုမျှ သတိမရ။

သို့သော် တစ်နေ့တခြား မမူးသည့်အချိန်ထက် မူးနေသည့်အချိန်က ပို၍ပို၍ များလာလေသည်။ မခင်မြအောက် ယောကျ်ားကလေး တစ်ယောက်၊ မိန်းကလေး အငယ်ဆုံး သုံးနှစ်ယောက် တစ်ယောက်ရလာသည့်အချိန်အထိ မသန့်အဖို့တော့ စိတ်ချမ်းသာကွက်မရှိ၊ နံနက်အိပ်ရာက ထလျှင်ထချင်း အရက်ကလေး တစ်ခွက်မှ မသောက်ရလျှင် ခေါင်းကိုက်သည် ဇက်လေးသည် မှုန်တီမှုန်ဝေနေသည်။ စိတ်တိုတတ်သည်။ ကိုဘိုးဟန်မှာ အရက်နာကျနေခဲ့ပြီး အရက်ကလေးတစ်ခွက်သောက်လိုက်ရမှ ရွှင်ရွှင်ပျပျ မျက်နှာကလေးကို မြင်ရသည်။ မသန့်သည် အရက်သောက်မှုနှင့်ပတ်သက်၍ ကိုဘိုးဟန်အား လုံးလုံးကြီး လက်လျှော့လိုက်ရရှာသည်။ သို့နှင့် အလုပ်ကို သွားနေစဉ် သားသမီးတာဝန်ကို တစ်နေ့လုံး တကုန်းကုန်းနှင့် ရုန်း၍ ထမ်းဆောင်၊ ညနေဘက်လောက်နေရပြီးနောက်တွင် ပြန်လာလတ္တံ့သော လင်သည်ကို တထိတ်ထိတ်တလန့်လန့်နှင့် စောင့်မျှော်နေရလေ့ရှိသည်။ တထိတ်ထိတ်တလန့်လန့်ရှိမည်ဆိုလျှင် ရှိလောက်စရာပါပေ။ အမြဲတမ်းလိုလို အရက်တမြမြနှင့် ပြန်လာတတ်သည်။

သောက်လေသောက်လေ ငတ်မပြေသည်၊ ကာမေငါးတန် ဆားရေငန်ဆိုသည့် စကားမှာ ကိုဘိုးဟန်နှင့် သေအရက်ကိုဆိုမှ ပို၍ မှန်

ကြောင်း မသန့်တွေးမိသည်။ သောက်စရိုလျှင် အိမ်မှာ အဆင်သင့် ဝယ်ထားသော ပုလင်းထဲက အရည်ကိုပါ မျက်စောင်းထိုးလာတတ်သည်။ ဒီအတောအတွင်း အပေါင်းအသင်းသောက်ဖော်သောက်ဖက်များ အိမ်ရောက်လာပါက ရှိတာ အကုန်ထုတ်၍ ဝေသဿ ရာလုပ်တော့သည်။ ကလေးတွေနှင့် သားမယားအတွက် မုန့်ပဲသရေစာ ဝယ်မကျွေးချင့်လျှင်သာ ရှိမည်။ သောက်ဖက်များကို အရက်ပုလင်းနှင့် ညှိခံရာမှာမူ အတော်ရက်ရောနိုင်သည်။ သူ့ အရက်ပုလင်းငှဲ့တိုင်း ငှဲ့တိုင်း မသန့်အမြင်ကတော့ ငွေတွေ အရက်ကျို၍ လုံထဲက လောင်းသွန်သလိုသာ မြင်မိသည်။

စီးပွားရေးအခြေအနေအရ သူ့လခ၏ တစ်ဝက်ကျော်ကျော်မှာ ဤလိုအရည်ဖျော်၍ သောက်ပစ်တာ၊ သူတစ်ပါးကို တိုက်ပစ်တာနှင့် တစ်အိမ်လုံး မလုံမလောက်ဖြစ်ရသည်။ တစ်နေ့လျှင် ငွေငါးကျပ်၊ တစ်လမှာ ကျပ်တစ်ရာငါးဆယ် လွယ်လွယ်နှင့် ထွက်နိုင်ပါသည်။ ဤသချာကား အနည်းဆုံးအတန်းအစားဖြစ်၍ နိုင်ငံခြားချက်အရက်တစ်ပုလင်းဆိုလျှင် ငွေလေးငါးဆယ် သုံးရက်မှ မလည်ခင် ကုန်တတ်ပြန်ပါသေးသည်။

မုန့်မစားရသော ကလေးငယ်တွေကို ချော့၍ ရနိုင်ပါလျက် ထိုအရက်ကို လျှော့၍ သောက်ရန် ဖျောင်းဖျ၍ မရနိုင်သော လင်သည်အတွက် သားသမီးတွေပါ ဖြစ်သလို ရောင့်ရဲရရှာသည်။

ကိုဘိုးဟန် လက်အောက်တွင် လုပ်လာခဲ့သမျှ စာရေးကလေးတိုင်းလိုလို သူ့အား လွှားခနဲ လွှားခနဲ တက်၍ ရာထူးရာခံ လခဝင်ငွေ တိုးသည်ထက်တိုးလျက်ရှိသော်လည်း ကိုဘိုးဟန်လုပ်သက်မှာတော့ မပြုတ်ရုံတစ်မည် တည်းတည်းကလေး ရှိတော့သည်။ အရက်ရှိန်ကြောင့် အလုပ်များ ကပြောင်းကပြန်ဖြစ်ခဲ့ဖူးပေါင်း များလှပြီ။ အမှားမှား အယွင်းယွင်း

တွေလည်း မနည်း။ နှောင့်နှေးကြန့်ကြာမှု၊ လစ်ဟင်းပျောက်ဆုံးမှု၊ ဒါတွေမှာ အရင်းစစ်အမြစ်မြေက ဆိုသလို အရက်၏ပယောဂမှန်း ကိုဘိုးဟန်ကိုယ်တိုင် သိခဲ့ပါသည်။ သူကား မိုက်တွင်းနက်လှသော လူ့အန္တိမ မဟုတ်၊ အမြော်အမြင် ဆင်ခြင်တုံတရား အသိများသော ခေတ်ပညာတတ်ယောကျ်ားဖြစ်သည်။ အရက်မသောက်ရန် တား၍ မရလှသည့်အဆုံး စိတ်နှလုံးချမ်းသာသည်မရှိ၊ တအိအိနှင့် မချိတရိ ကျိတ်ငိုတတ်သည့် မယားကိုလည်း မြင်ပါသည်။ ဝမ်းမဝတဝ ခါးမလှ တလှ အောက်တန်းကျနေသော ကလေးများကိုလည်း မြင်ပါသည်။ လုပ်သက်ရင့်သလို လခမရင့်သည်ကိုလည်း သတိရပါသည်။ အသက်ကြီးလာသလို ရာထူးမကြီးရသည်လည်း မခံချင်ဖြစ်မိပါသည်။ ထို့ကြောင့် မကြာမကြာ ကိုယ့်ကိုယ်ကို တရားချ၍ ရပ်တန်းကို ရပ်ပြီး ပြတ်တန်းက ပြတ်နိုင်ရန် ကြိုးစားကြည့်ပါသည်။

တစ်ဆယ့်သုံးနှစ်ကျော်ကျော်ရှိလာပြီဖြစ်သော သမီးကလေး မခင်မြမမွေးခင်ကတည်းက ဆိုတော့ တစ်ဆယ့်လေးနှစ်လုံးလုံး လနှင့်တွက်သော် လပေါင်းတစ်ရာ့ခြောက်ဆယ့်ရှစ်လ၊ ထိုကမှတစ်ဆင့် ရက်နှင့်ချင့်က ရက်ပေါင်းငါးထောင့်လေးဆယ်၊ တစ်နေ့ဝယ်သုံးခွက် ထိုအရက်ကို ပေါင်းလိုက်လျှင်ကား ခွက်ပေါင်း သောင်းငါးထောင်၊ ဤရွေ့ဤမျှ ဝင်လာသမျှတို့ကို လက်သင့်ခံလာခဲ့ရပြီဖြစ်သော အစာအိမ်နှင့် အူလေး အူမ အကြောပေါင်း မြောက်မြားစွာတို့က ယခုမှတော့ အလျှော့မပေး။ သောက်မချလျှင် ခေါင်းနောက်ကျိလာအောင် ဒုက္ခပေးတော့သည်။ လေတွေ ပျို့ခနဲ ဝေါခနဲ တက်ဆောင့်သည်။ နှုတ်လေး ကိုယ်လေး မျက်တောင်ပါမေ့း၍ တံတွေးသွားရည်မှ မထိန်းနိုင်အောင် ဣန္ဒြေပျက် လာသည်။ ခြေတွေ၊ လက်တွေ တုန်လာကာ လူမမာ လေငန်းဖောက်သလို

ကယောက်ကယက်ဖြစ်လာပြီးလျှင် နေမထိ ထိုင်မရ ထ၍မှ မလျှောက်နိုင်အောင် အဖြစ်ဆိုးကြီးက နှိပ်စက်တတ်သောကြောင့်

"ဘိုးဟန် မင်းတော့ ဘဝဆုံးပါပကော"ဟု ဝမ်းနည်းပက်လက် အသံမထွက်ဘဲ စဉ်းစားမိသည်။ မယားကိုလည်း သနားသည်။ သမီးသားကိုလည်း ကြင်နာပါသည်။ ဂုဏ်လောက ငွေလောက ပကာသနလောကကြီးကိုလည်း နံမင်ပါသည်။ သို့သော် အရက်က သူ့ကိုနိုင်နေသောကြောင့် ငါးရိုးမျက် လက်တို ဘယ်လိုမှ မတတ်နိုင်။

တစ်ရက်နှစ်ရက် ဖွတ်တင်း၍ နေကြည့်သည်။ ပူရှရှခါးသက်သက်ကလေးကိုမှ ခံတွင်းမျက်နေသော လျှာသည် အရက်မှလွဲ၍ ဘာကိုမှ လက်မခံချင်တော့။ ထို့ကြောင့် အစားအပျက်ကြီးပျက်လာသည်။ ရိဝေအုံမှိုင်းသော ဦးနှောက်နှင့်မှ နှစ်နှစ်ကာကာ အိပ်ပျော်စေသော သွေးကြောတွေက မျက်စိမှိတ်၍ အိပ်ပါသော်မရ၊ အပြောကျယ်စွာသော ပူလောင်သည့်သဲကန္တာရကြီးထဲတွင် ရေငတ်သူပမာ လျှာတွေပါနှုတ်ခမ်းတွေပါ ခြောက်သွေ့အက်ကွဲ၍ လာတော့သည်။ ထို့ကြောင့် အလိုလိုမောလာသည်။ အလိုလိုအားအင်တွေ ဆုတ်ယုတ်လာသည်။ ခန္ဓာကိုယ်ပါ ကတိမ်းကယိုင် ချည့်နဲ့လာသည်။

သုံးရက်က လေးရက်ဆက်၍ ဆက်၍ ဖွတ်တင်းကြည့်သည်။ အရက်ငွေ့တွေကလည်း တက်၍ တက်၍ ကိုဘိုးဟန်ကို ညှဉ်းတော့သည်။ သူခံစားရသော အရက်နှင့် ကင်းကွာမှု ဝေဒနာသည် နောက်ဆုံး၌ကား မယားဖြစ်သူကပင် မကြည့်ရက်တော့ပေ။ ကြာကြာနေလျှင် သေမင်းက ဆွဲယူတော့မလို ထင်လာရသည်။

"မသန့် မသန့် ငါတော့ အရက်ဖြတ်လို့ မဖြစ်တော့ဘူး" ကိုဘိုးဟန်သည် မယားကို ဖက်၍ ဝမ်းနည်းပက်လက်နှင့် ငိုမိသည်။ တကယ်ပင် မရှိတရှိ အူလှိုက်သည်းလှိုက် ဖြစ်သောကြောင့် ယောက်ျား

ကြီးတစ်ယောက် မျက်ရည်ပေါက်ပေါက်ကျသည်ကို တွေ့ရသည့် မယားမှာ ချုံးပွဲချ၍သာ ငိုကြွေးရှာတော့သည်။

"သောက်ပါ ကိုဘိုးဟန်ရယ်၊ သောက်ပါ သောက်ပါ။ ကျွန်မရှင့်ကို မမြင်ရက်ပါဘူး၊ ရှင်သောက်သမျှ ကျွန်မတို့က အသုံးအစားလျှော့ပေးပါ့မယ်။ တစ်ခုတော့ တောင်းပန်ပါရစေ မောင်ရယ်။ တန်ဆေးလွန်ဘေးတဲ့ အဲဒါကလေး သတိထားပါနော်"

မသန့်က တကယ့်စေတနာနှင့်ခွင့်ပြုလိုက်ပြန်တော့ သူ့ကို ဆူပူစိတ်ကောက်၍ တားတာထက် တကယ်ရင်ထုမနာဖြစ်ရပြန်သည်။

"ငါ အောင့်နေကြည့်တယ် မသန့်ရယ်၊ ဒါပေမဲ့ အာရုံကြောတွေက အလျှင်ဖြစ်ပြီး သွေးတောင်းနေကြတာတော့ ငါခံနိုင်ရည် မရှိတော့ဘူး။ မင်းငါ့ကို ဘယ်လောက်ချစ်တယ်ဆိုတာ အခုသိရပါပြီကွယ် သိရပါပြီ။ သိရတော့ သာပြီး အသည်းနာပါသေးတယ်။ ငါ့ကို မင်းပစ်ထွက်သွားချင်တောင် သွားပါကွာ၊ ငါခွင့်ပြုပါတယ်"

"ကျွန်မ ဘယ်သွားရမလဲ ဒီကလေးသုံးယောက်နဲ့ ကျွန်မဘယ်သွားပြီး ဘာလုပ်ကိုင်စားရမလဲ၊ ရှင် သက်ဆိုးရှည်အောင် အခြေအနေသာကြည့်သောက်ပါတော့၊ ကျွန်မ ခွင့်ပေးပါတယ် မောင်ရယ် ခွင့်ပေးပါတယ်"

ကိုဘိုးဟန်၏ မျက်စိထဲမှာ မျက်ရည်တွေ ဝဲဝဲလည်နေသည်။ ထို့နောက် တဖြည်းဖြည်း မျက်နှာထားတင်းလာပြီး အံကြိတ်လိုက်သည်။ ဒါကိုမြင်လျှင် သူ့ကိုယ်သူ ဒေါသထွက်နေမှန်း သိသည်။

"ကဲ မသန့် ငါသွားမယ်"

"ကို ဘယ်သွားမှာတုံး"

"အရက်ဆိုင်ကို အရက်ဆိုင်ကို"

"ဆိုင်မှာတော့ သွားမသောက်စေချင်ဘူး ကိုဘိုးဟန်ရယ်၊ သောက်ခြင်းသောက်ရင် အိမ်ထဲမှာ ဣန္ဒြေရရသောက်ပါ၊ ကျွန်မ တောင်းပန်ပါရစေ"

မသန့်က ချော့ပြောတော့ ကိုဘိုးဟန်မှာ ခေါင်းကြီးငိုက်စိုက်ချ၍ နားထောင်နေရှာသည်။ သို့သော် သူ့ဝမ်းတွင်းကတော့ ဗလောင်ဆူလှလေပြီ။

"ဒါဖြင့် သမီးလေးကို အဝယ်ခိုင်းလိုက်စမ်း၊ ဟောဒီ လမ်းထိပ်က တရုတ်ဆိုင်မှာ"

"တော်ပါ့မလား ကိုဘိုးဟန်"

"နို့ မင်းကိုယ်တိုင် သွားဝယ်မလားကွ၊ ငါ့သမီး ဘယ်သူစော်ကားဝံ့မလဲ။ ငါ့ဒေါသကို တစ်လမ်းလုံး သိတယ်။ ဘယ်သူ့မှ ငါ ဂရုမစိုက်ဘူး"

သို့နှင့် သမီးကလေးကို အဝယ်လွှတ်လိုက်ရသည်။ ကလေးမကလေးကတော့ ရှက်ရမှန်း ကြောက်ရမှန်းသိတတ်သေးသော အရွယ်မဟုတ်သေးသဖြင့် သူ့ကို မုန့်ဖိုးကလေးပေးမည်ဆိုကတည်းက ပေါ့ပေါ့ပါးပါး ဝယ်ပေးလိုက်သည်။

"အဲဒါမှငါ့သမီးကွ၊ အဝယ်တတ်သားပဲ၊ ကဲ ဘိုးဟန် ဒီလောက်သွေးတောင်းလှတာ သောက်စမ်းကွာ သောက်စမ်းကွာ၊ မသောက်ရရင်သေတော့မတတ်ဖြစ်နေတာ အားရပါးရ တစ်ဝကြီး သောက်လိုက်ကွ"

ပြောပြောဆိုဆိုနှင့် ရေငတ်လွန်းသူ ရေအိုးစင် တွေ့တော့သလို သောက်လိုက်သည်မှာ မသန့်က ချင့်ချိန်ရန် သတိပေး၍မရ၊ ကလေးမကလေး မခင်မြပင် အခေါက်ခေါက် အခါခါသွား၍ ဝယ်ပေးရသည်။

ဒေါက်ခနဲ ဒေါက်ခနဲ ဆက်ကာ ဆက်ကာ တီးလိုက်သည့် သံချောင်းသံကား သုံးချက်တိတိ ဖြစ်တော့သည်။ ထိုအသံနှင့်တစ်ဆက်တည်းလိုလို

"အမေ ထမင်းဆာလှပြီ"ဟု သားအလတ်ကလေး အိပ်ရာမှ ယောင်နေသံကြားလိုက်ရသဖြင့် မသန့်သည် သူတွေးနေသမျှ လွင့်ပျောက်ကုန်ကြသည်။ ခုတင်ခြေရင်းက ဖျာကလေးပေါ်တွင် စီရရီ သိပ်ထားသောသားသမီးကလေးများအား သွား၍ စောင်ကလေး ခေါင်းအုံးကလေးပြင်ပေးလိုက်ရသည်။ ထို့နောက်တွင်မူ လင့်အပါးက ဝင်၍ ဘာမှ မတွေးမိအောင် ဖွတ်မိုတ်၍ အိပ်ချလိုက်ရသည်။

နောက်တစ်နေ့ မိုးလင်းကတည်းက ရာသီဥတုသည် အုံ့မှိုင်း၍ နေသည်။ မိုးရိပ်မိုးသားများသည် နေရောင်ကို လုံးဝ ဖုံးကွယ်မင်းမူ နေကြသည်။ လောကဓာတ်ကြီးတစ်ခုလုံး ပျင်းရိထိုင်းမှိုင်းစရာ ကောင်းလှသည်။ မသန့်၏စိတ်ထဲမှာ ကြည်ကြည်လင်လင်မရှိလှ၊ ပတ်ဝန်းကျင်သဘာဝအတိုင်း ထိုင်းမှိုင်း လေးလံနေတော့သည်။

ညက အအိပ်ပျက်ထားသော မျက်စိများက ဖန်စပ်စပ်ဖြစ်နေသည်။ ညက တွေးတောနေမိသော အာရုံကြောများက ခပ်ထွေထွေ ခပ်ဝေဝေ နောက်ကျိနေသည်။

အိတ်ထဲမှာ ပိုက်ဆံမရှိ၊ မီးဖိုခွင်ထဲတွင် ချဉ်ရည်ဟင်းကလွဲ၍ ဆီပြန်တစ်ခွက်မှ မရှိ။ ထို့ထက် စိုးရိမ်မိတာက ကိုဘိုးဟန်အတွက် အရက်ကျန် မရှိ၊ မနက်အိပ်ရာက ထကတည်းက ပုလင်းကျန်ကလေးနှင့် သူ့အရက်နာကျသမျှ စောစောစီးစီး ကုစားသွားခဲ့ပြီ မဟုတ်လော။

ညနေပြန်လာလျှင် ထမင်းမစားခင် အရက်လေးနှစ်ခွက် သုံးခွက် ဝင်မှ ထမင်းပွဲမှာ ဖြောင့်ဖြောင့်တန်းတန်း ဝင်ထိုင်ချင်သည်။ အရက်

ကလေး တမြမြဖြစ်ပြန်တော့ ဆီပြန်ဟင်းကလေး အကြော်ကလေးများ ပါမှ အာဟာရခံတွင်းတွေ့တတ်သည်။

ယနေ့တော့ ခက်ကပြီ၊ ပြန်လာလျှင် ကိုယ်က ချော့၍ တစ်နေ့တလေတော့ မြိုးမြိုးခြဲရအောင် ပြောရတော့မည်။ မသန့်သည် ဤသို့နှင့်သာ စိတ်လေးနေမိ၏။

"မသန့်ရေ အေ မသန့်"ဟု ဗိနပ်ချွတ်လောက်က ကိုဘိုးဟန်၏ အသံကို ကြားလိုက်ရပါပြီ။ သို့နှင့် ဟင်းအိုးကလေး နွှေးနေရာက အထတွင်

"ထိုင်ဗျာ ကိုစိုးမြင့်"ဟုထပ်၍ ကြားရသောကြောင့် ဧည့်သည် ပါလာမှန်းသိရပြန်ပါသည်။ ခက်တာက ဧည့်သည်ပါလာလျှင် ကိုဘိုးဟန်က ပျော်ပျော်ပါးပါး သောက်တတ်သည်။

"ဟောဒါ ကျွန်တော့မိန်းမပဲဗျ၊ ဟဲ ဟဲ ဟော့ မသန့်၊ ဒါ တောင်ငူက သစ်ကုန်သည်ကြီးကိုစိုးမြင့်တဲ့၊ မှတ်ထားနော်"ဟု မိတ်ဆက်ပေးသောကြောင့် မသန့်က ကြည့်ပြီး ပြုံးလိုက်ရသည်။ ဧည့်သည်မှာ မွန်မွန်ရည်ရည် သိက္ခာသမာဓိရှိပုံရသည်။ ဣန္ဒြေတည်တံ့သည်။ ရတနာ သုံးပါးကိုင်းရှိုင်းပုံရသည်။ သူ့ယောကျ်ား ဒီလို လူစားမျိုးနဲ့ တွဲလာတော့ ပေါင်းသင်းဆက်ဆံမှုအတွက် အတော်ကျေနပ်သည်။ အားရှိသည်။ ဂုဏ်ယူမိသည်။

သို့သော် ကိုဘိုးဟန်က နောက်ဖေးမီးဖိုဆောင်သို့ လိုက်လာပြီ။

"ဟေ့ မသန့်၊ ဧည့်သည်ကို ထမင်းကျွေးရမယ်ကွာ၊ ဘာဟင်း ရှိသလဲ"ဟု ကြိုတင် စီစဉ်မှုမပေးဘဲ အရေးပေါ် လတ်တလော ပြောလာသောကြောင့်

"ဟာ ကိုဘိုးဟာန်ကလဲ လုပ်ကရောမယ်၊ အိမ်မှာ ချဉ်ရည်တစ်ခွက်တည်း"

"ဒါဖြင့်လဲ အခေါက်ကင်၊ အသားကင်၊ ဆယ့်နှစ်မျိုးကြော်ကလေး ဘာကလေး ၀ယ်ပေါ့ကွာ၊ နို့ အရက်ကော အရက်"

"ဟောတော် ချေ့သည်ကိုပါ တိုက်မှာလား။ သောက်တတ်လို့လား"

"အေးပေါ့ကွ၊ ငါနဲ့ သောက်ဖက်ပဲ၊ သူကချည်းပဲ တိုက်ပေါင်းများလှပြီ၊ ဒါကြောင့် ဒီတစ်ခါ အိမ်ခေါ်ထမင်းကျွေးတာ"

မသန့်စိတ်ထဲမှာတော့ အထင်နှင့်အမြင် ကွာသွားသဖြင့် ၀မ်းနည်းမိသည်။

"သူတို့ယောကျ်ားများ အကဲခတ်ရတာ မလွယ်ပါကလားနော်" ဟု ညည်းလိုက်ချင်သည်။

"စောစောစီးစီးက သမီးလေးကို အ၀ယ်ခိုင်းမထားဘူးလား။ ဟို ပုလင်းထဲကဟာ မနက်က ငါသောက်ကတည်းကကုန်တာ မင်းလဲ အသိသားနဲ့"

"ပိုက်ဆံမှ မရှိဘဲ ကိုဘိုးဟာန်ရယ်"

"အေး ဟုတ်သားပဲ ဟုတ်သားပဲ၊ ကဲ မြန်မြန်အ၀ယ်ခိုင်းလိုက်စမ်း။ ရော့ ငါ လခထုတ်လာတယ်"

ကိုဘိုးဟာန်က သူ့အိတ်ထဲက ကျန်သမျှပိုက်ဆံကလေးကို အိတ်သွန်ဖာမှောက် ထုတ်ပေးရှာသည်။ အရက်ကြွေး၊ လပေါင်၊ အတိုးစသည်တို့ကို ပေးခဲ့ရပြီးသည့်နောက် သူ့ထံက ရသမျှမှာ လခ၏ တစ်၀က်စာ လောက်သာ ရှိသည်။ ဒီအထဲက အိမ်အတွက် သုံးစားလာခဲ့သော ဆန်ကြွေး၊ ဆီကြွေး၊ ရေတ်ကြက်သွန်ကြွေးတွေကို ဖဲ့ဆပ်လိုက်ဦးမည်

ဖြစ်ရာ တစ်လလုံးလုံး ခြိုးခြိုးခြံခြံနှင့် သုံးသွားဖို့ကတော့ တစ်လနှင့် တစ်လ ပဋိစ္စသမုပ္ပါဒ်လည်သလို လည်ခဲ့ဖူးပေါင်းများလှပြီဖြစ်၍ အကျင့် ရလှပါပြီ။

ထို့ကြောင့် ကိုဘိုးဟန် ပြန်သွားပြီး အိမ်ရှေ့တွင် ညွှသည်နှင့် စကားဖောင်လောက်အောင် ပြောနေစဉ်အခိုက် သမီးကလေးကို ကျိတ်၍ လွယ်အိတ်ကလေး ပေးကာ မှာတန်တာတွေ မှာလိုက်ရသည်။

"တော်ပါသေးရဲ့၊ ပိုက်ဆံကလေးပါလာလို့"

မသန့်သည် သားနားသော ဂုဏ်သရေရှိဧည့်သည်အတွက် အရေး ပေါ်ထမင်းပွဲအတွက် ရှိသလောက်နှင့် လှလှပပကလေးဖြစ်စေရန် လက်မလည်အောင် စီစဉ်နေရသည့် အချိန်မှာ ကုန်မှန်းမသိ ကုန်သွားခဲ့ ရာမှ

"ဟဲ့ သမီး၊ ဘာဖြစ်လို့လဲဟင် ဘာဖြစ်လာသလဲ"ဟု ကိုဘိုးဟန် ၏ ပျာပျာသလဲမေးသံမှာ မသန့်အဖို့ ခေါင်းနပန်းများ ကြီးသွားမိသည်။ ထိုမှတစ်ဆက်တည်း သမီး၏ငိုရှိုက်သံမှာ အိမ်ပေါ် ရောက်လာမှန်း သိသဖြင့် ကမန်းကတန်း ထွက်ကြည့်မိလေ၏။ မသန့်၏ မြင်ရ ချက်မှာ မျက်စိနှစ်ဖက်စလုံးပြာသွားသလား ထင်ရသည်။ ကြီးကောင် မဝင့်တဝင် သမီးကလေး၏အပေါ်ရှိန်သားအင်္ကျီကလေးမှာ စုတ်ပြဲ၍ ရှိလေ၏။ မအေကို မြင်လိုက်သောအခါ သမီးကလေးက ပြေးဖက်၍ အရက်ပုလင်း လွယ်အိတ်ကို ပစ်ချပြီး

"အမေ ကျွန်မကို ဟိုအရက်ဆိုင်ထဲက လူကြီးတစ်ယောက်က အတင်းဖက်နမ်းတယ်၊ ပြီးတော့"

"ဟဲ့ သမီး"

မသန့်၏ ရင်ထဲမှာ မီးဟုန်းခနဲတောက်သွားကာ မျက်နှာတွေပါ ပူလာသောကြောင့် သူ့ပါးစပ်ကလေးကို အတင်းမရအရ လိုက်ပိတ်လိုက်ရသည်။ အမှန်စင်စစ် သမီးကလေးမှာ ကလေးစိတ်နှင့် ကလေးကိုယ်သာသာမျှသာဖြစ်သောကြောင့် ချွေးသည်ရှေ့ ဖအေရှေ့မှာ ရှက်ရကြောက်ရမှန်းမသိ ဖွတ်တီဖွတ်ထိုး ပြောချလိုက်သည်။

ကိုဘိုးဟန်သည် ချွေးသည်၏ မျက်နှာကို တစ်ချက်မျှ လှမ်းကြည့်ပြီးနောက် ဆတ်ခနဲ ထိုင်ရာမှ ထတဲ့၍

"ဘယ်ကောင်လဲကွ၊ ငါ့သမီးကို စော်ကားတာ"ဟု တစ်ခွန်းတည်းပြောပြီး ကမူးရှူးတိုး အိမ်ပေါ်မှ ဆင်းပြေးလေတော့ရာ မမြွပူရာ ကင်းမှောင့်ဆိုသလို သမီးနှင့် လင်ကြား ဗျာများလိုက်ရပြန်သည်။

"လုပ်ပါဦး ဦးစိုးမြင့်၊ မြန်မြန်လုပ်ပါဦး၊ လက်လွန်ကုန်တော့မယ်"

"ဟော့ ကိုဘိုးဟန် ကိုဘိုးဟန်၊ အရမ်းမလုပ်နဲ့"

အပြေးအလွှားနှင့် နှစ်ယောက်သား မသန့်မျက်စိအောက်မှ ပျောက်သွားကြသည်။ မကြာမီ လမ်းထိပ်က ဆူဆူညံညံအသံတွေကို တထိတ်ထိတ်နှင့် ကြားရသည်။ ကြောက်လွန်းနေသော သမီးကလေးကိုလည်း ထားမပစ်ရက်။ လင်ကိုလည်း စိတ်မချ။ ရင်တမမနှင့် ဆဲသံ ဆိုသံ၊ ကြိမ်းမောင်းသံ၊ ရိုက်သံနှက်သံ အော်သံတွေကိုသာ ဘုရား တနေမိသည်။

မနေနိုင်လွန်း၍ နောက်ဆုံး အိမ်ပေါက်ဝက ပြေးထွက်လိုက်သည်။ လူတွေ ဝိုင်းအုံကာ ရတ်ရတ်သဲသဲကြားတွင် ဒေါသူပုန် ထနေသော ကိုဘိုးဟန်အား ကိုစိုးမြင့်က အတင်းဆွဲလာရသည်။

"မြတ်စွာဘုရား ကယ်တော်မူပါ"

မသန့်က လန့်အော်မိအောင် သွေးများသည် သူ့ရှိုစောင်းက တတွေတွေ စီးဆင်း၍ ရှပ်အင်္ကျီတစ်ခြမ်းလုံး ရဲရဲနီနေသည်ကို မြင်လိုက်ရသည်။

"ငါ့ကိုရိုက်ပြီး ထွက်ပြေးတယ်။ တစ်နေ့သိမယ်၊ မင်းကို အရှင် မထားဘူး။ ဘိုးဟန်ကွ တစ်ဟန်တည်းရှိတယ် လရှိုး"

ဤသို့သော အယုတ္တအနတ္တတွေ ဆဲဆိုရေရွတ်နေသည်။ သူ့မှာတော့ ဒဏ်ရာနှင့် ပြန်လာခဲ့ရပြီ။

ကိုစိုးမြင့်နှင့် မသန့်က ချော့မော့ဖျောင်းဖျ၍ မနည်းငြိမ်အောင် လုပ်ကာ ဒဏ်ရာဒဏ်ချက်တွေကို ဆေးကြောသုတ်သင်ပေးရသည်။ ထိုစဉ်အတွင်း ကိုဘိုးဟန်သည် ကြောက်လန့်တုန်လှုပ်၍ ရုပ်ဆင်းသံပျက် ဖြစ်နေသော သမီးကလေးကို စိုက်ကြည့်ရင်း ပြင်းပြင်းထန်ထန် တက်တစ်ချက်ခေါက်လိုက်ကာ မသန့်တို့လက်မှ ရုန်းထွက်သည်။ သို့သော် မသန့်စိုးရိမ်သလို အိမ်အပြင်ဘက်သို့ ထွက်ခြင်းမဟုတ်။ အိမ်ခေါင်းရင်း ဘုရားစင်ဘက်သို့ ဦးတည်ရှေ့ရှုသွားပြီး ငုတ်တုတ်ထိုင်ကာ ရှိရှိသေသေ ဦးချလိုက်သည်။

"ဖြစ်လေရာဘဝတိုင်း အရက်သမားမဖြစ်ပါရစေနဲ့ မြတ်စွာဘုရား" ဟူသော ဆုတောင်းသံမှာ မသန့်က အတိုင်းသား ရင်ထုမနာ ကြားလိုက်ရပါပြီ။ သာဓုခေါ်မိပါပြီ။

သို့သော် ဘုရားစင်မှ ပြန်အလာတွင်ကား

"ဟော့ မဲသန့်၊ ယူခဲ့စမ်း အရက်ပုလင်း" ဟူသတည်း။

မှန်ပါသည်။ ကိုဘိုးဟန်ခမျာမှာတော့ နောက်ဘဝက အစပြု၍ ဖြစ်လေရာ ဘဝတိုင်းသာ ဆုတောင်းပြည့်ချင်ပြည့်ပေမည်။ ဝေရာမဏီ၊ ရှောင်နိုင်လျှင် ရှောင်နိုင်ပေရျှိမည်။ ယခု ကျန်သေးသမျှ သူ့ဘဝ သက်တမ်းတိုကလေးမှာတော့ ဒါကိုရှဲ၍ မှီး၍ စက်ဆုပ်နောင်တ ရ၍ကင်းချင်ပေမယ့် မကင်းနိုင်၊ မငြင်းနိုင်၊ မတင်းနိုင်တော့ပါတကား။

[ရှမဝ]

# စိန်မနိုင် ကျောက်မနိုင်

လှရည်မွန်ကို ကိုခင်မောင်ဦး မျက်မှန်းတန်းမိတာကတော့ သူတို့ ဘဏ်မန်နေဂျင်းဒါရိုက်တာ ဦးအောင်ဖံ၏ ညနေစာပွဲမှာ ဖြစ်ပါသည်။

နာမည်ကလေးက လှရည်မွန်တဲ့။

ယောကျာ်းတိုင်း မဆိုထားဘိ၊ ဣတ္ထိယာမစ္ဆရိယ မကင်းနိုင်ကြသော မိန်းမပိုင်းကပင် သူ့ကိုကြည့်၍ သူ့အလှကို ချီးမွမ်းနှစ်လိုကြရသည်။

"ဟိုမိန်းမနှယ် ချောလိုက်တာတော်"

"ချောတာထက် ယဉ်တာက ပိုပါတယ်ရှင်။ သူ့အလုံးအရပ် ကလေးနဲ့ သူ့အသားအရေ အချိုးအဆစ်နဲ့ အဆင်ပြေလိုက်တာ"

"မယ်ရွေးပွဲ ဝင်လိုက်ရရင်တော့လား"

"ကျွန်မလိုဖြင့် ဟိုးလီးဝုဒ်မှာသွားပြီး မြန်မာဇာတ်လိုက်မင်းသမီး ကလေး လုပ်မှာပဲ"

"ဘယ်သူ့သမီးလဲ၊ သူနဲ့တွဲလာတာ သူ့အမေများလား။ သူ့အမေ ဆိုလဲ မိန်းမချောကြီးပဲ"

"ဟုတ်တယ်၊ သူ့အမေလေ။ သူတို့က တောင်ကြီးက၊ သူတို့အဖေ က ဆရာဝန်ကြီးပေါ့။ မနှစ်က ဆုံးသွားရှာတာ၊ ဒီနှစ်တော့ ရန်ကုန် ပြောင်းလာကြတယ် ထင်ပါရဲ့။ ဦးအောင်ဖံနဲ့ ဆွေမျိုးတော်တယ် ကြားတာပဲ။ ဒါကြောင့်လဲ ဒီညနေစာပွဲကို လာကြတာပေါ့"

ယောကျ်ားပရိသတ်ဘက်ကမူ လှရည်မွန်တို့ ရှိရာကို မကြာခဏ ပြစ်မှားနေကြပုံ ပေါ်ပါသည်။ ကိုခင်မောင်ဦးအနားက လူကြီးလူကောင်း တစ်ယောက်ကတော့ စိတ်ပေါက်လက်ပေါက် တက်ကစ်ချက် ခေါက် လိုက်ပြီး

"တောက် ဒီသူငယ်မ ရတဲ့သူတော့ လူဖြစ်ကျိုး နပ်ပါဘိကွာ"ဟုပင် လေးလေးနက်နက် စူးစူးရှရှ ညည်းလိုက်သောကြောင့် ကိုခင်မောင်ဦးမှာ ပြုံးများတောင် ပြုံးမိပါသည်။"

"သူတို့ပြောင်းလာခါစမို့ အသိမိတ်ဆွေတော့ များဟန်မတူသေး ဘူး"

"ခင်ဗျားက မိတ်ဆွေသွားဖွဲ့ချင်လို့လား"

"အခုတော့ မျက်နှာပြောင်လှတယ်ဗျာ၊ နောက်များမှ သွားမှာပါ"

"သွားလေ သွား သွား၊ သူတို့ကလဲ ဖအေဆုံးပြီးလို့ ပစ္စည်းပစ္စယ ထောက်ထောက်ခံခံလဲ ကျန်ခဲ့တာ မဟုတ်လေတော့ အားကိုးရာမဲ့ဘဝ မှာ ငွေပေါလင်ချော ဖမ်းရအောင် ရန်ကုန်ကို ဆင်းလာတာ ဖြစ်ချင် ဖြစ်မှာ၊ သူ့အမေကြီးကတော့ တော်တော်လျှင်ဆိုပဲဗျ"

ကိုခင်မောင်ဦးကား ကြားရသော ဝေဖန်ချက်တွေကို ဂရုမပြု။ သူတကာလို စိန်တွေ ရွှေတွေ ပြိုးပြိုးပြောင်ပြောင် မပါဘဲလျက် ရိုးရိုး ပြုံးပြုံးကလေးနှင့် ဖိုးလမင်းကြီးလို ထင်ထင်ပေါ်ပေါ် လှနေသည့် နဂိုလှကလေးကိုသာ ဘယ်ပုံနှင့် ရအောင်ယူရပါ့မလဲဟု အကြံထုတ်နေ မိသည်။

ကိုခင်မောင်ဦး ဆိုပြန်လျှင်လည်း ခေသောသူတော့ မဟုတ်လှ။ ယောကျ်ား ပီပီသသနှင့် ခန့်ချောချောသူတစ်ယောက်ဖြစ်ပြီးလျှင် ဘီအေ၊ ဘဏ်စာရင်းကိုင်အရာရှိချုပ် မန်နေဂျင်းဒါရိုက်တာ၏ အားအကိုးဆုံး

အခွင့်အရေး အလေးအမြတ် အစံရဆုံးအပြင် သူပိုင်စုငွေ နှစ်သောင်းလောက်တော့ ရှိပါသေးသည်။

သူ့ထက်ပို၍ ငွေကြေးချမ်းသာသူ၊ တန်ခိုးအာဏာ အရာထူးအရာခံရှိသူ၊ ကြီးကြီးမားမားတာတွေနှင့်ပင် ယှဉ်ရစေတော့ သဘောသကာယ ရိုးသားတည်ကြည်မှု လူ့ရာဇဝင်တွေက ဦးအောင်ဖံကိုယ်တိုင်သူ့ဘက်က မဲတစ်မဲ သေချာသည်။ ဦးအောင်ဖံမှာ ပြောရေးဆိုခွင့်ဩဇာတိက္ကမ ရှိသည်။

ထိုညှေ့ခံပွဲနေ့က ကိုခင်မောင်ဦးသည် လှရည်မွန်နှင့် မျက်မှန်းတန်းမိ ရုံလောက်ဖြစ်အောင် ကြိုးစားခဲ့သည်။ ကြိုးစားသည့်အတိုင်းလည်း မျက်စိချင်း သုံးလေးခါလောက် ဆုံမိသည်။ ဒါလောက်ဆိုလျှင်ပထမ အဆင့်အတွက် သူကျေနပ်လေပြီ။

ဦးအောင်ဖံနှင့် သူ၏မိခင်မှာ မောင်နှမနှစ်ဝမ်းကွဲလောက် တော်စပ်သောကြောင့် မုဆိုးမအဖြစ်နှင့် ချို့ချို့ငဲ့ငဲ့ စိတ်မချမ်းသာသေးသောသားအမိအား ဦးအောင်ဖံ အိမ်မှာပင် ခေါ်၍ထားသည်။ ဤ အကြောင်းတရားပင် ခင်မောင်ဦး၏ ရွှေလမ်းငွေလမ်း ဖြစ်လေသည်။ လှရည်မွန်၏မိခင်ကြီးကား သူ့သမီးကို ခင်မောင်ဦးလောက်နှင့် ရောင့်ရဲ တင်းတိမ်ပုံမရ။ ရွှေသမက် ငွေသမက် သမက်ပေါင်းစုံမှာ ခေါင်းခေါက်၍ ရွေးနေပုံရသည်။ မင်းကတော်၊ ဝန်ကတော်၊ သူဌေးကတော် အမျိုးမျိုးနှင့်ပေါင်းကာသင်းကာ လည်ကာပတ်ကာ အရပ်ကို သူ့သမီး ဗန်းပြ၍စပ်ဟပ်ကောင်းတုန်း ဖြစ်နေသည်။

ခင်မောင်ဦးအဖို့မှာတော့ ပင်မြင့်က သစင်စက်ကလေးကို တံချူမမီတမီနှင့် ကသီကရီ လှမ်းနေပုံမျိုးရှိတော့သည်။ တကယ် မမီအောင်မြင့်လျှင်လည်း အခွင့်ကို လက်လျှော့၍ စိတ်ပျော့အောင် ဖြေနိုင်သေးသည်။ ယခုတော့ မီလုမီခင်နှင့် တစ်ချက်တစ်ချက်အထိလိုက်၊ လေပြည်

ကလေး သဇင်နိုင်ကို နောက်ကိုင်ကစားပြီး ဝင့်ကာပင့်ကာ ဘယ်ညာယိမ်းနွဲ့၍ တိမ်းသွဲ့နေသလို ရှိနေခြင်းကြောင့် အားမလို အားမရ ချစ်ဒေါသဖြစ်စရာ ကောင်းလှသည်။

သို့သော် သူတည်းတစ်ယောက် ကောင်းဖို့ရောက်မှုဟု ဆိုရမလားမသိ။ ဖြုန်းဖြုန်းဒိုင်းဒိုင်းနှင့် သူ့မိခင်ကြီး ကွယ်လွန်သွားခဲ့သည်။ လှရည်မွန်မှာ မိခင်တစ်ခု သမီးတစ်ခုမို့ ဝမ်းနည်းပက်လက် ရင်ကွဲစရာဖြစ်သလောက် ခင်မောင်ဦးအဖို့မှာတော့ လောကကြီးတွင် အထီးကျန်လှရည်မွန်ကို ပိုင်ပိုင်နိုင်နိုင် ချစ်ခင်စောင့်ရှောက်ဖို့ ဦးအောင်ဖကဖန်ဆင်းပေးလိုက်လေသည်။

ခင်မောင်ဦးသည် လှရည်မွန်ကို လက်ထပ်ပြီးကတည်းက မိုးမမြင်လေမမြင် ချစ်ခဲ့သည်။ မီးကုန်ယမ်းကုန် အလိုလိုက်ခဲ့သည်။ သူ့အဖို့မှာ အလွန့်အလွန် တောင့်တကြောင့်ကြ စောင့်ရသော ပန်းသဇင်ကလေးမဟုတ်ပါလော။ တစ်ရက်မှ တစ်ရက်၊ တစ်လမှ တစ်လ၊ တစ်နှစ်မှတစ်နှစ်၊ ငါးနှစ်ကြာအောင် ကာလသာ ညောင်း၍ ပြောင်းခဲ့သည်။ ခင်မောင်ဦး အချစ်ကတော့ ဟောင်းလေသည် မရှိ။ ညားခါစ ပူပူနွေးနွေးတုန်းကလို ချစ်မဝ ရှုမဝ ယုယလို့ မဆုံးနိုင်သေးပေ။

အိမ်မှုကိစ္စတွေကို ကျွမ်းကျွမ်းကျင်ကျင် နိုင်နိုင်နင်းနင်း စီမံပြုလုပ်နေသည့် အခါမျိုးမှ ကပိုကရို ကသီကရီ ချွေးကလေးစိုစိုနှင့် တစ်မျိုးကိုကြည့်လို့ကောင်းသည်။ ရေမိုးချိုးပြီး၍ ဖြိုးဖြိုးလိမ်းလိမ်း ပြုပြုပြင်ပြင်လင်၏ဝေယျာဝစ္စ 'စေပါး'နေပြန်တော့ သနားစရာ ချစ်စရာ ခံမင်စရာကြီး ဖြစ်ပြန်သည်။ နားနားနေနေ စကားပြေကလေးများ ပြောပြန်တော့ကော ပီယဝါစာ တီတီတာတာနှင့် မပလီမရောဘဲ ကလီစာပါတုန်သွားလောက်အောင် လင့်အချစ်ကို ဆွဲဆောင်သည်။ တစ်ခါတစ်ရံသူ မကျေနပ်တာကလေးတွေ့၍ နှုတ်ခမ်းကလေး မစေ့ဘဲ ခပ်စူစူ

စိတ်ဆိုးနေတာသော်မှ ပွေ့ပွေ့ပိုက်ပိုက်ပြုကာ ချော့ချင်စရာ ချစ်ချင်စရာ နှုတ်ခမ်းကလေးကို စုပ်ယူချင်စရာကလေး ဖြစ်သည်။ နောက်ဆုံးဆို ရလျှင် အိပ်ရာပေါ်မှာ ခွေခွေကလေး အိပ်ပျော်နေစဉ်ပင် ကိုခင်မောင်ဦး အမြင်ကတော့ ရုပ်သေး ထဲက ယမနေမင်းသမီးရုပ်ကလေး စောင်ခြုံ ပြီး သိပ်ထားသလို နဂိုပြုံးကလေးက ကြည်ကြည်လင်လင် စင်စင်ကြယ် ကြယ်နှင့် တိတ်တခိုး နမ်းစရာကောင်းသည်ဟု ဆိုလေသည်။

သို့ကလို သူခိုးကျင့် သူခိုးကြံ နမ်းလိုက်မိပြန်လျှင်လည်း ရှည်လျား နက်မှောင်၍ ကော့ထောင်နေသော မျက်တောင်ကလေးတွေက တရုတ်မ ယပ်တောင်ကလေးများ တဖြည်းဖြည်းဝင့်၍ ပွင့်လာသလို ပွင့်ပြီးလျှင် နှုတ်ခမ်းကလေးကပါ အလိုလို ပြုံးလျက်သားဖြင့် ‘ဟင့်’ ရှည်ကလေး ညည်းထွက်လာကာ

“ဟင် မောင်” ဟု နှုတ်ဆက်၍ ပြည့်ဖြိုးသွယ်လျသော လက်မောင်း အိုး နှစ်ဖက်စလုံးက ခင်မောင်ဦး၏ ကိုင်းညွှတ်နေသော လည်တံကို သိုင်းခြုံရစ်ပတ်ပြီး ပါးချင်းအင်ထားလိုက်လေသည်။

“ချစ်တယ်လာ့ မောင်”

“ချစ် ချစ် ချစ် အားကြီးပဲချစ်၊ အလှကရော”

“ဟင့် လှချစ်တာ မောင် သိသားနဲ့” ဤစကားကလေး ကြား လိုက်ရတော့ ခင်မောင်ဦး၏ အသည်းနှလုံးဆိုတာတွေမှာ ပျားဖယောင်းကို မီးအနားကပ်သလို အရည်ပျော်ကျကုန်ရလေသည်။

ကိုခင်မောင်ဦးသည် သူ့မယားနှင့်ပတ်သက်၍ အောင့်အည်းသည်းခံ နေရတာ အချက်နှစ်ချက်သာ ရှိလေသည်။ ၎င်းတို့မှာ အလွန်တရာ ပွဲကြိုက်ခြင်းနှင့် စိန်တု ကျောက်အတုတို့ကို ခုံမင်နှစ်သက်ခြင်းပင် ဖြစ်လေသည်။ အဖိုးတန် အဝတ်အစား ဆန်းဆိုသမျှ ဝယ်ခြင်းကတော့ ခွင့်လွှတ်ထားရသည်။ တကယ်ဆိုတော့လည်း ဘယ်အဆင် ဘယ်အသွေး

ဖြစ်ဖြစ် လှရည်မွန်၏ ကိုယ်ပေါ်ခါးပေါ် ရောက်သွားလျှင် သူ့အသား အရေ ကိုယ်လုံးကိုယ်ထည်ကလေးနှင့် အဆင်ပြေလွန်းလှရာ "ပိုက်ဆံ ကုန်လှသကွာ"ဟု မညည်းရက်လောက်အောင် ငေးကြည့်နေမိသည့် အရသာက သူ့မယားအပေါ်မှာ မုဒိတာတွေ တိုးခဲ့ရသည်။ သို့ကလို အဝတ်အစားသာမဟုတ်။ အိမ်အသုံးအဆောင် ပရိဘောဂကလေးတွေက မှအစ ကောင်းတာလှတာ၊ အဖိုးတန်တာကလေးတွေမှ စုံရေမက်ရေသုံး တတ်သည်။ ခဏခဏ ဝယ်တတ်ပါသေးသည်။ ဒါကလေးတွေက သူနှင့် ဟပ်လိုက်တော့ မင်းသမီးနှင့် ရွှေထီးလို အလွန်ပနံရပြန်သည်။

ဒါတွေကြောင့်လည်း ခင်မောင်ဦး၏ ဘဏ်စုငွေတွေ တက်တက် ပြောင်ရုံမက တစ်လခုနစ်ရာတည်းဟူသော လခပင် တစ်လနှင့်တစ်လ အလျင်မီအောင် မနည်းကြိုးစားလာခဲ့ရသည်။

ချောမောလှပသော လှရည်မွန်ကို ကတော်တွေက ချစ်ကြသည်။ အပေါင်းအသင်းလုပ်ကြသည်။ မကြာမကြာ ညှော်ခံပွဲ၊ ကြိုဆိုပွဲ၊ မိတ်ဆက် ပွဲ လာ၍ ခေါ်ကြသည်။ ဆွဲကြသည်။ မကြာမကြာလည်း ပြဇာတ်အသစ် ဝင်တိုင်း၊ ရုပ်ရှင်ကားအသစ်တင်တိုင်း၊ အထူးတန်းက ခေါ်၍ခေါ်၍ ပြကြသည်။ တစ်ခါတစ်ခါများ ကိုခင်မောင်ဦးပါ သူ့မယားနှင့် ကန့်လန့် ကန့်လန့် ပါသွားရသေးသည်။ သို့ကလိုအခါများ၌ ကိုခင်မောင်ဦးမှာ အတော်ကသိကအောက် နိုင်လှသည်။ သူ့မယားကို ဝိုင်း၍ အရေးပေး အလေးတမူ လုပ်ကြသည့်ကြားမှ သူကိုယ်တိုင်ပင် ယောင်လည်လည် ကြောင်တက်တက် ဖြစ်နေသောကြောင့် မအီမသာ ရှိရသည်။ ထို့ကြောင့် လည်း နောက်များတော့ မလိုက်လိုလှပေ။

သို့ကလို ပွဲတွေ လမ်းတွေ သွားတိုင်း လှရည်မွန်သည် ခေတ်အဆန် ဆုံး နောက်ဆုံးပေါ် အဝတ်အစားတွေကိုသာမက သူပြောသော စိန်တု ကျောက်တု ဘယက်၊ လက်ကောက်ဆိုတာတွေကို အမြတ်တနိုးထုတ်

ဝတ်တတ်သောကြောင့် တစ်ခါတုန်းကတော့ ကိုခင်မောင်ဦးက မရွံ့မရဲနှင့် ကန့်ကွက်ဖူးပါသည်။

"အလှကလဲကွာ စိန်အစစ်မဝတ်နိုင်ရင်လဲ မဝတ်ဘဲ ရှင်းရှင်း သွားတာက ကောင်းလိမ့်ဦးမယ်။ စိန်မပါပေမယ့် ငါ့မိန်းမက ချောလှ၊ လှ လှကျက်သရေရှိပါပြီကွာ။ အပိုတန်ဆာတွေ မလိုပါဘူး။ နောက်ပြီး တော့လဲ မောင်တစ်ခုပြောချင်သေးတယ်။ ဒီလို ဘာမဟုတ်တဲ့ မရေမရာ ကလေးတွေ ခဏခဏ တစ်မျိုးပြီးတစ်မျိုး ဝယ်ဝယ်လာမယ့် အစား တကယ့်အစစ်တစ်ခုတလေ ဝယ်နိုင်အောင် ပိုက်ဆံစုထားတာကမှ ကောင်းဦးမယ်"

အဲသည်လို ပြောလိုက်တော့ အလှသည် လင်သည်နှင့် တစ်ဖက် တစ်လမ်းဖြစ်နေသော်လည်း စိတ်ကောက်ငြူစူခြင်း မပြုဘဲ ချိုပြုံး၍ ပွတ်သီးပွတ်သပ်နှင့် စောဒကတက်လိုက်ပါသည်။

"မောင်ကလဲကွယ်၊ မိန်းမတွေရဲ့သဘောကို မသိသလိုဘဲ မိန်းမ ဆိုရင် မောင့်မယားသာ မဟုတ်ဘူးမောင်ရေ့။ အစစ်မရတောင် အတု အပ အလှကလေးတွေကို ဝတ်ချင်ကြတာ ဓမ္မတာပဲ။ မိန်းမတိုင်းပဲ။ မောင်က ဘာသိလဲ။ မင်္ဂလာဆောင်တို့ ပွဲထိုင်တို့မှာ ဝတ်လာတဲ့ လူတိုင်း အစစ်တွေများ မှတ်နေသလား။ ဟင်း ဝေးသေးတယ်။ ဒါမျိုး ချည်းလိုလိုပဲ။ နောက်ပြီး ကြည့်ပါဦး။ ဒါမျိုးပေမဲ့ အဖိုးငယ်တယ် မှတ်သလား။ ရွှေက အင်္ဂလိပ်ကာရက်ရွှေ၊ စိန်က ခာတုဗေဒစိန်၊ နာမည်ကိုက မှည့် ထားတာ ကြည့်ပါလား။ 'စိန်မနိုင် ကျောက်မနိုင်'တဲ့။ တကယ့်စိန်တောင် မနိုင်ဘူးဆိုပဲ ဟဲ ဟဲ"

ကိုခင်မောင်ဦးသည် လှရည်မွန် ပြောသမျှ ပြုံးဖြီးဖြီးကြီးနှင့်သာ ငေးမောနားထောင်နေရရုံ ရှိသည်။ ဟုတ်လည်း ဟုတ်ပေလိမ့်မည်။ မိန်းမတို့၏သဘောကား တစ်ခါတစ်ရံ အဖိုးတန်တာ မတန်တာမကြည့်၊

ဖန်လက်ကောက်ကလေးကအစ အမြတ်တနိုးဝတ်ချင် ဝတ်ထားတတ်ကြသည်။

တစ်နေ့တလေ ညနေများမှာတော့ ကိုခင်မောင်ဦးအလုပ်ကပြန်လာချိန် တစ်အောင့်တနား စကားစမြည်ပြောနေကြစဉ်ပင် လှရည်မွန်က ကတ္တီပါသေတ္တာအရှည်ကလေးတစ်ခု ရှေ့တွင်ချ၍ အရည်အသွေးကောင်းလှသော ပုလဲကြိုးတစ်ကုံးကို ပြလေသည်။

"ကဲ မောင်၊ ကြည့်စမ်း။ ဘယ်သူက အတုလို့ ပြောမလဲ။ ဒါချက်တဲ့ ပုလဲလေ၊ အလုံးကို ကြည့်မလား၊ အသွေးကို ကြည့်မလား၊ တကယ့်အစစ် နော် နော် မလှဘူးလား"ဟု ရယ်ရွှန်းပတ်ရွှန်းနှင့် ပြောရာက ကိုယ်တိုင်ကိုယ်ကျ ခင်မောင်ဦး၏ လည်ပင်းကို ဆင်ပေးလိုက်ပြီးလျှင် အလွန်တရာ နှစ်လိုတပ်မက်သောမျက်လုံးကလေးနှင့် ခင်မောင်ဦးအား ပန်းမှကိုင်ကာ ဘယ်လှည့်ညာလှည့်နှင့် သူ့ရတနာကို သူအကဲခတ်နေပုံကလေးက ကလေးဆန်သလိုလိုနှင့် ချစ်စရာကောင်းလှသည်။

ကိုခင်မောင်ဦးမှာတော့ သူ့မယားကလေး ပြုမူလှုပ်ရှားနေသမျှ လှတာချည်းပင်။

နောင်တစ်ခါ ခင်မောင်ဦး၏ လည်ပင်းမှ ဖြုတ်၍ တယုတယ သူ့လည်ပင်းတွင် ဆင်ပြလိုက်ပြန်သည်။

"မောင်ရဲ့ ကြည့်ပါဦး၊ အလှနဲ့ မလှဘူးလား ဟင်"

ကိုခင်မောင်ဦး မျက်နှာနားမှာ သူ့လည်တိုင်ကလေးကို တဝဲဝဲတလှုပ်လှုပ်မော့ပြသည့်အခါတွင် ကိုခင်မောင်ဦးမှာ နှုတ်ပါးစပ်မှ ပြန်မဖြေနိုင်တော့။ အားရပါးရ ပွေ့ဖက်၍ နှစ်နှစ်ကာကာကြီး နမ်းပစ်လိုက်ရလေသည်။

သို့ကလောက် ကိုခင်မောင်ဦးက ချစ်ပေမယ့် 'ခုံမင်ခယ ချစ်လွန်းကလည်း သောကနောက်ဆုံး ရှိချေ၏'ဆိုသလို အလွန်အမင်း အားမြလှ

သော တစ်နှစ်က ဆောင်းတွင်း ညသန်းခေါင်လောက် ပွဲတစ်ပွဲကအပြန် လှရည်မွန်မှာ အအေးမိလာခဲ့သည်။ နောက်တစ်နေ့ နှာမွန်၍ နောက်တစ်ရက်မှာ ချောင်းတဟွတ်ဟွတ် ဆိုးလာခဲ့သည်။ ချောင်းဆိုးရာကနေ ကိုယ်ချစ်ချစ်တောက်ပူပြီး ဖျားသည်။ ကိုခင်မောင်ဦး ဆရာဝန်ကို ကပျာကယာ ပင့်လာသည့်အခါ အဆုတ်အအေးမိသောရောဂါဟု သိရသည်။ မယားအချောအလှကလေး သူ့အသက်လောက်ချစ်သူကို သူ့အသက်လောက်ပင် စိုးရိမ်တကြီး ကုသသော်လည်း ဆယ်ရက်အလွန်တွင် ရှင်သေမင်း၏ လက်တွင်းသို့ မချိမဆံ့ထည့်လိုက်ရလေတော့သည်။

ကိုခင်မောင်ဦးသည် ငို၍ မဆုံး၊ ငိုင်၍ မဆုံး။

သူ့အသည်းနှလုံးတွေကို အသက်ရှင်နေလျက်က ဆွဲထုတ်သွားသလောက် ခံနေရသည်။ သူ့စိတ်ထဲ ဝမ်းထဲမှာ သိသိသာသာကြီး 'ဟာ'နေတော့သည်။ စားလို့လည်းမရ၊ အိပ်လို့လည်း မရ၊ ထိုင်နေလည်း မရ၊ ထသွားလည်း မရ၊ တစ်ခု လိုနေတာကို မသက်သာအောင် ခံစားနေရသည်။ အရှုံးတစ်ပိုင်းဖြစ်ကာ ဆောက်တည်ရာရှာ၍ မရ။ သူ့ကိုယ်သူ သတ်သေဖို့ပင် ကြိုးစားမိသည်။

ခင်မောင်ဦး၏ ဆံပင်များသည် ထိုတစ်လတည်းနှင့် ဆွတ်ဆွတ်ဖြူလာခဲ့သည်။ နားထင်နားရင်းတွေကျကာ မျက်တွင်းများ ဟောက်၍ အသားအရေတွေပင် ဖြူဖပ်ဖြူရော် ဖျော့တော့ ညှိုးမှိန်လာသည်။

အလုပ်သွားလျှင်လည်း အလုပ်ခွင်ထဲမှာ ဘာကိုမှ စိတ်မဝင်စားနိုင်။ မျက်ရည်တွေတွေကျပြီး နေရတာက အရသာလိုလို ထင်တော့သည်။

လုပ်ဖော်ကိုင်ဖက်များကပင် ခင်မောင်ဦးကို ကြည့်ကာ သနားကြသည်။ အားပေးကြသည်။ စိတ်ပြေလက်ပျောက်ဖြစ်အောင် စကားစမြည်လာပြောကြသည်။ ခင်မောင်ဦးကတော့ ဘာမှပြန်မပြော။ တခိတ်

ကလေးမှ ရှင်မလာ။ အားပေးသူများကို မျက်ရည် တလည်လည်နှင့် မော်ကြည့်၍

"ကျွန်တော့မှာ အသည်းတွေ မရှိတော့ဘူးဗျ"ဟုသာ ပြောသည်။ အလုပ်မှ အိမ်ကိုရောက်လျှင် သာ၍ဆိုးသည်။ လှရည်မွန်၏ ဆန်းသစ်နုလွင်သော အင်္ကျီလုံချည် အဝတ်အစား ဇာဘော်လီ၊ ပိုးပဝါကလေးက အစ သေတ္တာကြီးငယ် ဗီရိုတွေထဲမှဖွင့်၍ တယုတယ ပါးနှင့် အပ်မိသည်။ မျက်နှာနှင့် ပွတ်မိသည်။ နှာခေါင်းနှင့် နှစ်နှစ်ကာကာကြီး နမ်းရှုပ်မိသည်။ အဆိုးဆုံးကတော့ လှရည်မွန် အလွန်နှစ်သက်တတ်သည့် ရွှေတုံ၊ စိန်တုံ ကျောက်သံပတ္တမြားနှင့် ပုလဲရတနာကလေးများပင် ဖြစ်သည်။ ဒါကလေးတွေ မြင်ရလေ ဒါကလေးတွေကို ဆင်ဆင်ပြီး မိမိမျက်နှာနား တရစ်ဝဲဝဲအလှလာပြသည့် သူ့မယားမျက်နှာချိုကလေးကို ပို၍ မြင်ယောင်မိလေဖြစ်သည်။

သေသောသူ ကြာလျှင်မေ့ဆိုပေမယ့် ကိုခင်မောင်ဦးမှာတော့ ဘယ်လောက်ကြာကြာ မမေ့။ မမေ့သမှ မနေ့ကမှ ကွဲလိုက်ရသလို ရှိသည်။ သို့သော် သူ့အခြေအနေက ပြောင်းမှန်းမသိ ပြောင်းလာခဲ့ရသည်။ ၎င်းကား သူ၏ စားရေး နေရေး စီးပွားရေး ဖြစ်သည်။ ရသမျှကို မယားအား ပုံအပ်ခဲ့သဖြင့် ငွေကလေး ကြေးကလေး အကြွင်းအကျန်ကို ရှာသောအခါ ငွေစက္ကူအစား အင်္ကျီ၊ လုံချည် အလှပြင်မိတ်ကပ်ရေမွှေး၊ ပေါင်ဒါ၊ တိုလီမိုလီ ပစ္စည်းကလေးများ ဝယ်သည့် ဘောက်ချာတွေသာ တစ်ထပ်ကြီးတန်ဖိုးသောင်းချီ၍ တွေ့ရသည်။ လက်ငင်းငွေသားကတော့ တစ်ဆယ်မှ ပြည့်အောင်မရှိ။ ထိုသည့်တိုင်အောင် ဆိုင်ကြွေးများက လာသေးသည်။

ကိုခင်မောင်ဦးဘဝမှာ လွှမ်းရေးထဲက ဝမ်းရေးကပါ ခက်လာတော့သည်။ တစ်နေ့တွင်ကား လွှမ်းရေးရော ဝမ်းရေးပါ ပြဿနာပြေနိုင်

သလောက် ပြေနိုင်သည့် အခွင့်တစ်ခုကို ရုတ်ခြည်း စဉ်းစားလိုက်မိသည်။

လှရည်မွန် မြတ်နိုးလှသည့် စိန်တု ကျောက်တု ရတနာကလေးတွေကို ကိုင်ကြည့်ရင်း လွမ်းနာထရသည့်ရောဂါမှ သက်သာနိုင်အောင် ရောင်းပစ်လိုက်သည်ကမှ လွမ်းစရာလည်း မေ့။ ဝမ်းစာလည်း တွေ့ရပေဦးမည်။ ထို့ကြောင့် တော်တော်အလေးချိန် စီးပုံရသော စိန်မနိုင် ကျောက်မနိုင် ဘယက်ကို လက်နှင့်ဆနေရာက အိတ်ထဲထည့်လိုက်မိသည်။ အင်္ဂလိပ်ကာရက်ရွှေနှင့် သေသေသပ်သပ် လုပ်ထားသော လက်ရာကပင် အစိတ်သုံးဆယ် သို့မဟုတ် လေးငါးဆယ်လောက်တော့ ရနိုင်ကောင်းစရာ ရှိသည်ဟု သူထင်သည်။

ပန်းဆိုးတန်း အလှအပနှင့် ရတနာကလေးတွေ ရောင်းသော ဘာဘူဆိုင်တစ်ဆိုင်ရှေ့မှာ ရစ်ဝဲရစ်ဝဲ လုပ်နေမိသေးသည်။ တကယ်တော့လည်း စိန်မစစ် ရွှေမစစ်၊ အဖိုးတန် ပစ္စည်းမျိုး မဟုတ်သဖြင့် ရောင်းချင်ပါတယ်ဟု ဝင်ပြောရမှာပင် ခပ်ရှက်ရှက် ခပ်ရွံ့ရွံ့ ဖြစ်နေပါသေးသည်။ သို့သော် ကိုယ့်ဝမ်းနာ ကိုယ်သာသိသည်။ မရောင်း၍မဖြစ် လက်ထဲမှာ ငွေကလေး လေးငါးဆယ်လောက်မှ မရှိလျှင် အခက်။

ထို့ကြောင့် ဆိုင်ထဲ ဖွတ်ဝင်၍ ဘာဘူတစ်ယောက်အား ထုတ်ပြလိုက်ပြီး

"ဘာဘူ ဒါကလေး ရောင်းချင်တယ် ဝယ်မလား"ဟု စကားစလိုက်သည့်နောက်ပိုင်းတွင် ဘာဘူက ကောက်ငင်ကာ သေချာစွာ ကြည့်သည်။ ပစ္စည်းကို ကြည့်ပြီးတော့ ကိုခင်မောင်ဦး၏ ရုပ်ရည်ကို အကဲခတ်လိုက်သည်။ ထိုနှင့် မပြီးသေး၊ ကိုခင်မောင်ဦးအား ဘာစကားမှ မပြောခင် ဘယက်ကို ယူသွား၍ အခြား ဘာဘူကုလားတစ်ယောက်ကို ဆိုင်တွင်းက ခေါ်ယူထုတ်ပြပြီးလျှင် မာရဝါရီလို အချီအချပြောကာ ပစ္စည်းကြည့်

လိုက် လှူကြည့်လိုက် အကဲခတ်ပြီးသည့်နောက်မှာ ပထမ ဘာဘူက ခပ်ယိုယို့ကပ်လာကာ စေ့စေ့စပ်စပ် လှူကို ကြည့်နေသောကြောင့်

"ဘယ်လောက်တန်မလဲ ဘာဘူ။ သိပ်ပြီးတော့ တန်ဖိုး နည်းလှမယ် မဟုတ်ပါဘူး"ဟု ကိုခင်မောင်ဦးက လိပ်ပြာမလုံသလို ပြောသဖြင့်

"ဒါကို တန်ဖိုးဖြတ်ရင်တော့ သောင်းနှစ်ထောင်က သောင်းငါး ထောင်လောက်တော့ရှိမှာပဲ။ ဝယ်ဖို့ကတော့ ဒါကို ဆပ် ဘယ်ကရ လာသလဲဆိုတာ ခိုင်ခိုင်မာမာ ပြောပြမှဖြစ်မယ်"

"ဘာ တန်ဖိုးငွေ သောင်းနှစ်ထောင် ဟုတ်လား၊ ဘာဘူ"

ကိုခင်မောင်ဦးမှာ ပါးစပ်အဟောင်းသားနေရာက ဤသို့ ထပ်မေးမိ သည်။ မေးနေစဉ်လည်း သူ့ဦးနှောက်ထဲမှာ ချာချာလည်သွားတော့ မတတ်။ ရှုပ်ထွေးကုန်တော့သည်။

"အေး သောင်းငါးထောင်ထားပါ ဆပ်"

"ဘာဘူ တကယ်ပြောတာလား"

"ကဲ ကဲ သောင်းခြောက်ထောင် ထားပါလေ။ ဒီထက်တော့ မပိုနိုင်ဘူး။ တခြားလဲ ပြကြည့်ချင်ပြကြည့်ပါ"

ကိုခင်မောင်ဦးမှာ ဘာကိုမှလည်း ပြန်မပြောနိုင်။ ဘယ်လိုမှလည်း မတွေးနိုင်ဘဲနှင့် ဆိုင်ထဲမှ ပစ္စည်းကို အိတ်ထဲ ပြန်ထည့် ထွက်ခဲ့မိသည်။ သူပဲ ရူးနေပလား၊ ကုလားတွေပဲ ရူးနေသေးသလား။ ဒါပဲ တွေးကြည့် နေမိသည်။

လှူရည်မှန်ပြောတော့ စိန်တု၊ ကျောက်တု၊ စိန်မနိုင် ကျောက်မနိုင် ယခု ကုလားတွေပေးတော့ စိန်အစစ်ဈေး ဖြစ်နေပါပကော။

ကိုခင်မောင်ဦးသည် ခေါင်းထွေအောင် စဉ်းစားရင်း လျှောက်လာရာ က မဂိုလမ်းရောက်လာသဖြင့် ပထမတွေ့ရာ စိန်ဘာဘူ ဆိုင်တစ်ဆိုင် ဝင်ပြလိုက်ပြန်သည်။ ဆိုင်ရှင်နှင့်တူသော မာရဝါရီဘာဘူ လှူရည်လည်

လည့် တစ်ယောက်က ကောက်ကြည့်ပြီးသည်နှင့်တစ်ပြိုင်နက် မျက်နှာတစ်ခုလုံး ရွှင်ရွှင်ပြုံးကြီး ဖြစ်လာကာ

"ဟား ဒါ ကျွန်တော့ဆီက ဝယ်သွားတဲ့ ဘယက်ပဲ"ဟု ဝမ်းသာအားရ ပြောပြလေသည်။

"ဒါဖြင့် ဘယ်လောက်နဲ့ပါလိမ့် ဘာဘူ"

"အစ်ကို ကျွန်တော် ကောင်းကောင်း မှတ်မိတာပေါ့။ နှစ်သောင်းနဲ့လေ။ နေပါဦး ဆပ်၊ နာမည်က ဘယ်သူလဲ၊ အက်ဒရက်(စ်) ကျွန်တော် သိပါရစေလား"

"ခင်မောင်ဦး၊ ပြည်သူ့ဘဏ် စာရင်းကိုင်အရာရှိ"

"အိုး ဟိုး ဟိုး ဒါ ခင်ဗျားမိန်းမ လာဝယ်တာပေါ့ မစ္စက်ခင်မောင်ဦး၊ အိုး ဟိုး ဟိုး ကျွန်တော် အားကြီး ခင်တာပေါ့။ ကျွန်တော်တောင် ပြောလိုက်ပါသေးတယ်။ ဘယ်အခါ ပြန်ရောင်းရောင်း ကျွန်တော် သောင်းရှစ်ထောင်နဲ့ ယူပါ့မယ်လို့။ အခု ဆပ်ရောင်းချင်သလား"

ကိုခင်မောင်ဦးမှာတော့ ဘာမှ ပြန်မပြောနိုင်၊ ဘယက်ကိုကိုင်၍ ဆိုင်ထဲမှ ထွက်လာခဲ့သည်။ လှရည်မွန် လှရည်မွန် ဒီငွေတွေလောက်နဲ့ ဒါကို ဝယ်ရအောင် ဘယ်ကရတဲ့ ငွေတွေလဲ၊ ဘယ်သူက ပေးတဲ့ ငွေတွေလဲ၊ သူနဲ့ ညားတဲ့နောက်ပိုင်းမှာ ငါ့ဘက်က ငွေတွေ ကုန်ခဲ့တယ်။ ငါသူ့ကို သောင်းမပြောနဲ့၊ ထောင်ချီပြီးတော့တောင် မအပ်နိုင်။ ဒါ နှစ်သောင်းနဲ့ ဝယ်တယ်။ အိမ်မှာကျန်သေးတဲ့ လက်ကောက်၊ နားကပ်၊ ပုလဲကြိုး၊ လက်စွပ်ဆိုတာတွေကော တကယ့် ဟာတွေများ ဖြစ်နေပြီလား ဖြစ်နေရင် သူ ဘယ်နည်း ဘယ်သူ့ဆီက။

ခင်မောင်ဦးသည် လမ်းလျှောက်ရင်း စဉ်းစားလာရာက သူ့ခြေထောက်က မဟာပထဝီမြေကြီးတွေ နိမ့်နိမ့်သွားသလို စောင်း၍ စောင်း၍ သွားသလို လှိုင်းကြီးသလို ထ ထ ထလာသလို ထင်ရသည်။

လူတွေ သစ်ပင်တွေ အဆောက်အအုံတွေ ချာချာလည်နေကြသည်။ ၎င်းတွေကြားက မင်းကတော်မျိုးစုံနှင့် အလွမ်းသင့်လွန်းသော လှရည်မွန်၏ မျက်နှာတွေက သူဌေးဆိုသူတွေ၊ ဣတ္ထိယသိုက်သမားတွေနှင့် မိတ်ရင်းဆွေရင်းမကအောင် ပေါင်းမှာ သင်းမှာ ဆက်ဆံမှာတွေ မြင်ယောင်လာတော့သည်။ လှရည်မွန်က ရင်ခွင်ထဲဝင်ပြီး တစ်ခါနော့လိုက်လျှင် တစ်သောင်းနှစ်သောင်း အပျော့ ရက်ရောနိုင်မည်မှာ ယောကျ်ားချင်းကိုယ်ချင်းစာကြည့်တော့ ယုတ္တိတွေ ပေါ်ပေါ်လာနိုင်ပါသည်။ ကာမပိုင်လင်သား သူ့ယောကျ်ားဖြစ်ရသော မိမိပင်လျှင် သူသာ လိုချင်ပါသည် ဆိုသမိ၊ ခေါင်းက ဆံပင်၊ ရင်က အသည်း ခွဲလို့ပဲ ပေးလိုက်ချင်သေးသည် မဟုတ်ပါလား။ ဒါတောင်မှ သူ့ကာမကို ပိုင်စိုးသူ ဖြစ်သည်။ တစ်ခါဆက်ဆံပုထုဇန် ယောကျ်ားဝါလားတွေ ဆိုရင်ဖြင့် နင့်လောက်အောင်ပေးပြီး သူ့အလှကိုယ်ကလေးကို အို။

လမ်းသွားတစ်ယောက်သည် ခင်မောင်ဦးကို ဝင်တိုးမိသည်။ တကယ်ဆိုတော့ ခင်မောင်ဦးကပင် ဝင်တိုးခြင်း ဖြစ်ပေမယ့် ထိုလူက ယဉ်ကျေးစွာ သူ့ကိုပင် တောင်းပန်သွားရှာသည်။ ဒါကိုလည်း ဂရုမပြု။

လမ်းကို ဖြတ်အကူးတွင် မော်တော်ကားတစ်စီးက ဝီခနဲ ပွတ်သပ်၍ ရှောင်လိုက်ရသည်။ နောက် ကိုက်နှစ်ဆယ်မကွာမီ နောက်ကားတစ်စီးကတော့ ကျွီခနဲနေအောင် အချိန်မီ ဘရိတ်အုပ်လိုက်ရပြီး မထုံတက်သေးဆက်လျှောက်သွားသော ခင်မောင်ဦးအား ဒရိုင်ဘာက ပက်ပက်စက်စက် ဆဲလိုက်ပါသေးသည်။ သို့သော် သူ့နားက မကြား။

သူ့ခေါင်းထဲတွင် လက်ဝတ်လက်စားတွေနှင့် သူ့မယား။ သူ့မယားနှင့် လက်ဝတ်လက်စား ဒီနှစ်ခုတည်းနှင့်တော့ ရူးတော့မတတ် ဖြစ်လာခဲ့သည်။

အသက်နှင့်စန္ဒာ အိုးစာမကွဲသေးဘဲ အိမ်ပြန်ရောက်သောအခါ တံခါးတွေ အလုံပိတ်၍ အိပ်ရာထဲဝင်ကာ ရှုံးပွဲချပြီး အားရပါးရ ကြုံကြုံပါအောင် တဟီးဟီးနှင့် ငိုမိသည်။ ငိုရတာ အရသာ ရှိလှသည်။ ဝမ်းထဲ ရင်ထဲက ငို၍ ကောင်းအောင် လှိုက်၍လှိုက်၍ တက်လာသည်။ ငို၍ အားရသလောက်ရှိတော့ လှရည်မွန်၏ ဗီရိုကို ဖွင့်ကာ အခြားအခြား သော လက်ဝတ်ရတနာတွေ ပြိုးပြိုးပြောင်ပြောင်မှန်သမျှ အစေ့အငှ ကိုင်ကြည့်မိပြန်သည်။ ခါတိုင်း ခါတိုင်း လွမ်း၍ တသ၍ ကိုင်ခြင်းမျိုး ဖြစ်သော်လည်း ဒီတစ်ခါ ကိုင်ကြည့်ရတာကတော့ တစ်မျိုးကြီးဖြစ် နေသည်။

သူ့ကို လှရည်မွန်က ချစ်သည်ထက်ချစ်အောင် ချစ်ပြီးရင်းချစ်ချင် အောင် ဘယ်လို မြူတတ်သည်၊ ဘယ်လို ကြူတတ်သည်၊ ဘယ်လို ကလူတတ်သည်၊ ဘယ်လို မူတတ်သည်တို့များ လေးငါးခြောက်နှစ်လုံး ပေါင်းလာခြင်းကြောင့် အကြွင်းမဲ့ အရှက်ကုန် အလုံးစုံသိပြီး ခံစား စံစားပြီးဖြစ်လေရာ ဤရတနာတွေအတွက် အခြားသော ကာမတဏှာ အရသာခဲ ယောကျ်ားငနဲတွေနှင့် ချစ်နေကြမှာကို ရုပ်မြင်သံကြား စဉ်းစား၍ ကြည့်မိတော့ သူ့အသည်းနှလုံးကို သင်တုန်းဓားနှင့် တစ်ချက် ချင်း တစ်ချက်ချင်း မွှန်းတော့သလို လွမ်းတာတွေ ပျောက်၍ အခံရ ခက်တာတွေ ဒေါသပုန်ထစရာတွေ ရှက်စိတ်နာဘဝသို့ ရောက်ခဲ့ရတော့ သည်။

"ကောင်းပါပေ့ အလှရာ ကောင်းပါပေ့

"ဒါတွေဟာ မင်းရဲ့ စိန်မနိုင် ကျောက်မနိုင်တွေပေါ့ ဟုတ်လား။

"မင်းသစ္စာတွေဟာ စိန်က အပြတ်အသတ်နိုင်လို့ ငါ့ကွယ်ရာမှာ မင့်တစ်ကိုယ်လုံး ထုံးလိုချေ ရေလိုနှောက်တာ ပြုံးပြုံးကြီး ခံနေတော့မှာ ပေါ့လေ။ ငါ့ရင်ထဲက ချစ်လွန်းလှလို့ဆိုပြီး လွန့်ခနဲလွန့်ခနဲ နေသလို

စိန်အစစ်ဝယ်ပေးနိုင်မယ့် လူကုံထံတွေရဲ့ရင်ခွင်ထဲမလဲ လွန့်ခနဲ လွန့်ခနဲ နေပြလိုက်မှာပေါ့"

ခင်မောင်ဦးသည် တက်တစ်ချက်ခေါက်ကာ အလောင်းကို သွားဖော်၍ ဓားနှင့် နုပ်နုပ်ပါအောင် စဉ်းပစ်လိုက်ချင်တော့သည်။

သို့ကလို လှမ်းစရာ ပေါ်သမျှ နာစရာတွေနှင့် ဆို့လိုက်တော့ စို့နေသောမျက်ရည်တွေ ခြောက်ပြီး နောက်နေသည့်ဦးခေါင်းပါ ကြည်လင်လာသည်။

နောက်တစ်နေ့ နံနက်လင်းသော် ခါတိုင်း အိပ်ရာထနှင့် မတူအောင် ပေါ့ပေါ့ပါးပါး ရှိသည်။ နေမင်းကလည်း သာသာယာယာ ရှိပါဘိသည်။ ပတ်ဝန်းကျင်ပင် ကြည်နူးစရာ ပျော်မြူးစရာဟု ထင်ရသည်။ ခါတိုင်း ခါတိုင်း တစ်ညလုံး လွမ်းနာထပြီး ညတစ်ညလုံး စိတ်မချမ်းမြေ့စွာ မိုးလင်းခါနီးမှ တစ်ရေးမှိတ်၍ ထလာရခြင်း နိုးလာရခြင်းမဟုတ်တော့ ယခုကား သူ့အသည်းက ရောဂါကို သူကိုယ်တိုင် ဒေါမနဿနှင့် ကုစားလိုက်လေပြီ။

"ငါ ဘာလုပ် ဝမ်းနည်းနေရမလဲ၊ ဘာဖြစ်လို့ စိတ်မချမ်းမသာဖြစ်နေရမလဲ၊ ငွေရှိရင် ကိုယ်စိတ်ကိုယ်ဖြေဖျော်နေမယ်"

ကိုခင်မောင်ဦးသည် မနေ့က သွား၍ပြသော ဘယက်သာမက လှရည်မွန်ပိုင်သမျှ ပြိုးပြိုးပြက်ပြက်တွေ အိတ်အပြည့်ထည့်၍ မဂိုလမ်းသို့ ထွက်ခဲ့သည်။ ကောင်းကောင်း မှတ်မိနေသော စိန်ဘာဘူသည် ကိုခင်မောင်ဦးအား လောကွတ်ပျူငှာ မျက်နှာချို နှုတ်ဆက်ပြီး နေရာထိုင်ခင်း ပေးလေသည်။

ထို့နောက် သူတို့ စုံစမ်းထားလေသလား မသိ။

"ဆပ် မစ္စက်ခင်မောင်ဦးဆုံးတာ မနေ့က ညနေကမှ သိတယ် ဆပ်။ ကျွန်တော်တို့ အားကြီး စိတ်မကောင်း ဖြစ်ပါတယ် ဆပ်။

ကျွန်တော်တို့ ဆိုင်ကသာ မဟုတ်ဘူး။ ဟိုဘက်တိုက်နဲ့ ဟိုဘက်တိုက်က လဲ မနေ့ကမှ အားလုံးသိကြတယ်။ အားလုံး ဝမ်းနည်းတယ်။ မစ္စက် ခင်မောင်ဦး ဟိုဘက်ဆိုင်တွေမှာလဲ အားကြီး စိန်ဝယ်တယ်"

"ကဲ ဒါတွေ ပြောမနေနဲ့တော့ ဘာဘူ။ မနေ့က ဘယက်တင်မက ဘူး။ ဒါတွေပါ ရောင်းချင်တယ်"

ကိုခင်မောင်ဦးက ပစ္စည်းတွေ အားလုံးထုတ်ပြသည်။ စိန်ဘာဘူ သည် မျက်လုံးမျက်ဆန်ပြူးကာ အခြားတိုက်က ဘာဘူတွေပါ အရေး တကြီး ခေါ်၍ ပြသဖြင့် ဝိုင်းဝိုင်းလည်ရောက်လာကြသည်။

"ကျွန်တော်တို့အားလုံး ဈေးမှန်မှန်နဲ့ ပြန်ဝယ်ပါ့မယ်ဆပ်၊ အနည်း ဆုံး တစ်သိန်းငါးသောင်းဖိုးလောက် ရှိပါလိမ့်မယ်။ အို ကျွတ် ကျွတ် ကျွတ်ကျွတ်"

ဘာဘူကလေးက ကြင်နာစွာ စုတ်သပ်လိုက်ပြီးမှ ဆက်၍

"ကျွန်တော်တို့ သိပါတယ်။ ဘရားဆပ် အရားဆပ် ဒါတွေကို ကြည့်ကြည့်ပြီး အားကြီးစိတ်မကောင်းဘူးဖြစ်မယ် ဆပ်။ ဒါကြောင့် အားလုံး ရောင်းပစ်တာ။ ကျွန်တော်တို့ နားလည်ပါတယ်။ မမကို အားကြီး သနားပါတယ်။ ဘရားဆပ်ကိုလဲ အများကြီး သနားပါတယ်"

ခင်မောင်ဦးမှာတော့ ဘာစကားမှ ပြန်မပြော။ တွေးရင်း တွေ၍သာ နေတော့သည်။ သူ့စိတ်မှာ သူ့ကိုယ်တွင် မရှိ စိန်မနိုင် ကျောက်မနိုင်တွေ မှာသာ ရှိသည်။

မော်ပတ်ဆင့်၏ The False Gems ကို မှီးသည်။

[ရှုမဝ ၁၉၅၆ စက်တင်ဘာ]

# သဗ္ဗေသတ္တာ

မိုးတဖျောက်ဖျောက်ရွာနေသော သက်ကြီးခေါင်းချ အချိန်ဝယ် သပြေကုန်း တစ်ရွာလုံး လမ်းသွားလမ်းလာ ကင်းမဲ့လျက် ရှိသည်။ အမြဲတစေ ပြေးလွှားဟောင်အူတတ်သော ရွာခွေးများပင်လျှင် ထိုနေ့ညက တဖွဲဖွဲ ရွာနေသောမိုးကြောင့် စွတ်စိုထိုင်းမှိုင်းပျင်းတိပျင်းတွဲဖြစ်ကာ ကွေးနေကြ ဟန် တူသည်။

မနက်ကြီးကတည်းက တစိမ့်စိမ့်ဆွဲ၍ တဖွဲဖွဲ ရွာနေသော မိုးဖြစ် သည်။ ထိုမိုးသံ ကြားကတည်းက ဒေါ်ရွှေသွယ်အိမ်မှ ထွက်ပေါ်နေကျ အသံတစ်ခု ထုံးစံအတိုင်း ပေါ်လာခဲ့သည်။

"သဗ္ဗေသတ္တာ အဝေရာဟောန္တု။

အဗျာပဇ္ဈာဟောန္တု။

အနီဃာဟောန္တု။

သုခီအတ္တာနံ ပရိဟရန္တု။

ဒုက္ခာမုစ္စန္တု။

ယထာလဒ္ဓသမ္ပတ္တိတော၊ မာဝိဂစ္ဆန္တု ကမ္မသကာ"

"နောင် ဝေ ဝေ ဝေ ဝေ "

မေတ္တာပို့သံအပြီးတွင် ကြေးစည်သံကလေး ချိုချိုက အဆုံးသတ် လိုက်လေသည်။ ထိုကြေးစည်ကလေးမှာ မကြီးလွန်း မငယ်လွန်း ယောက်ျားကြီးတစ်ယောက်၏ လက်ဖဝါးခန့်သာ ရှိပေမည်။

မိုးရွာချင်လျှင် ရွာ၍ ခြောက်သွေ့ချင်လျှင်ခြောက်သွေ့ကာ လရောင် ကင်းမဲ့သည့် ညတွင် ကင်းမဲ့လျက် လဆန်း၊ လဆုတ် လသာချင်သည့် အခါ သာနေတတ်သဖြင့် သပြေကုန်း ရွာကလေး၏ ညတို့မှာ တစ်ည နှင့် တစ်ည သဘာဝချင်း ထပ်တူထပ်မျှ မဖြစ်စေကာမူ ထိုမေတ္တာပို့ သံနှင့် ထိုကြေးစည်သံကလေးမှာ ထိုအချိန်တိုင်း ထွက်ပေါ်လာတတ်သော ကြောင့် ရွာကလေး၏ ထာဝရသဒ္ဒါရုံတစ်ခုဟု ဆိုရမလို ဖြစ်တော့သည်။

မေတ္တာရှင် ဒေါ်ရွှေသွယ်သည် သမ္ဗုဒ္ဓေသတ္တာနှင့် ချီ၍ မေတ္တာပို့ တိုင်းပို့တိုင်း သူ့သား မောင်ချက်ကြီးကို အထူးဝိသေသထားမိသည်။ နှုတ်ပါးစပ်က သီးသန့်၍ ထွက်မလာစေကာမူ သမ္ဗုဒ္ဓေသတ္တာထဲမှာ သူ့ သား မောင်ချက်ကြီး အရေးကြီးဆုံး ဖြစ်သည်။ နောက်ဆုံး သမ္ဗုဒ္ဓေသတ္တာ ကမ္မသကာဟု ဆိုလိုက်ရသည့်အထဲမှာ သူ့သားကို သူ ကမ္မသကာ မလုပ်နိုင်သေး၍ ဤနေရာရောက်တိုင်း ချက်ကြီးအတွက် ခြွင်းချက် ထားရပြန်သည်။

ဟိုသစ္စ မှန်၏။ သူ့သား ချက်ကြီးကို ကမ္မသကာဟု သဘော မထားနိုင်။ ဤသို့ သဘောမထားဘဲနှင့်ပင် ချက်ကြီးမှာ ဆိုးလွန်း မိုက်လွန်း၊ ရမ်းကားလွန်းလှသည်။ ကမ္မသကာထဲများထည့်၍ ဥပေက္ခာ ပြုလိုက်ရလျှင်ကား သေသော်သေ၊ မသေသော် မရှုမလှ ဆိုသလိုဖြစ် သွားမှာ စိုးရသည်။

သားတော်မောင်ချက်ကြီးကလည်း သူ့အမေ မေတ္တာပို့၍ကောင်း အောင် တစ်ဖက်တစ်လမ်းက ပါရမီဖြည့်လျက် ရှိပါသည်။ သူ့အမေ ဘုရားရှိခိုး၍ မေတ္တာပို့ချိန်တိုင်း အိမ်မှာ ဘယ်တော့မှမရှိ။ ကိုလူအေးတို့ ကစားဝိုင်းမှာ ဖြစ်စေ၊ အဖုတ်ရှုတ်၏ ဘုံဆိုင်မှာဖြစ်စေ၊ မကာလမတို့၏ ထန်းရည်တဲမှာ ဖြစ်စေ ရှိနေတတ်သည်။ ဒါတောင်မှ စည်းကမ်းသေဝပ်စွာ ရှိခြင်းမဟုတ်။ သူရာဝေရီ ရန်စီစီဆိုသလို ခိုက်ရန်ဒေါသဖြစ်ကာ သူက

ရိုက်လျှင်လည်းရိုက်ခဲ့၍ သူများ၏အရိုက်ကို ခံခဲ့ရလျှင်လည်း ခံခဲ့ရမှ အိမ်ပြန်၍ ရောက်စမြဲဖြစ်ရာ ဒေါ်ရွှေသွယ်အဖို့ ဘယ်မှာ ကြောင့်ကြမဲ့ရှိနိုင်ပါအံ့နည်း။

တစ်နည်းအားဖြင့်ဆိုရသော် ရွာထိပ်ကစီခနဲဆိုလျှင်လည်း ချက်ကြီး၊ ရွာဖျားက ညံခနဲဆိုလျှင် ချက်ကြီးသာဖြစ်တတ်သောကြောင့် သားကို တတတနေရသည့်အတွက် ခဏခဏ သတိရကာ မမေ့နိုင်အောင် ရှိရသည်။ သားဆိုး၊ သားမိုက်တို့ကို မိဘက ပို၍ ချစ်ရ ကြင်နာရသည်မှာ ဤလို စိတ်မျိုးကြောင့်ဖြစ်သည်။ အစစအရာရာစိတ်ချရအောင် လိမ္မာသော သားတွေ၊ သမီးတွေအတွက် မိဘက မကြောင့်ကြရ၊ ဆိုးတေမိုက်မဲသော သားသမီးဆိုလျှင် မိဘများမှာ ရင်တမမနှင့် အမြဲတောင့်တနေကြရသည်မှာ ဓမ္မတာ။

ကိုယ့်သားက ဆိုးသောကြောင့် သူတစ်ထူးကို စော်ကား မော်ကား လက်လွန်ခြေလွန်ပြုခဲ့မှာလည်း စိုးရသည်နှင့်အမျှ ကိုယ့်သားက ဆိုးသောကြောင့် သူတစ်ပါးက လက်လွန်ခြေလွန် လုပ်လိုက်ရသည်ကို ခံလာရမှာလည်း စိုးသေးသည်။

ယခု ဒေါ်ရွှေသွယ်၏ ဝမ်းထဲကို ဝင်ကြည့်ရမည်ဆိုလျှင်လည်း ဤလို စိတ်စေတသိက်တွေသာ တွေ့ရပေလိမ့်မည်။ ညဦးနက်သန်းခေါင်အထိ ရွာရိုးကိုးပေါက် လျှောက်လည်နေလေ့ရှိသော ချက်ကြီးကို စိတ်မချတိုင်း ဒေါ်ရွှေသွယ်သည် သဗ္ဗေသတ္တာကို အဝေရာဟောန္တုနေရလေ့ရှိသည်။

ဤမျှလောက် ချက်ကြီးကို စိတ်ပူရပေမယ့် ဒေါ်ရွှေသွယ်သည် ချက်ကြီးကို ပိစိညှပ်ကလေးမှ မမုန်းသည့်အပြင် မောင်မင်းကြီးသားကို ဆပွားမေတ္တာ ချစ်၍ ချစ်၍ လာရပါသေးသည်။ အဘယ်ကြောင့်ဟူမူကား ချက်ကြီးအိမ်ပြန်မရောက်သေး၍ စိတ်ပူကာ သူ့အကြောင်း တွေးရသည်။

သူ့အကြောင်းတွေးရာက သူ့အဖေအကြောင်း ဆက်လာရသည်။ သူ့အဖေ ကိုဘိုးထော်လည်း ချက်ကြီးကဲ့သို့ပင် ဆိုးတေရမ်းကားခဲ့သူတစ်ဦး ဖြစ်ရာ ဖအေခြေရာနင်းသော ချက်ကြီးကို တွေ့ရသည်မှာ ကိုဘိုးတော် အကြောင်း ပြန်၍ ပေါ်ပေါက်ထင်မြင်လာအောင် စိတ်ခလုတ်ကလေး နှိပ်ရသောကြောင့် ဒေါ်ရွှေသွယ်အဖို့ အရသာရှိလှသည်။

ချက်ကြီးကား ဖအေတူသား

ချက်ကြီး၏ ဆိုးတေခဲ့ရသော ဗီဇဖခင်ကား ကိုဘိုးထော်။

"ဩော် ကိုဘိုးထော် ကိုဘိုးထော်။ အခုအထိသာ ရှိနေသေးရင် မြောက်ပိုင်းက ကိုသာရွှန်းလို ခါးများ ကိုင်းနေမလား။ ရွာဦးကျောင်းက ကပ္ပိယကြီးကိုရွှေလူလို နားထိုင်းပါးထိုင်းပဲ ဖြစ်နေမလား။ သွားကျိုးပါးကျိုး သွားဖုံးနဲ့ပဲ မြုံ့နေရမလား။ ဒီလိုနေချင်မှနေမှာပါလေ။ လူက စိတ်မြန်လက်မြန် လူဗလံကလေးဆိုတော့ သိပ်ကျချင်မှ ကျမှာ ဖျတ်ဖျတ်လတ်လတ် သန်သန်မာမာနဲ့ ဟိုတောက်တောက် ဒီတောက်တောက် ရောက်နေမှာပါပဲ။ အဲ တစ်ခုတော့ ရှိတယ်။ အရွယ်က မဆုံးမဘဲနဲ့ အရက်ကလေးတမြမြ ထန်းရည်ကလေးတမြမြနဲ့ ကြီးကောင်ကြီးမ ရှက်စရာကောင်းရမှာက မုချ။ သူများတကာ ဘုရားနဲ့ တရားနဲ့ ပိတ်ဖြူနဲ့ပုတီးနဲ့ ကျောင်းနားကန်နား ကပ်နေတုန်း သူက သူ့အကျင့်တွေ မဖျောက်မှာ စိုးရတယ်။

ဒါလည်း ငါကသာ တွေးပူနေတာပါလေ။ လူဆိုတာ တစ်သက်လုံး သေအထိ ဘယ်အထိ ဘယ်မိုက်ကြမလဲ။ အသက်အရွယ် ထောင့်လာတော့ ကိုယ့်ကိုယ်ကို သတိတရားရလာတတ်စမြဲပဲ။ ဘုရားလက်ထက်ကတောင် ကြည့်ပါလား။ အကျွတ်တရားရချင်တဲ့တစ်နေ့ကျ သောတာပန်ဖြစ်သွားကြတာ ဥပကတို့များ အရွယ်လွန်လို့ ဇရာပိုင်းရောက်ပြီး သားတစ်ယောက်မွေးပြီးမှ လိမ္မာသေးတာ"

"သူ ဆုံးတုန်းက အသက်ဘယ်လောက်ကြီးသေးလို့လဲ။ ချေက်မှ ရှင်လူထွက်၊ အဲဒီတုန်းက ကိုဘိုးထော်ရဲ့ အသက်ဟာ လေးဆယ်ကျော်ရုံ ရှိသေး။ ဟုတ်သပေါ့။ ငါက အဲဒီတုန်းက သုံးဆယ့်ခုနစ်နှစ်၊ ဟုတ်ပေါင် သုံးဆယ့်ရှစ်နှစ်ပေါ့။ ဘာဖြစ်လို့လဲဆိုတော့ ဦးစက္ကိန်က ငါတို့နှစ်စုံထဲမှာ အတော်ညံ့သယော့၊ သတိထားလို့ မှတ်မှတ်ရရဟောခဲ့သေးတာပဲ"

"ဟုတ်ပါ့တော် ညံ့လိုက်သမှ ဖြစ်ခြင်း၊ အဲဒီနှစ်ပဲ ကိုဘိုးထော် လူ အသတ်ခံရတယ်။ နောက်ဘာကြာလဲ လယ်တွေ ပိုးကျ၊ အိမ်ကြီး ချစ်တီးသိမ်း၊ ကိုဘိုးထော် အမှုကြောင့် မြို့တက်ပြီး တရားဆိုင်ရ၊ ကုန်လိုက်တဲ့ ခရီးစရိတ်၊ ရုံးစရိတ်တွေ သောက်သောက်လဲ၊ နာလဲ နာ သေး၊ နံလဲ နံသေးဆိုတာ ကျနေတာပဲ။ လူလဲ သေရ၊ ငွေလဲ ကုန်ရသေး။

"အင်း ကိုဘိုးထော်၊ ကိုဘိုးထော်။ မီးစာကုန်ဆီခန်း မဟုတ်ရှာ ဘူး။ လူများသတ်လို့ လောလောလတ်လတ် အသေဆိုး သေရရှာတာ။ ရန်သူမျိုး ငါးပါးထဲက မချစ်မနှစ်လိုသူဆိုတာ ရန်သူတစ်ပါးတဲ့။ တယ်ဟုတ်တဲ့စကား၊ တယ်ကြောက်စရာကောင်း ဒါကြောင့်ထင့် ဘုရား ရှိခိုးဆုတောင်းထဲမှာ အပါယ်လေးပါး၊ ရန်သူမျိုးငါးပါး၊ ဝိပတ္တိတရား လေးပါး၊ ဗျသနတရားငါးပါးတဲ့။ သူ့မလဲ လူမုန်း တယ်များကိုး။ ဘယ့်နှယ်တော်၊ သောက်လိုက်တဲ့အရက် နေ့မလင်း ညမလင်း၊ ပြော လိုက်မှဖြင့်ကော တက်ထောင် မောင်းနှင်း ဒီကြားထဲ အလောင်းအစား ကလဲ ဝါသနာပါလိုက်သေး။ ကြက်ပွဲဆိုလဲ သူပဲ၊ နွားပြိုင်၊ ကျွဲတိုက်၊ ဖဲ ရိုက်၊ အနီထောင်

"သတ္တိကိုကလဲ တုံးဆိုတိုက်၊ ကျားဆိုကိုက်"

"ငါ့ကြိုက်တုန်းကတောင် ကြည့်ပါကော။ အရီးစာဥတို့ အလှူမှာ ငါက ကွမ်းတောင်ကိုင်၊ သူက ရှင်လောင်းထိန်း၊ စိန်းစိန်းကြီး ကြည့် ရာက မျက်စိတစ်ဖက် မှိတ်ပြတာ။ ဟဲ ဟဲ ဒီတုန်းကတည်းက သူက

သောက်တတ်နေတာ ငါ့မှာဖြင့် ရှက်လိုက်တာလေ။ ခြေလှမ်း တောင်ပျက်ယူရော။ ဒါတောင် ငါ့နား ကပ်လိုက်လာတဲ့ ရှင်ငြိမ်းခံက သူ့ပဲ ကိုဘိုးထော်က ပိုးပြီးလုပ်ပြသလိုလို ကြွားလိုက်သေး။ အာဂ ကောင်မ"

"နောက် ဘာကြာလဲ။ ဥပုသ်ဇရပ်မှာ ငါ့ကို အတင်းလိုက်ပြီး လူပျိုစကားပြောတာပဲ။ ဟဲ ဟဲ ငါကလဲ ကြိုက်သပေါ့။ ဒါပေမဲ့တော် ကိုယ်က မိန်းကလေးမဟုတ်လား။ အပျိုမှ အပျိုဘော်ဝင်စ ဆံတောက်ကြီး ချလိုက်တာကလဲ ကားလို့။ ပုလဲနားကပ်မှ အမေကလုပ်ပေးစ ရှိသေး။ တော်ရုံလူများ တူတယ် တန်တယ်မှ မထင်သေးဘူး။ ကြွားကောင်းတုန်း၊ မောက်ကောင်းတုန်း။ အဲဒါ ငါက သူ့ကို စကား လက်ခံမပြောကောင်းလားဆိုပြီး တဖွတ်ထိုး အတင်းလိုက်ပြီး ဟီဟိ၊ ဖက်ဖက်ပြီး နမ်းလိုက်တာ တစ်ခါလဲမက၊ နှစ်ခါလဲမက ဇက်ရဲလက်ရဲ ငါ့အသည်းကို ပြောင်းပြန်လန်သွားသလား ထင်လိုက်ရတယ်။ ငါ့အစ်ကိုတွေ၊ ငါ့မောင်တွေ၊ ငါ့ပိုးနေတဲ့လူတွေရဲ့ရန်ကို ကြောက်ရကောင်းမှန်းမသိ။ ဘယ်နဲ့ စိုက်လိုက်မတ်တတ်လူလဲ မသိဘူး"

"နောက်တော့ကော ကိုချမ်းအေးတို့ စပါးစည့်နားမှာ အမယ်လေး၊ အဲသည်တုန်းက အကြောင်းများ အခုတွေး၊ အခုရင်တုန်မိသေး။ ဟုတ်ပါတော် ရဲလိုက်တဲ့လူ၊ အချိန်ကလေးက နွားရိုင်းသွင်းချိန်ပေါ့။ နေဝင်ဖျိုးဖျ၊ ငါက ဟင်းရွက်ခူးကအပြန် အိမ်မှာလဲ ထမင်းအိုးကြီးတန်းလန်းနဲ့ မောင်မင်းကြီးသားက လိုက်ချောင်းနေတာ ငါက ဘယ်သိလိမ့်မတုံး"

"ဟဲ့ ရွှေသွယ် ခဏ ခဏတဲ့"

"သူ့အနားဖြတ်သွားတုန်း လှမ်းခေါ်လိုက်တယ်ဆိုပဲ။ ငါ့မှာ ခေါင်းကြီးသွားတာပဲ။ ခေါင်းကြီးရောပေါ့။ မနေ့က ဒူနာတေး ကြောက်လှချည်ရဲ့လေး ဖြစ်နေသကိုး။ ငါက ကြောက်ကြောက်ရွံ့ရွံ့နဲ့ ထွက်

ပြေးမယ်လုပ်တော့ သုက ငါ့ရှေ့က ထုပ်ဆီးတိုးသလို လက်ကားရား ခြေကားရားနဲ့ တားထားရင်း

"ဟင်းနော် ကောင်မလေး။ ငါခေါ်တာ အေးအေးသက်သာနဲ့လာ ရင်လာ၊ မလာရင် ဟိုတစ်နေ့တုန်းကလို ရွာထဲရောက်ချင် ရောက်သွား ပစေ။ အတင်းလိုက်ဖမ်းပြီး နမ်းမှာပဲတဲ့။

"ဟုတ်တယ်။ သူက မိုက်ကန်းကန်းရယ်၊ ဇွတ်လုပ်မှာ။ လူမိုက် ဆိုတာ ဆေးရှိတာမှတ်လို့။ နောက်ပြီး ငါထင်တာကလဲ မသကာ သူ စိတ်လိုက်မာန်ပါလုပ်ချင်ရင် ဟိုတစ်လောတုန်းကလောက် အပရိက အောက်မေ့သကိုး။ သူကလဲ ဇွတ်ဆွဲတော့မလို ဘယ်ခြောက်ကာ ညာ လှမ်းလုပ်နေတော့

"ဘာလဲတော့၊ ကျုပ်အိမ်မှာ ထမင်းအိုးကြီး ဆူနေတာ"လို့ စကားမရှိစကားရှာပြီး ဆောင့်ဆောင့်အောင့်အောင့်နဲ့ပေါ့လေ။ ရှက်လဲ ရှက်၊ ကြောက်လဲ ကြောက် ဒီကြားထဲ ကြိုက်ကလဲ ကြိုက်နေချေ သေးသကိုး။ အဲဒါနဲ့ စပါးစည့်နား ရောက်အောင် လိုက်သွားမိပါတယ်။ တကတဲ လူပျိုစကားလဲ ပြောတာမဟုတ်။ ဆိုင်းမဆင့် ဘွဲ့မခံဘဲနဲ့ သရဲမရဲ စီးတော့တာပါတော်။ ငါ့မှာဖြင့် အောင်ဗလဆိုတဲ့ သီချင်းလို မျက်လုံးမျက်ဆန် ပျာတီပျာတာ ဖြစ်ကုန်တော့တာပဲ။ ချွေးတွေကိုလဲ ရွှဲလို့ ဒူးတွေကဆိုတာကော တဆတ်ဆတ် တုန်နေတာပဲ။ ငါတင်လား ဆိုတော့ သူ့မလဲ မျက်ထောက်ကြီးနီပြီး ကတုန်ကယင်ကြီးနဲ့ ကြောက် စရာ ကောင်းလိုက်တာ။ ငါက ရှက်ရမ်းရမ်းပြီး ကိုက်ထား လိုက်တာပေါ့ သူ့လက်မောင်းမှာ အသားတစ်ကြီး ထွက်တော့မတတ် ပေါ့။ အဲဒါတောင် တော်တော့သတ္တိ မဟုတ်ဘူး။

"ဟုတ်ပါတော် ထုမရ၊ ရိုက်မနာ၊ ကိုက်တာတောင် မဖြုံဘဲ ကျားပိန်တွယ်တွယ်တော့တာပဲ။ သူ့လက်ထဲကလွတ်လို့ အိမ်ကို မောကြီး

ပန်းကြီးနဲ့ ပြန်လဲရောက်ရော ထမင်းအိုးကြီး ဆန်ပြုတ် ဖြစ်ကုန်လို့ အမေက ဆီးရိုက်လိုက်သေး။ အို ဒီတုန်းက အမေရိုက်တာနဲ့ရောပြီး အားရအောင် ငိုပစ်လိုက်တာ သိပ်ငိုလို့ ကောင်းတာပဲ။ အင်း ကိုဘိုးထော် ကိုဘိုးထော်"

ဒေါ်ရွှေသွယ်သည် ဤတွေးခန်းကလေးရောက်တော့ အခုပဲဖြစ်လိုက်ရသလို စိတ်မောလက်မောနှင့် သက်မများပင်ယောင်၍ ချလိုက်မိသေးသည်။ သူ့ကြင်စဦး ကိုဘိုးထော်သည် ယခုစဲ သူ့နားသို့ လာ၍ သောင်းကျန်းဦးတော့မလိုလို ထင်လိုက်မိသည်။ ဤလို တွေးလိုက်သော အခါ အဟောင်းကအသစ်ဖြစ်၍ နွားများ စားမြုံ့ပြန်ကာ အရသာခံသလို အိပ်ရာထဲတွင် တွန့်လိမ်ကောက်ကွေးရင်း အပျင်းဆန့်လိုက်မိပါသေးသည်။ ယခု အသက်အရွယ်မှာ ခြောက်ဆယ်ကကျော်သော ဒေါ်ရွှေသွယ် အမေသွယ် ဇရာရွယ်ဖြစ်သော်လည်း သူ့ပန်းဦးပန် မောင်မင်းကြီးသား အကြောင်း တွေးလိုက်မိလျှင် ဆတ်ကော့လတ်ကော့ပျံနန့်နန့်အရွယ်လေးသို့ တစ်မုဟုတ်ချင်း ပြန်ရောက်သွားမိသည်။ ထို့ကြောင့် ကိုဘိုးထော် အကြောင်း တွေးလိုက်မိခြင်းမှာ အမေသွယ်အဖို့ အာယုဝမုဏာဆေးကို စားလိုက်ရသကဲ့သို့ ရှိသည်။

အိမ်ခေါင်ပေါ်က မိုးသည် တဖြောက်ဖြောက် လုပ်နေတုန်းပင် သူ့သားချက်ကြီးမှာလည်း တဂျောက်ဂျောက်နှင့် ကက်ဆွဲနေတုန်းပဲ ဖြစ်ကောင်းဖြစ်မည်။

အိပ်လို့ကလည်း မပျော်နိုင်သေး။ ညစဉ် ညတိုင်း သားတော်မောင် ချက်ကြီး အိမ်ပြန်လာ၍ 'အမေ'ဟု ခေါ်သံနှင့် မရှေးမနှောင်း မိမိက တံခါးထဖွင့်ပေးကာ သူအတွင်းရောက်ပြီး'ဂျောက်'ခနဲ မင်းတုတ်ချရမှ စိတ်ချလက်ချ အိပ်ပျော်နိုင်သော အကျင့်တစ်မျိုး ဖြစ်နေရှာတော့သည်။ ဒီကြားထဲမှာ ကိုဘိုးထော်အကြောင်း တွေးလက်စရှိပြီဆိုမှဖြင့် လက်ဖက်

တစ်အစ်ကို တစ်ယောက်တည်း စားထားမိသလို သာ၍တောင် မျက်လုံး ကြောင်လိုက်သေးသည်။ ဒီအပေါ် ဓနိအိမ်ခေါင်ပေါ်ကျနေသော မိုးရေ ပေါက်များက အမေသွယ် တွေးလို့ကောင်းအောင် စည်းချက်ဝါးချက် မှန်မှန်နှင့် သိင်္ဂါသံ လိုက်ပေးနေသလိုဖြစ်ပါသေးသည်။ အမေသွယ်သည် သူ့ခင်ပွန်းအကြောင်းသာ တွေးရမည်ဆိုလျှင် ဘယ်တော့ပဲ တွေးတွေး ပျောင်းသွားသည်၊ ရိုးသွားသည် မရှိ။ 'ဖတ်၍ မငြီး ဖတ်ပြီးရင်း ဖတ်ချင်သော ရှုမဝ ရုပ်စုံမဂ္ဂဇင်း'ဆိုသော ပြက္ခဒိန်ပါ ကြော်ငြာကဲ့သို့ ကိုဘိုးထော်၏ ချစ်ခန်းကြိုက်ခန်း ဖွတ်တရွတ် သစ္စာနံ့သော အခန်းများမှာ တွေး၍မငြီး တွေးပြီးရင်း တွေးချင်သော ကိုဘိုးထော်ဟု ဆိုလိုက်ချင်သည်။

ဤစကားမှာ မကြွားပါ။ ကိုဘိုးထော်ဆုံးသွားစ သုံးဆယ့်ရှစ်နှစ် အသက်က ယခု အသက်ခြောက်ဆယ်ကျော်၍ ဆံဖြူသွားကြွေ ပါးရေ နားရေ လိပ်ခွေရှုံ့တွသည့်အရွယ်အထိ နောက်အိမ်ထောင်တစ်ကောင် တစ်မြီးမှမပြုဘဲ တွေးတောခြင်းနှင့် ဝိတက်ဝိစာရ ပီတိသုခ ဧကဂ္ဂတာ ဈာန်အင်္ဂါငါးပါးစလုံးစီး၍ အမယ်ကြီး ဖြစ်ခဲ့ရပြီ မဟုတ်ပါလော။ နောင်တို့လည်း သေမင်းက မနေတော့နှင့်ဟု ဖွတ်ဆွဲ၍ ပါရသည့်တိုင် အသောအလွမ်းတွေ မြိုင်မြိုင်နှင့် တွေးရင်းသာ ပါတော့မည် ကေန္တ။

အမေသွယ်သည် သားကလည်း ပြန်မလာသေး။ မိုးကလည်း မတိတ်သေးသဖြင့် မအိပ်သေးဖြစ်သော သူ့အတွေးကို ဆက်၍ တွေး လိုက်ချင်သေးသည်။

အခုန စိတ်ကို ပြည်ဖုံးကားနှင့် ပိတ်လိုက်သော အတိတ်အကြောင်း ကား မောင်နှင့်မယ်သစ္စာထားသော နှစ်ပါးသွားအခန်း ဖြစ်ပါသည်။ ယခု ညဉ့်နက်သည်ထက် နက်လာတော့ နှစ်ပါးသွားခန်းက ဆက်၍ လွမ်းခန်းဘက်ကို သယ်လိုက်ချင်ပါသေးသည်။ ညဉ့်နက်၍ သန်းခေါင် ကျော်လျှင် အပူတိုက်ဖော်ပေးမှ အကျော်ဖေယျ ဇာတ်ပွဲကောင်းတစ်ခု ဖြစ်မည်။

"အင်း ကိုဘိုးတော် ကိုဘိုးထော် ရွေးရိုးသားရိုး ဖျားနာ သေရတယ်ဆိုရင် ပွေ့ပွေ့ပိုက်ပိုက်နဲ့ ငါပြုလိုက်နိုင်ဦးမှာနော်။ ခုတော့တော် မျက်စိထဲ အမှိုက်ဝင်သလို ဖြုန်းခနဲဖြစ်လိုက်ရတာ။ ကာလက အခက်သားပဲ ကိုယ့်ထက်သာ မနာလို၊ အဘိဇ္ဈာတွေက ပိုနေကြတာ ဗြဟ္မစိုရ်တွေပျောက် ဗြဟ္မခြောက်တွေ များကြတာ၊ ကိုဘိုးထော်ဆိုတာက နဂိုတည်းက လူရတတ်သား မဟုတ်လား။ သူ့အဖေ လှေသူကြီးလက်ထက်က တန်ဆောင်းကြီးတွေ ကျောင်းကြီးတွေ ခုတောင်ရှိသေး။ အေး၊ ပျက်စီးတန်သလောက်တော့ ပျက်စီးကုန်ကြပြီးပေါ့လေ။ လူလဲ သင်္ခါရ၊ ဝတ္ထုပစ္စည်းလဲ သင်္ခါရ၊ သဗ္ဗေသင်္ခါရာ အနိစ္စာတဲ့၊ သူတို့ တစ်တွေတောင် အရိုးဆွေးနေမှာပဲ

"ကိုဘိုးထော်က လူရတတ် လှေသူကြီးသားဆိုတော့ မော်တယ်၊ ကြွားတယ်၊ သုံးတယ်၊ ဖြုန်းတယ်၊ ယောကျ်ားဆို အသောက်အစား ဘယ်ကင်းမလဲ။ ဒါကတော့ ရွာထဲမှာဆို သူ့မောင် ကိုယ့်မောင်၊ သူ့လင် ကိုယ့်လင် သောက်တယ်စားတယ်ဆိုတာကလဲ လွယ်မှတ်လို့။ ပိုက်ဆံရှိမှ ဖြစ်တာ၊ တယ်တော့ ဂုဏ်မငယ်လှဘူး။ ဟုတ်တယ်လေ။ ဂုဏ်မငယ်ပါဘူး။ သူတို့ယောကျ်ားချင်း ဒါပဲ ကြွားရတာ။

"ကစားတယ်ဆိုတာကကော တော်ရုံတန်ရုံ မိဘ၊ သားသမီး တတ်နိုင်တာမှတ်လို့ ငွေလဲ ဖောရမယ်။ နှမြောတဲ့စိတ်လဲ ကင်းရမယ်။ သတ္တိလဲ ရှိရမယ်။ လူကလဲ ပါးရေ နပ်ရေ ရှိရသေးသတဲ့။ ဟုတ်တာပေါ့ ကစားသမားဆိုတာသူများ မျက်တောင်မွေးပေါ် စကြ်လျှောက်နိုင်မှ အဲသည်လို အဘက်ဘက်က စုံနေတော့ မလိုတဲ့လူ များသပေါ့လေ။ ဒါကြောင့် လက်သည်မပေါ်တာဘဲ။ ဩော် မေ့နေလို့ ဒါလောက်တင် ဘာကဦးမလဲ။ မိန်းမ မိန်းမ

"သူ အစွမ်းထက်တာက မိန်းမဘက်ကပေါ့။ ရုပ်ကလဲ ရုပ်ချော၊ သဘောကလဲ ဒိုးဒိုးဒေါက်ဒေါက် စိတ်မြန်လက်မြန် အသားကလေးများဆို ဝါဖန့်ဖန့်၊ ဒီကြားထဲ ထန်းရည်ကလေးများ သောက်လာပြီလားဆို သူ့မျက်နှာကလေးဟာ ပန်းရောင်သွေး ပြေးနေတာပဲ။

"အဟုတ်ပဲ ဘုရားစူးစေ့၊ ကိုယ့်လင်မို့ ကိုယ်ပြောရာ မဟုတ်ဘူး။ ဆံပင်ကလဲ ကောင်းလိုက်တာ သျှောင်တစ်စောင်းများ ထုံးထားလိုက်မှဖြင့် အက်နေတာပဲ။ နှာတံ နှာတံမို့၊ မျက်ခုံး မျက်လုံးဆို မျက်ခုံးမျက်လုံးမို့ ညနေနေဝင်ရီတရော ပုဆိုးခါးတောင်းကျိုက်ပြီး ကျောင်းဝင်းထဲ ခြင်းခတ်နေလိုက်တာများ ထိုးကွင်း ဒူးကျနဲ့မို့ ရေခပ်သွားတဲ့ ကောင်မတိုင်း ကြည့်လိုက်ကြတာ အမော၊ တချို့ခေါင်းပေါ်က ရေအိုးများ ဖြန်းဖြန်းကျကွဲအောင် ခလုတ်တိုက်တဲ့အထိ။

"သူကလဲ ဇက်ရဲလက်ရဲသမား မဟုတ်လား။ ငါ့တောင် ကြည့်ပါလား။ စကားသုံးခွန်းမပြောဘဲ သူ့မယားဖြစ်ခဲ့ရတာ၊ တချို့ မိန်းကလေးတွေဆိုတာ ဒီလို ဇက်ရဲလက်ရဲ နှုတ်မြန်လက်မြန်မှ ပိုသဘောကျတာ။ ငါနဲ့ ညားပြီးတော့တောင် ကြည့်ပါလား။ ချက်ကြီး ကိုယ်ဝန်နဲ့တုန်းကလေ အနှိပ်သည် ဆယ်အိမ်ခေါင်းသမီး မိမွေးအုံနဲ့ ဖြစ်ကြသေးတာ။ ငါ့မှာတော့ ကြားကြားချင်း ခေါင်းမီးတောက်သွားတာပဲ။ ဟုတ်သလေ။ မိန်းမဆိုတာ မုန့်သာ ဝေစားနိုင်တော့မပေါ့။

"ဟို ကောင်မလဲ ဟိုကောင်မပါပဲ။ သူမို့ ကြောင်တောင်နှိုက်ဝံ့တာ။ မသကာ ငါနဲ့ဆို ဟင်းရွက်ခူးဖက်၊ ရေခပ်ဖက် သင်း ရှောင်ဖို့ကောင်းတယ်။ ဒီတုန်းကများ ငါက ထဘီကြီးဒူးလောက်ဝတ်၊ တလိုင်းပေါက် အင်္ကျီလက်ကို ပင့်လို့ နင်ဘဲ ငဆ သူ့ကို ရန်တွေ့လိုက်တာ အကြမ်းပက်စိတွေတောင် ပါကုန်တာပဲ။ ကြောက်ရတဲ့လင်ပေမယ့် ဒီနေရာမျိုးကျတော့ ဘယ်ခေါင်းငုံ့ခံလိမ့်မတုံး။ ကုန်းကုန်းပြီး အော်မိတာ၊

အဲဒါ သူက ငါ့ကို ချော့သလေ။ ပြောရပါစေတော့ တတ်လဲတတ်နိုင်တာ။ ငါ့မှာ နေ့စေ့လစေ့ကြီးမို့ မွေးအုံကို ပျော့ရုံပါးရုံကြဲတာပါတဲ့။ ငါ ဒေါသကြီးလေ သူက ရယ်ပြီးချော့လေပ၊ ချော့သမှ လူကို ကလေးကလားနဲ့ ဖက်များ နမ်းလိုက်သေးသတော်။ ဒီတုန်းကများ ရယ်တောင်ရယ်လိုက်မိသေး။ ငါ့အဖြစ်များက အစတော့ မိုးလားကဲလား။ အခုပဲလက်ဖက်တစ်ရွေး ကွမ်းတစ်ယာနဲ့ လူကြီးစုံရာရှေ့မှာ ကွာတော့မလောက်ဖြစ်နေတာ။ သူက ချော့မော့တောင်းပန်ပြီး ထိကပါးရိကပါး ပလူးပလဲရှူးသလို ကြောင်သလို မျက်နှာစပ်ဖြဲဖြဲကြီးနဲ့ လုပ်လိုက်တာပဲ ရှိသေး။ ငါ့မှာ မျက်ရည်တွေတတွေတွေကျရာက မောင်မင်းကြီးသား သဘောတော်ရှိ ပျော်တော်မူ ပါးတော်မူဆိုပြီး နဖားကြိုး မဖြုတ်ဝံ့တောင်လျှည်းကြိုးတော့ ဖြုတ်လွှတ်လိုက်ရတာပဲ။ တားမရတဲ့လူဆိုတော့ဘယ်စားကျက် ဝင်စားစား အချိန်တန် ကိုယ့်ချည်တိုင် ပြန်ရောက်ပြီးတာပဲလေဆိုတဲ့ သဘောထားလိုက်ရတာပေါ့။ အင်း၊ ဒါတောင် မလိမ့်တစ်ပတ်နဲ့ သူလိုဘရှိတာ သူလုပ်နိုင်ခွင့်ရအောင် လုပ်ယူသေးတာ။ ဟိုကောင်မကျတော့လဲ ပတ်ချွဲနပ်ချွဲချွဲတာနဲ့ လက်ခံလိုက်ရမှာပဲ။ ဒါကြောင့်လူကြီးသူမများ ပြောကြတာ မိန်းမများ နှာခေါင်းပါလို့သာ နှာခေါင်းမပါရင် လင်က ချေးကျွေးတောင် စားကြမှာတဲ့၊ ဟုတ်သားပဲ။

"နောက် ချက်ကြီးမွေးပြီးလို့ မီးကထွက်ပြီး ကလေးကင်ပွန်းတပ်တဲ့အထိ ကိုယ်တော်မြတ်ကို ငြိမ်မလားအောက်မေ့မိပါ။ ခြံခုန်ဖူးတဲ့နွားခြံခုန်တော့တာပါပဲ။ မွေးအုံတောင် မကတော့ဘူး။ တရုတ်ဆိုင်နားကမိစိန်အေးတို့ ရွာလယ်မွှောရုံနားက တစ်ခုလပ် မိငွေပွင့်တို့ သူကြီးခယ်မမုဆိုးမ မိချေးတို့၊ အို စုံတကာ့ စေ့သွားတာပဲ။ ကောင်မတွေကလဲပိန်းကောမ ဦးထောင်ထောင်တွေ ဆိုတော့ ကျောက်ဆောင်နဲ့ ထိပြီးကျိုလိလိ မြည်ကုန်ကြမှာပေါ့"

“ငါ့မှာဖြင့် အိမ်ရောက်တိုင်း ပျားရည်နဲ့ ဝမ်းချတာခံနေရတာပဲ။ ခုမှတော့ ကျုပ်က ဘယ့်နှယ်လုပ် မာနိုင်တော့မတုံး။ သားတစ်ကောင်နဲ့ တွဲလည့်တွဲလောင်း ဖြစ်နေပေါ့ဟာ။ နို့ပြီး မှန်တာပြောရမှာဖြင့် သူ့လဲ အရင်ကလောက် သိပ်ပြီး အရေးမစိုက်ပေါင်၊ ကိုယ့်သား ဝေယျာဝစ္စနဲ့ ကိုယ့်ဖင် ယားလို့မှ မဖျောက်အားဘူး။ ကိုယ်သား ကိုယ်မြှူနေရ ပျော်လို့

“သင်း ဘယ်လောက်ယူယူ၊ အသီးတစ်ရာ အညှာတစ်ခုပေါ့။ ငါဟာ ပွဲတက်မယားဆိုတာ တစ်ရွာလုံးအသိ။ ငါ့ထက်လယ် မယားငယ် ဖြစ်ရုံအပြင် ဘာပိုပိုင်ဦးမှာလဲ။ လယ်ထောက်ခ ကိုယ်တိုင် သိမ်းတယ်။ စပါးပေး ကိုယ်တိုင်ပေးတယ်။ ချစ်တီးကြွေးဆပ်ရင် ကိုယ်တိုင်လိုက်တယ်။ မသကာ သူ့မယားငယ်တွေ ပုံပိုးနိုင်ရင် ဆန်အကြိတ်သွားတုန်း၊ စပါးရောင်းတုန်း တင်းပိုပြည်ပို ငွေတစ်ရာစ နှစ်ရာစ ကိုယ်လိုက်မကြည့်နိုင်တာလောက်ကလေးတွေ ဖြစ်တော့မပေါ့။

“အင်း၊ ကိုဘိုးထော် ကိုဘိုးထော် လည့်လွန်းတဲ့ဘီး ချေးသင့်လိမ့်မနော်လို့ ငါက တဖွဖွ သတိပေးနေတဲ့ကြားက သားလေး ချက်ကြီးရှင်ပြုတဲ့ နှစ်ပေါ့။

“တစ်ညငါ့နှယ် အိပ်မက်မက်လိုက်တာ။ အခုတွေးမိရင် ခုတောင် ကြက်သီးထမိသေး။ ငါ့ခေါင်းက ဆံပင်တွေ ခေါင်းလျှော်ရင်း တရော်ရည်နဲ့ ပွတ်တာနဲ့ ငယ်ထိပ်က အကွက်လိုက် ကျွတ်ပါသွားသတဲ့တော်။ တကတဲ မထိတ်သာ မလန့်သာ။ ချက်ချင်း အိပ်ရာ လန့်နိုးလို့ ကိုယ့်ဆံပင်တောင် ကိုယ်ပြန်စမ်းမိသေးရဲ့။ အို စိတ်မကောင်းလိုက်တာလေ။ အလိုလို ငိုချင်လာတာပဲ။ သူ့ကို အိပ်ရာနှိုးပြောမယ်လို့ကြည့်လိုက်တော့ လားလား။ သူကဖြင့် အိပ်နေလိုက်တာ ဘာမှ အပူအပင်မရှိ

သလို။ လေးဘက် လေးတန် ကားလို့ တခေါ်ခေါ်နဲ့ ဟောက်များတောင် ဟောက်နေလိုက်သေး။

"ရေနံတိုင် မီးခွက်ကလေးကလဲ ခုလိုပဲထွန်းထားလို့ သူ့မျက်နှာကို ခပ်လင်းလင်းပဲ မြင်လိုက်ရတယ်။ တစ်သက်နဲ့တစ်ကိုယ် ကိုယ့်လင် ကိုယ် စေ့စေ့ကြည့်နေမိပေါင်းများပါပြီ။ ဒေါသနဲ့ကြည့်မိတဲ့အခါလဲ ကြည့်မိရဲ့။ ချစ်လို့ ကြည့်မိတဲ့အခါလဲ ကြည့်မိရဲ့။ အမှတ်တမဲ့ပဲ အဲဒီနေ့ညကတော့ သူ့ကြည့်ရင်း သူ့မျက်နှာဟာ ရေနံတိုင်မီးရောင်နဲ့ လှလိုက်တာလေ။ မညားခင် ကိုယ်က ကွမ်းတောင်ကိုင်၊ သူက ရှင်လောင်းထိန်းတုန်းကလိုပါပဲ။ လှသမှ မျက်စိအောက်ကအပျောက်မခံဘဲ ကြည့်နေချင်သလောက်။ အဲသည်လို ကြည့်ရင်းကြည့်ရင်းနဲ့ တဖြည်းဖြည်း ဝမ်းနည်းလာလိုက်တာ မျက်ရည်တွေဟာ တစ်ပေါက်ချင်း ကျလာတာပဲ။ အင်း၊ ဒီကြားထဲ မှတ်မိသေးတော့။ သားပဲ အရွယ်ရောက်လို့ ကျောင်းမှာ ရှင်ပြုထားပြီ။ အဲဒီညက သူ့ကြည့်ရင်း သူ့ပါးစပ်ကြီးကို အားရပါးရ နမ်းလိုက်ချင်တာလေ။ တစ်မျိုးကြီးပဲ။ ရင်ထဲမှာ ဆို့ဆို့လာတော့တာပဲ။ နောက်ပြီး နောက်ပြီး (ကိုယ့်ဟာကိုယ် တွေးတာလေ ဘာရှက်စရာရှိတာမှတ်လို့) တစ်ရေးနိုးမှပဲ ကြဲကြဲဖန်ဖန် ကတ်သီးကတ်သတ် သူ့အယုအယ၊ သူ့အပွေ့အပိုက်၊ သူ့အချစ်အကြိုက်ကို ခံယူချင်လိုက်တာလေ။ တနုံ့နုံ့ ဖြစ်လာတဲ့အထိပါပဲ။ ကြာတော့ သူ့လဲ နှိုးပြောချင်သေးတာနဲ့ ကိုယ့်အာသာအတိုင်း သူ့ပါးကြီးကို ငုံ့နမ်းမိတာ တအားပါပဲ။ သူ့မလဲ ဂူးဂူးဝါးဝါးနဲ့ လန့်နိုးတော့တာပေါ့။ မျက်ရည်တွေကဆိုလဲ သူ့ပါးမှာ ရွှဲလို့

"ငါ့နယ် လန့်လိုက်တာ ရွှေသွယ်ရယ်"တဲ့ ပြောပြီး သူ့ပါး သူ ပွတ်ကြည့်။ ငါ့ကိုလဲ မျက်ရည်နဲ့ မျက်ခွက်တွေ့ရတော့

"ဟဲ့ မိသွယ် ဘာဖြစ်တာတုံး၊ တစ်ရေးကြီးနိုးမှ"

"ကိုဘိုးထော် ကျုပ်လေ ကျုပ် အိပ်မက်မကောင်းဘူးတော်"

"အောင်မယ်လေးကွာ မင်းနှယ်။ ညကြီးမင်းကြီး နှိုးပြောရသလား။ မနက်ကျမှပြောလဲ ပြီးတာပေါ့။ ဘာများ ဘယ်လို မက်လို့တုံး"

"ကျုပ်လေ ကျုပ်"

"ဩော်ကွာ မင်းကလဲ ဘုမသိဘမသိ ငိုပြန်ပါပြီ တကတဲ"

"မဟုတ်ဘူးနော် မဟုတ်ဘူး။ ဘုမသိဘမသိမဟုတ်ဘူး။ နိမိတ်ကောက်ကြည့်စမ်း။ ဘယ်လောက်ဆိုးသလဲ။ ကျုပ်စိတ်မချတာ တော့်ပဲ တော့်ပဲ"

"မင်းကလဲ စိတ်မချတာပဲ ပြောနေ။ ဘယ်လိုဟာ ဘယ်ရယ်လို့ ဖြင့် မပြောသေးဘူး"

"ကျုပ်လေ၊ ကျုပ် ခေါင်းလျှော်တုန်း ငယ်ထိပ်က ဆံပင်တွေ အကွက်လိုက် ကျွတ်ပါလာသတဲ့တော်။ အဲဒါ ခေါင်းက ဆံပင်ဆိုတာ ကိုယ့်ထိပ်က လူမဟုတ်လား။ တခြားတွေးရင် အင်း တော့် မိဘတွေလဲ ရှိတော့တာမဟုတ်။ ကျုပ်မိဘဆိုတာလဲ ဆုံးလို့ ကြာကြာလှပြီ။ ဒီတော့ တော်၊ တော် အမယ်လေး မပြောကောင်း မဆိုကောင်း တော်များ တစ်ခုခု"

"ဟာကွာ၊ မင်းကလဲ မဟုတ်တရုတ်တွေ ငိုမနေပါနဲ့ကွာ။ တိတ်စမ်းပါ။ အိပ်မက်ဆိုတာ အိပ်ရင် မက်တာပေါ့ကွ။ ဆောင်းတွင်း အိပ်မက်ကယောက်ကယက်တဲ့"

"အခု ဆောင်းတွင်းမှ မဟုတ်ဘဲ မိုးတွင်းပဲဟာ"

"ဟာ မိုးတွင်းလဲ မိုးကသည်းနေတော့ အေးသမဟုတ်လား ရွှေသွယ်ရဲ့"

သူက အဲသည်လိုပဲ အရေးမကြီးသလို ငါ့ကို ပြန်ပြောတယ်။ ဟုတ်လဲဟုတ်ပါရဲ့။ မိုးကလဲ မနက်ကတည်းက ရွာနေလိုက်တာ တစ်နေ့လုံး တစ်ညလုံး ခုလိုပါပဲတော်။ ခုလိုပါပဲ ဒီညမျိုးပါပဲ။

"ဒါပေမဲ့တော် ကျုပ်တော့ စိတ်ထဲမှာ စနောင့် စနင်း ဖြစ်နေတာပဲ။

"ဟယ် အိပ်မက်မက်ပြီးများ စနောင့်စနင်း ဖြစ်စရာ မဟုတ်တာ ကွာ။ ငါကတော့ သေကောင်ပေါင်းလဲ နာဖျားနေတာမှတ်လို့။ ဒီမှာ ဒီမှာ အိပ်မက်မက်တယ်ဆိုတာ အိပ်မက်ခြင်း အကြောင်းတရားငါးပါး ရှိသကွ။ ဘုရားဟော၊ ဘုရားဟော အကျိုးပေးချင်လို့ မက်တာလဲ ရှိတယ်။ အိပ်ရာနေရာမသန့်လို့ မက်တာလဲ ရှိတယ်"

"တော့ဉစ္စာငါးပါးလဲ ဆိုသေး၊ ငါးပါးမှ မပြည့်သေးပဲ။ နောက်ဟာ တွေကော"

"နေပါဦး အင်း ထမင်းစားပြီး ခြေဖဝါးမှာ ထမင်းလုံးကပ်နေ လဲ မဟုတ်မဟပ်တာတွေ မက်သတဲ့ဆို ထင်ပါ့ကွာ။ ငါမမှတ်မိတော့ ပါဘူး။ ကျောင်းတုန်းက ဘုန်းကြီးသင်တော့ သင်ပေးတာပဲ။ မင်း ခြေထောက် မင်းပြန်ကြည့်စမ်း။ ထမင်းလုံးများ ကပ်နေသလား။ တို့ ငယ်ငယ်တုန်းက ကြည့်ပါလား။ ထမင်းလုံး ခြေဖဝါးကပ်ပြီး အိပ်ရင် ထမင်းလုံး တစ္ဆေခြောက်တာလေ။ ချောက်ကြီးထဲ ကျသွားလိုက်တာများ အသည်းထဲ အေးသွားတာပဲ။ နောက် တကယ်ကျတာလဲ မဟုတ်ဘူး။ အဲဒီလိုပဲပေါ့"

"အဲဒါသာကြည့်တော့။ ကိုဘိုးထော်တို့များ ဗဟုသုတ နည်းပါး လိုက်တာ။ သူ့မှာ စာပေကျမ်းဂန်ဆိုလို့ ဘာမှရေရေလည်လည် မသိ ဘူး။ သူများတကာဆို သင်္ကြံပြဟ် စကားပြောကြ၊ အဘိဓမ္မာစကားပြော ကြ၊ အလှူအိမ်၊ မသာအိမ်ဆိုရင် သံဃာစင်နားရှိတဲ့အရွယ်ပေါ့။ သူ့ဖြင့်

ဟုတ်ပေါင် အရက်ဆိုင်၊ ကစားဝိုင်းနဲ့ မိန်းမပိုင်းတွေမှာသာ အချိန်ကုန်ခဲ့ရတာ။ ဒီတော့ ငါက သူ့ကို တွန့်တက်လိုက်မိသေးတယ်။

"ကိုယ်စောင့်နတ်ဆယ့်နှစ်ပါးက အိပ်မက်ပေးတာကကော ကိုဘိုးထော်ရဲ့ပွဲထဲများကြည့်ပါလား။ မင်းသမီးမင်းသားကို နတ်က အိပ်မက်ပေးတာလေ"

"ဟယ် ဒါက ဇာတ်ထဲလွမ်းအောင် ကြံကကြံတာပါကွာ။ ကိုယ်စောင့်နတ်ဆယ့်နှစ်ပါးလုံးကသာ အိပ်မက်လာပေးနေရင် မိုးသာ လင်းရော အိပ်ရမှာ မဟုတ်ဘူး။ ဟဲ ဟဲ ဟဲ အိပ်စမ်းပါကွာ။ စိတ်ချလက်ချ မင်းကြောက်ရင် ငါဖက်ထားမယ် ကဲ"

သူက ပြောပြောဆိုဆို အပျင်းအားကိုး အိပ်ချင်မူးတူးနဲ့ ငါ့ကို ဖက်ထားလိုက်တယ်။ အဲသည်လို ကယုကယင်နဲ့ ကိုယ့်ကို ဖက်သိပ်ထားတော့ အခုနကလေးဖြစ်နေတဲ့ အာသာနဲ့ဟာ တစ်ထပ်တည်းကျသွားတော့တာပေါ့။ ဒါကြောင့် သူကအဖက် ကိုယ်က သူ့ရင်ဘတ်ကြားထဲ ပုနေအောင် ဝင်တိုးရင်း

"ကိုဘိုးထော် ကျုပ်လေ ကျုပ်တော့ တော့ကို ချစ်လိုက်ရတာ ညားစကအတိုင်းပဲ။ ဘုရားစူးစေ့ တစ်ရွေးသားမှ မလျော့ဘူး။ တော်သာ ကျုပ်ကိုထားပြီး မယားအမြှောင်တွေ လိုက်နေတာ။ သိလား သိလား"

"ဩော်၊ ဟော် ဟော် မင်းကလဲကွာ။ ဒီညမှ အဆန်းလုပ်လို့"

"ကျုပ်က မဆန်းဘူးတော်ရေ။ တော်သာ တစ်နေ့တခြား ဆန်းဆန်းလာတာ"

ဟုတ်တယ်၊ ငါကတော့ စိတ်ပေါက်လက်ပေါက်နဲ့ ငါ့အဓိပ္ပာယ်နဲ့ ငါပြောချလိုက်တာပဲ။ ဆန်းတာက သူ။

"တော်တော့ နာမည်သာ ပြောင်းပေးဖို့ ကောင်းပြီ"လို့ ဆိုလို့ သူက

"ဟဲ ဟဲ ဟဲ ဘယ်လိုများ ပြောင်းပေးချင်ရတာတုံး"လို့ သူက ပလူးပလဲ ထွေလာကေလာတွေပြုရင်း စပ်ဖြဲဖြဲနဲ့ မေးလို့

"ဟင်း တော်တော့လား။ ကိုဘိုးထော်က ကိုဘိုးကဲလို့ ပြောင်းရမယ်"

နောက်တစ်နေ့မနက် အိမ်က ထွက်သွားလိုက်တာ အလောင်းတောင် အိမ်ပြန်မရောက်လာနိုင်တော့ဘူး။ ဦးသာကျော်တို့ လယ်ကွက်ထဲ အပိုင်းပိုင်းအတစ်တစ်သာ ဖြစ်လုနီးရော။ ဒါနဲ့ သူကြီးအိမ်ရောက် သူကြီးအိမ်က မြို့က ဂါတ်ရောက်၊ ဂါတ်ကတစ်ခါ ဆေးရုံရောက် ငါ့မှာတော့ သူ့နောက်က တကော်မတတ် ချက်မတတ် သွားလေရာလိုက်ရတာပဲ။ ဒါပေမဲ့ ဆေးရုံက မြို့က သင်္ချိုင်းရောက်တဲ့နောက် ငါဆက်မလိုက်သာတော့ဘဲ ရွာကို တစ်ယောက်တည်း ပြန်ခဲ့ရတယ်။ ငါ့ကိုယ်ငါ သင်္ချိုင်းမှာ မတ်တတ်က လုံချတာတောင် တစ်တွင်းထဲ အတူမသေရဘူး။ ရှင်လူထွက်စ ချက်ကြီးဆိုတာမလဲ မျက်စိ သူငယ် နားသူငယ်ကလေးနဲ့ ငိုလိုက်တာလေ၊ တရွှဲရွှဲပေါ့။ သူငိုလေ ကိုယ့်မှာ မချီလေ။ အသည်းတွေတောင် ပြုတ်ကျတော့မလား အောက်မေ့လိုက်မိတယ်။

ရွာရောက်တော့ကော ငါ့မှာ မနေတတ်မထိုင်တတ်ကြီးပဲ။ ညနေနေဝင်ရီတရော အချိန်များဆိုရင် သူသေသွားတာကို မေ့နေပြီး ကြက်ဝိုင်းပဲ ခေတ္တခဏသွားနေသလိုလို၊ ဖဲဝိုင်းကပဲ အတော်ကြာ ထပြန် လာလိမ့်နိုးလိုလို၊ အရက်တွေမူးပြီး အာလေးလျှာလေး ယိုင်တိယိုင်ထိုး ပြန်လာလိမ့်မလိုလို၊ ညဦးဆိုပြန်ကော အိမ်တံခါးပိတ်ထားတုန်း "ဟော့ ရွှေသွယ် ဟယ် ဟယ် ဝေါ့ဟော့"ဆိုတဲ့ အရက်သံနဲ့ မူးမူးကြီး အော်ခေါ်သံ အန်သံကြားရဦးမလိုလို၊ လာပြီး တံခါးအတင်းထုနေဦးမလိုလို စောင့်စားနေမိသေးတယ်။ နောက် အတန်ကြီးတွေးနေမိမှ မပြန်လမ်း မြန်းရှာတာကိုးဆိုတာ သတိရနိုင်တော့တယ်။ အဟုတ်ပါပဲ။ ငါ့မှာ သူ့ကို

တစ်ရက် နှစ်ရက်လောက်ကလေးမှ အိပ်ရာထဲ လဲနေတာ တွေ့ရမြင်ရနေရ ခဲ့တာမှမဟုတ်ဘဲ။ လောလောလတ်လတ် ဖျတ်ခနဲဖြစ်သွားတာ မဟုတ်လား။ မနေရလို့ သေရလဲ ဆန်ပြုတ်ကလေး တစ်ဇွန်း၊ ဆေးကလေး တစ်ခွက် တိုက်လိုက်ရ တော်သေးရဲ့နော်။

"ဩော်၊ ကိုဘိုးထော် ကိုဘိုးထော်။

သတ်သွားတာ လက်သည်တရားခံမှ မမိ။ ကိုယ်ကလဲ မသိ ဟိုလူ ဖမ်းစစ်၊ ဒီလူ ဖမ်းစစ်၊ တစ်ရွာလုံး သူနဲ့ ရန်စမကင်းသလို ဖြစ်နေတော့ ဘယ်သူမှ ခြေရာမကောက်နိုင်ကြတော့ဘူး။ သက်သေ သက္ခာယကလဲ တစ်ကောင်တစ်မြီးမှ မပေါ်လာကြဘူး။ သိပဲ တကယ် မသိကြလို့လား။ သူ့ပဲ အမြင်ကပ်ကပ်နဲ့ ပါးစပ်ရေငုံထားကြလေသလား။

"ကိုဘိုးထော် ဆိုးတာတော့ဆိုးတာပါပဲ။ ကိုယ့်လင်ဆိုးတာ ကောင်းတယ်လို့ မငြင်းချင်ပါဘူး။ ဒါပေမဲ့ တော် မသကာ ထိပ်ပေါက် ခေါင်းကွဲ ရိုက်လိုက်ရုံ ရိုက်လိုက်ပါတော့။ ဒါလောက်နဲ့မှ ရန်ငြိုးမပြေလဲ တစ်ချက်တလေ အသက်နဲ့ ဝေးတဲ့နေရာ ခုတ်ချင်လဲ ခုတ်လိုက်ပါတော့။ အခုတော့ အခုတော့ သေပြီးတဲ့နောက်မှ စိမ်ပြေနပြေ ငါးကို မွှန်းသလို မွှန်းထားရက်တာ လွန်လွန်းလှပါသတော်။ ဟင်း ဟင်း ငါ မိန်းမသား ဖြစ်ပေမယ့် သူ့သတ်တဲ့လူ မသိရလား။ သိများသိရရင် သင်းကို ဓား နဲ့တောင် မခုတ်ချင်ဘူး။ လက်ခုပ်ထဲထည့်ပြီး စိစိညက်ညက်ကြေအောင် ခြေလိုက်ချင်သေးတော့"

အမေသွယ်ခေါ် ဒေါ်ရွှေသွယ်သည် မျက်စိကလေး ပေကလတ် ပေကလတ် လုပ်နေပြီး အံကြိတ်လိုက်မိသည်။ အိပ်ရာနားက ရေနံတိုင် မီးခွက်ကလေးမှာလည်း သူ့ကို အားကျ၍ မီးတောက်ကလေး ပေကလတ် ပေကလတ် လုပ်နေလေသည်။ မိုးကတော့ မှန်မှန်ပင်

ဒေါ်ရွှေသွယ်၏ မျက်လုံးအစုံမှာ ဒေါသကြောင့် မီးရောင်တွေ တဖိတ်ဖိတ် တောက်ပြောင်လျက် ရှိသည်။ သူ့စိတ်နှင့် သူ့ဒေါသမှာ တကယ့်ကို ပြင်းထန်နေသည်။ မကြာသေးမီကမှ သဗ္ဗေသတ္တာ အဝေရာ ဟောန္တု ဆိုပေမယ့် သူ့ခင်ပွန်းကို သတ်သွားသူအား တစ်စိကလေးမျှ အဝေရာ မဟောန္တုချင်ပေ။ အခုတွေ့၍ အခုသာလုပ်ရလျှင် ဓားနှင့်ဖြစ်ဖြစ် ခုတ်ပြလိုက်ချင်သေးသည်။ သူ့ကိုသတ်၍ အစိုးရကြိုးမိန့်ကို အားကိုးကာ သူ့ယောကျ်ားကိုဘိုးထော်နောက်သို့ ကောက်ကောက်ပါအောင် လိုက်သွားချင်ပါသေးသည်။ နို့ပေမယ့် လောကကြီးမှာ သံယောဇဉ်ကလေးတစ်ခု တော့ ကျန်နေရစ်ဦးမည်။ သူ့ကြောင့် သူ့ကြောင့် လောကကြီးထဲက မထွက်ချင်သေးပါ။

ချက်ကြီး ချက်ကြီး ဤချက်ကြီးသာ အမေသွယ်၏ တစ်ခုတည်းသော ခိုင်မြဲနေသည့် သံယောဇဉ်ဖြစ်တော့သည်။ ကိုဘိုးထော် ပစ်သွားကတည်းက ချက်ကြီးသာ စုလိုက်စုပုံ အာရုံစိုက်၍ ချစ်နေရသည်။ ချစ်လည်း ချစ်စရာ အလွန်အမင်း ကောင်းပါသည်။ ချက်ကြီးကား အဖေတူသား မဟုတ်ပါလော။ ကိုဘိုးထော် ချောသလို ချောသည်။ ခေတ်ကာလအလိုက် ထိုးကွင်း ဒူးကျမရှိတာကလွဲလို့ အရွယ်အရပ်၊ မျက်ခုံး၊ မျက်လုံး၊ နှာကျ ပါးကျ အတော်တူသည်။ စိတ်သဘောကကော ကြည့်ပါဦး။ ရွတ်တီရွတ်ထိုး ငေါက်ဆတ်ဆတ်နှင့် တစ်ရှူးတိုး၊ အသောက် အစားကိုကြည့်ဦးမလား နေ့မလင်း ညမလင်း။

ညည အိမ်ပြန်လာလျှင် သူ့အဖေလို ခပ်ထွေထွေ ခပ်ယိုင်ယိုင် ပြန်လာလေ့ ရှိသည်။ ဒါကိုပဲ အမေသွယ်က ချစ်နေရသည်။ သူ့လင်နှင့် တူလွန်းလို့ ချစ်နေတာ အမှန်ဖြစ်သည်။ ထို့ကြောင့်ပင် ကိုဘိုးထော်နှင့် သရုပ်တူလွန်းလှသည့်အတွက် ပြင်းပြင်းထန်ထန် မကန့်ကွက်။ သူ အသောက်ပျက်သွားမှာတောင် သူမသိအောင် စိုးရိမ်လိုက်မိပါသေးသည်။

ကိုဘိုးထော်၏ ကိုယ်ပွားကလေး ကိုဘိုးထော်၏ လမ်းစဉ်မှ သွေဖည် ဖောက်လွဲသွားလျှင် ကိုဘိုးထော်၏ သရုပ်သကန်တွေ ပျောက်၍ မျက်မှောက်မှာ မမြင်ရမည်ကို စိုးသည်။ နောက်တစ်ခု ရှိပါသေးသည်။

"မသွယ်ရာ၊ ငွေမျှော ငွေနဲ့လိုက်ရမှာမို့ပါ။ မင့်ကျန်ဆစ် လက်ကောက်ကလေး ပေးပါ။ ဒီတစ်ခါတည်း ဒီတစ်ခါတည်း။ ဘုရားစူး စေ့ ဒီတစ်ခါတည်း"ဟု ကစားဝိုင်းမှ ထလာပြီး တောင်းသော လေသံ မျက်နှာမျိုးအတိုင်း

"အမေရာ ငွေမျှော ငွေနဲ့လိုက်ရမှာမို့ပါ။ အမေ ငွေငါးကျပ် ပေးပါ။ ဒီတစ်ခါတည်း ဒီတစ်ခါတည်း။ ဘုရားစူးစေ့ ဒီတစ်ခါတည်း မေရာ"ဟုအပြီးသတ်တွင် အမေမှ ပီပီသသ မခေါ်တော့ဘဲ ခပ်ချွဲချွဲ နှဲ့တောင်းသည်မှာလည်း ချက်ကြီးနှင့် သူ့အဖေ ကိုဘိုးထော် တစ်ထေရာ တည်း။

မသွယ်ဟုခေါ်တာနှင့် အမေဟုခေါ်တာသာ ကွဲခြင်းဖြစ်သည်။ နောက်တစ်ခု ကျန်ဆစ်လက်ကောက်ကလေးကို တောင်းတာနှင့် ဘူးစင် က ဘူးသီးရောင်းထားသော ငွေငါးကျပ်တည်းကို တောင်းတာသာ ကွာခြားသည်။ ဒါကလည်း အခြေအနေလိုက်၍သာ ကွဲခြင်း ဖြစ်သည်။ ကိုဘိုးထော်လက်ထက်က အိမ်ကြီးရခိုင် ရွှေပိုင်၊ ငွေပိုင်ရှိသေးသည့်အတွက် ရွှေလက်ကောက်ကို သူ့အဖေတောင်းနိုင်သည်။ ယခုအချိန်မှာတော့ ခရမ်းသီးပိန်၊ ဘူးတုံး၊ ဘူးမနောက်ပိတ် ဈေးဖြစ်နေသောကြောင့် သူ့ခမျာမှာ သူ့အဖေ တောင်းသလောက်မှ မတောင်းနိုင်ရှာပေ။

အမေသွယ်ကမူ ကျန်ဆစ်လက်ကောက်ကလေး ရှိများရှိသေးရင် ချက်ကြီး ကျေနပ်သွားအောင် ပေးသာပေးလိုက်ချင်ပါသည်။

ဖအေထက်သာတာ ချက်ကြီးမှာ တစ်ခုရှိသည်။ ချက်ကြီးကား သူ့အဖေလို မိန်းမဘက်ကိုတော့ မလိုက်စား။ ယခု လူပျိုကြီးဖားဖား

အသက်နှစ်ဆယ်ကျော်၍ အစိတ်သုံးဆယ်ထဲ ရောက်ခဲ့ပြီ ရွတ်တီတွတ်ထိုး ကြမ်းပိုးလို နေချင်သာနေမည်။ မိန်းမဘက်ဆိုလျှင်တော့ ရည်းစားမှ မထားဖူးသေး။ ဒါကဖြင့် သူ့အဖေထက်ပင် ချစ်စရာကောင်း လှသည်။ သူသာ သူ့အဖေလို မိန်းမတွေနှင့် ရှုပ်ယှက်ခတ်နေမည်။ အိမ်ထောင်ရက် သား ပြုမည်ဆိုလျှင် အမေသွယ် ရင်ကွဲမလားမသိ။ သူ့မေတ္တာအတုံး အခဲကြီးကို မိန်းမတစ်ယောက် လက်ထဲ ဝကွက်၍ မအပ်လိုက်နိုင်ပါ။ ဆိုးခါမှဆိုး၊ တောခါမှတော လူပျိုကြီးဘဝနှင့် နေတာပဲ မောင်မင်းကြီးကို ကျေးဇူးအများကြီးတင်နေရသေးသည်။ အမေအနှစ်နှစ်ဆယ် အစိတ် သက်ဆိုးရှည်အောင် မွေးလာခဲ့ရပြီးမှ တစ်လ နှစ်လအတွင်း တွေ့ရသည့် မိန်းမနောက်သို့ ကောက်ကောက် ပါအောင် မအေကို ခြေစုံကန်၍ ပစ်သွားမှာ မမွတာမို့ အစိုးရိမ်ကြီး စိုးရိမ်နေသည့်အတွင်း ချက်ကြီးထံမှ 'မ'သတင်း မကြားရခြင်းက အမေသွယ်မှာ တစ်မီးအေးလှသည်။

"အင်း ငါ့သားကြီး ဘေးရန် ခပ်သိမ်းငြိမ်းအေးပါစေ မြန်မြန် လာပါစေတော့"

အမေသွယ်သည် သူ့ဘဝဖြစ်စဉ်၏ ပျော်ခန်းရွှင်ခန်း၊ ဆွေးခန်းတွေ စုံလို့ စေ့သွားသောကြောင့် ဖအေတူ သားကြီးကို တောင့်တ လိုက်သည်။

ကြက်ဦးတွန် အချိန်ကား ရောက်ခဲ့ပြီ။ ချက်ကြီးကား ပြန်မလာ နိုင်သေး။ မိုးကလည်း မတိတ်သေး။

"ဟယ် ဒီကောင်လေး ဒီနေ့ညမှ ကြာလိုက်တာနော်။ သာဒွေးတို့ အိမ်က ကြက်ဝိုင်းကောင်းနေပြန်ပြီလား။ နိုင်နေလို့သာ ဖွဲနပဲကြီးနေ ဟန်တူရဲ့။ ရှုံးလို့ကုန်ပြီး ဖြူခါပြာခါကျရင် ဒင်းပြန်ပြီး ပိုက်ဆံတောင်း တတ်သေးရဲ့။ အလို ဘာသံတွေပါလိမ့်။ ဓောင်ပိုင်းက ဆူညံ ဆူညံ ပါကလား"

အမေသွယ် အိပ်ရာထဲက ကြားလိုက်မိသလိုလိုဖြစ်သော လူသံများမှာ တိုး၍ ကျယ်လာသောကြောင့် အမေသွယ်သည် ခေါင်းနပန်းကြီးသွားကာအိပ်ရာမှ ဆတ်ခနဲ ထထိုင်လိုက်မိသည်။

"ချက်ကြီး၊ ချက်ကြီး မင်းပဲဖြစ်မှာပဲ။ ဖဲဝိုင်းမှာ ရန်ဖြစ်ပလား"

"လိုက်ဟ၊ လိုက်ဟ။ မြောက်ဘက်ကို ပြေးတယ်။ မြောက်ဘက်ကို ပြေးတယ်"

လူလေးငါးယောက် ပြိုင်အော်၍ ညာသံပေးကာ ပြေးလိုက်ကြသော အသံကို ဆက်၍ ကြားရပြန်လေပြီ။ မြောက်ဘက်ကို ဆိုသည်ကား အမေသွယ် နေနေသော အိမ်စုကို ဆိုလိုဟန်ရှိသည်။

"အင်း ချက်ကြီးများ လူရိုက်ပြေးလာပြန်ပလား။ တယ်ခက်တဲ့သားပဲနော်"

"ဟုတ်ပါပြီ ဟုတ်ပါပြီ။ ကသောကမျော ပြေးလာတဲ့ သူ့ခြေသံပဲ။ သူ့နောက်က လူတွေက လိုက်တုန်းပါလား"အမေသွယ်သည် အိပ်ရာထဲမှ ကမန်းကတန်းထကာ အိမ်တံခါးကို ဖွင့်ကြည့်လိုက်သည်။ မှောင်နှင့်မည်းမည်းထဲတွင် မသဲမကွဲပြေးလာသော သဏ္ဍာန်ကိုတွေ့ လိုက်ရသည်။ ထွက်ပြေးလာသူသည် ကမူးရှူးထိုးနှင့် အမေသွယ်၏ တဲအိမ်ငယ်ကိုပင် ကျော်ပြေးတော့မည် ရှိသဖြင့်

"ဟဲ့ လူလေး ဝင်ခဲ့၊ ဝင်ခဲ့ အမေ တံခါးဖွင့်ထားတယ်"ဟု ဖိတ်မန္တက ပြုလိုက်ရသည်။ ဒီတော့မှ ယောဟဲလိုက်နေသော သူငယ်သည် အမေသွယ်၏ တဲတွင်းသို့ စွပ်စွပ်ရွတ်ရွတ် ဝင်နိုင်ဖို့ သတိရရှာသည်။

"ဘာဖြစ်လာရပြန်တာလဲ သားရယ်။ မင့်နှယ်"ဟု မြည်တမ်းရင်း နောက်ကို လိုက်လာသူတွေ မရောက်လာခင် တံခါးကို ပြန်ပိတ်ပြီး သမင်လည်ပြန် ကြည့်လိုက်မိသောအခါ အမေသွယ်သည် ပါးစပ်ကြီးအဟောင်းသား အံ့အားသင့်သွားမိသည်။

"ဟဲ့ ဘယ်သူတုံး။ မင်းက ဘယ်သူတုံး"

လူငယ်က မောဟိုက်နေသည့်ကြားက အသနားခံသလို မျက်နှာကလေးငယ်စွာနှင့် နေပါဦး။ ကျွန်တော် ပြောပါ့မယ်ဟု ဆိုလိုသည့်အလား လက်တစ်ဖက်က ရင်ကို ဖိ၍ လက်တစ်ဖက်က အမေသွယ်ကို လက်ဝါး ကာပြထားသည်။

"မင်း ဒီရွာက ဟုတ်ပါဘူး။ ငါ မမြင်ဖူးဘူး ထင်တယ်"

လူငယ်သည် စကားမပြောနိုင်သေးသောကြောင့် ခေါင်းညိတ်ကာသာ ဝန်ခံနေသည်။ အရွယ်ကတော့ ချက်ကြီးတို့ အရွယ် ချက်ကြီးနှင့် မတိမ်းမယိမ်း လူရည်လူသွေးကတော့ မြို့ကြီးသားနှင့် သဏ္ဌာန်တူသည်။ ဝတ်ကောင်းစားလှနှင့် ရည်ရည်မွန်မွန် ရှိသည်။

"ကျွန် ကျွန် ကျွန်တော်ခရီးသွား ဧည့်သည် သည်ပါ ပါ။ ခင် ခင်ဗျာ"

"အေး အေး မောနေရင် စကားမပြောနဲ့ဦး။ ဟော ဟိုမှာ သောက်ရေအိုး ရေသောက်လိုက်ဦး။ နေဦး နေဦး အမောဖြေဦး။ မင်းတို့အရွယ်တွေ တယ်ခက်ကြသကိုး"

အမေသွယ်၏ စကားမှမဆုံးသေး။ လူစု လူဝေးတစ်စု အမေသွယ်အိမ်ရှေ့သို့ ရောက်လာသံကြားရသည်။ သူတို့အချင်းချင်း မျက်ခြည်ပြတ်သွားသော လူငယ်အကြောင်းသာ ပြောနေကြသည်။

"ဒီနားလောက်မှာ ပျောက်သွားတာကွာ"

"ဟုတ်တယ် ဟုတ်တယ်။ တစ်အိမ်အိမ်များ ဝင်ခိုနေမလား"

အမေသွယ်က သူငယ်ကို လှည့်ကြည့်လိုက်မိသည်။ လူငယ်၏ မျက်နှာမှာ ဆီးရွက်ကလေးလောက်သာ ရှိတော့သည်။ ရွှန်းစိုသော မျက်လုံးအစုံက ကတုန်ကယင် ဖြစ်နေသော သူ့ကိုယ်နှင့်အတူ

"အမေကြီးရယ် အမေကြီး သနားမှပါပဲဗျာ။ ကျွန်တော့အသက် အမေကြီး လက်ထဲမှာ ဖြစ်နေပါပြီ"ဟု အသနားခံနေသလို မြင်ရလေရာ အမေသွယ်သည် သားချင်းစာ၍ ကရုဏာအကြီးအကျယ် ဖြစ်လိုက်ရသည်။ သူ့သား ချက်ကြီး ပထမဦးဆုံး လူရိုက်ပြီး ပြေးလာခဲ့တုန်းက ဤကဲ့သို့မျက်နှာထား၊ ဤကဲ့သို့ ကတုန်ကယင်၊ ဤကဲ့သို့ပင် မျက်ကလဲဆန်ပျာ ဖြစ်နေရှာသည်ကို ပြေးမြင်မိတော့သည်။

လမ်းပေါ်က လူသိုက်မှာ လက်နှိပ်ဓာတ်မီးများနှင့် အိမ်ကြိုအိမ်ကြားတွေ လိုက်ရှာကြဆဲပင် ဖြစ်သည်။ တစ်ခါတစ်ရံ သူတို့ ထိုးလိုက်သော ဓာတ်မီးရောင်သည် အမေသွယ်၏ တဲငယ် ကွက်တိကွက်ကျားအပေါက်ကလေးများက ဝင်းခနဲ လင်းခနဲ ထိုးဝင်လာသေးသည်။

"ကဲဟေ့ အမေသွယ်ကို နှိုးကြမလား"

လူတစ်ယောက်က သံတိုင်လိုက်သည်။

အိမ်ထဲက ဧည့်သည်ကလေးမှာ ကြောက်လန့်တကြား ခေါင်းပုဝင်သွားသည်။

အမေသွယ်ကတော့ ဘာမှမကြောက်နှင့် တိတ်တိတ်နေဟု အရိပ်အကဲ ပြလိုက်သည်။

"ဟေ့ကောင်တွေ၊ အမယ်ကြီးနှိုးကြပါဦး။ မနှိုးဘူးလား"

"သူ့သား တစ်ယောက်လုံး အသတ်ခံရတာ နှိုးမပြောလို့ ဘယ်ဖြစ်မတုံးကွ"

"ဗျို့ အမေသွယ် အမေသွယ်"

အမေသွယ်မှာ မထူးလို၍ မထူးလိုက်သည် မဟုတ်။ ထူးရမည်ကိုပင် မေ့သွားသောကြောင့် ဖြစ်သည်။ သူကြားလိုက်ရသောနားကို သူ မယုံရခက်၊ ယုံရခက်။ သူ့သားတစ်ယောက်လုံး အသတ်ခံရတာဆိုသောစကားမှာ ထပ်တလဲလဲ ကြားနေရသလို ရှိနေသည်။

ညွှဲ့သည်ကလေး ကြည့်လိုက်ရာ ထိုညွှဲ့သည်၏ မျက်နှာမှာ သေခါနီး လူမမာများ ဖြူဖပ်ဖြူရော်နှင့် မျက်လုံးကြီး ကြောင်နေသလို ကြောင်တက်တက်ကြီး ဖြစ်နေတော့သည်။ တစ်ခဏချင်း ဆွံ့အသွား သကဲ့သို့ ပါးစပ်အဟောင်းသားကို ပြန်၍မစေ့နိုင်။ ထိုအခိုက် အိမ်နီးချင်း ကိုသာဖေက ဆူဆူညံညံ ကြား၍ နီးလာသလို

"ဟေ့ကောင်တွေ ဘာဖြစ်ကြတာလဲကွ။ ဆူလို့ ညံလို့"ဟု ထ မေးရာ

"ဩော် ဦးလေး သာဖေလား။ ချက်ကြီးပေါ့ဗျာ။ ချက်ကြီး လူ သတ်ခံရလို့"

"ဟင်" အမေသွယ်သည် လမ်းပေါ်က ဆက်ပြောနေကြသည်ကိုပင် မကြားလိုတော့ပေ။

"ဘယ်သူက သတ်သွားတာလဲကွ"

"လက်သည် မမိလိုက်ဘူး ဦးလေးသာဖေရဲ့။ ဘယ်သူမှန်းလဲမသိဘူး။ ဒီဘက် ထွက်ပြေးလို့ ကျုပ်တို့ လိုက်တာ ဒီနေရာတွင် မျက်ခြည်ပြတ်သွား တယ်"

"ဖြစ်မှဖြစ်ရလေကွယ်။ မင်းတို့ကလဲ ဘယ်သူမှန်းမှ မသိလိုက် ရအောင် ဘယ်မှာ ဖြစ်ကြတာမို့တုံး"

"လမ်းမှာ ဦးလေးသာဖေရဲ့။ လမ်းမှာ ဒီကောင်ကိုကလဲ ဂြိုဟ်မွေ တာပါ။ ကစားဝိုင်းမှာရှုံးလို့ ဓားမြှောင်တစ်လက်နဲ့ ဟိုလူ့ဆီ ငွေချေး၊ ဒီလူ့ဆီ ငွေချေး လုပ်နေတာ ကျုပ်တို့က ချော့လွှတ်လိုက်လို့ အပြန် လမ်းမှာ ဘယ်သူနဲ့တွေ့တယ် မသိပါဘူး။ သူကပဲ လုသလား။ ရိုးရိုး ပဲ ရန်ဖြစ်သလား မဆိုနိုင်ဘူး။ ကယ်တော်မူကြပါဗျို့"ဆိုတဲ့ လူစိမ်း တစ်ယောက် အသံကြားလိုက်ရတာပဲ။ နောက်ပြီး သွေးလုံးရစ်ပတ်

သတ်နေကြတာနဲ့ တူပါရဲ့။ ကျုပ်တို့ ကစားဝိုင်းက ထလိုက်တော့ သူ့ဓားနဲ့ သူ့ပြန်ထိုးသွားတာပဲ”

ဤသို့ မေးသူကမေး၊ ဖြေသူက ဖြေနေစဉ် သူစိမ်းယောကျ်ားပျိုကား သားကို သတ်ခဲ့၍ သူ့မိခင်အမယ်အိုထံ ဝင်ပုန်းနေမိသောအဖြစ်ကို စဉ်းစားမိတော့သည်။

သားမိုက် မိခင်အမယ်အိုကြီးကို မြင်ရသည်မှာ ရင်ထုမနာဖြစ်စရာ ကောင်းလှသည်။ အိုကြီးအိုမနှင့် မျက်ရည်တွေ ကျကာ တစ်ခဏချင်း ရူးသွားတော့မလို ထင်ရသည်။

“ကဲ အမေကြီး သဘောကျသလိုသာ လုပ်တော့။ အမေကြီးသားနဲ့ ကျွန်တော်နဲ့ ရန်စရှိကြတာလဲ မဟုတ်ဘူး။ ဒီနေ့ ကျွန်တော့ရည်းစားကို တိတ်တိတ်လာခိုးတာ လမ်းမှာသူနဲ့တွေ့ပြီး ဒွေလုလို့ လုပ်မိလုပ်ရာ လုပ်ခဲ့မိတာပဲ။ ဒါပေမဲ့ ဘာပဲဖြစ်ဖြစ် အပြစ်ကတော့ ရှိနေပြီ”

အမေသွယ်သည် ရက်စက်သော လူသတ်သမား ကိုယ့်သား၏ လက်သည်ကို အမိဖမ်းထားပြီးသား ရှိလေပြီ။ ကိုဘိုးထော် သေတုန်းက လက်သည်ကိုတော့ မမိ၍ မသိ၍ နှစ်အစိတ်၊ သုံးဆယ်သာကြာရော လှလှဝဝကြီး လက်စားမချေရ။ အခုတော့ ကိုဘိုးထော်၏သား၊ တစ်ဦးတည်းသောသား ရင်သွေးအား သက်တမ်းစေ့ မနေရအောင် ဖိဝိတိခြွေခြွေလိုက်သူကို လက်ဝယ်ရပြီးသား ဖြစ်သည်။

ထိုအပြောအဆိုအတွေးအခေါ်တို့မှာ စာနှင့်ရေးပြလျှင်သာ ကြာမည် ထင်သည်။ အချိန်ကတော့ တစ်ခုယုတ် ကိုးဆယ်သောစိတ်၏ တစ်ခဏမျှသာ ဖြစ်သည်။

ထိုအခိုက် ရွာဦးကျောင်းမှ အုန်းမောင်းခေါက်လိုက်သည်။

“ဗျို့ အမေသွယ် အမေသွယ်”ဟု ဒီတစ်ခါတော့ အိမ်ပေါ်တက် တံခါးခေါက်နိုးကြ၏။

"ဟော"

"ထပါဦး အမကြီးသား လူအသတ်ခံရလို့"

အမေသွယ်က တံခါးထဖွင့်လိုက်တော့မည်ရှိရာ လူစိမ်းကလေးသည် အိမ်ကလေးအတွင်းဘက် ခပ်ကျကျရှိနေရာမှ အမေသွယ်နှင့်အတူ ထွက်လိုက်တော့မလို တံခါးနား ကပ်လာခဲ့သည်။

အမေသွယ်သည် မျက်ရည်လည်ရွဲနှင့် သူငယ်ကလေးအား နောက်သို့ တွန်းပစ်လိုက်ပြီး တုန်တုန်ယင်ယင်နှင့် သူ့အိပ်ရာထဲ လက်ညှိုးညွှန်ပြလိုက်သည်။ ထို့နောက် မိုးရွာထဲ ထီးမပါ၊ ဓောင်မပါ လူစုတွေနှင့် အတူ တကုပ်ကုပ် လိုက်သွားရှာသည်။ လမ်းတစ်လျှောက်လုံးတွင် အမေသွယ်မှာ သားနှင့်ပတ်သက်၍ ဘာစကားမှလည်း မပြော။ ဘာတစ်ခွန်းမှလည်း မမေး။ ဘုန်းကြီးကျောင်းက အုန်းမောင်းနှင့်အတူ

"သဗ္ဗေသတ္တာ အဝေရာဟောန္တု။

အဗျာပဇ္ဇာဟောန္တု။

အနီဃာဟောန္တု။

သုခီအတ္တာနံ ပရိဟရန္တု။

ဒုက္ခာမုစ္စန္တု။

ယထာလဒ္ဓသမ္ပတ္တိတော၊

မာဝိဂစ္ဆန္တု၊ ကမ္မဿကာ"ဟူ၍သာ တတွတ်တွတ် ရွတ်ဆိုလိုက်ပါတော့သတည်း။

[ရှုမဝ ၁၉၅၂ နိုဝင်ဘာ]

# မီးဖိုထဲက ကျောင်ဂလွှမ်

စာရေးကြီး ကိုဘဂျမ်း
လူပျိုကြီး ကိုဘဂျမ်း
လူပေါကြီး ကိုဘဂျမ်း
သုံးမည်ရ သုံးဘွဲ့ခံ ကိုဘဂျမ်းပေတကား။

မြန်မာနိုင်ငံ စာရင်းစစ်မင်းကြီးရုံးတွင် ဝင်ရောက်အမှုထမ်းလာခဲ့သည်မှာ ကျောင်းကထွက်ထွက်ချင်း ဖြစ်သည်။ ကာလတောင်တာအားဖြင့် အနှစ်နှစ်ဆယ်နီးပါးခန့် ကြာမြင့်လှပြီဖြစ်သည်။ လုပ်သက်လည်းရင့်လှပြီ။ လခလည်း မြင့်လှပြီ။ တာဝန်ဝတ္တရားတွေကိုလည်း ကျွမ်းကျင်ပိုင်နိုင်၊ ပယ်ပယ်နယ်နယ် ကိုင်နိုင်သည်။ အသက်အားဖြင့် ကြည့်ပါဦး။ မနှစ်ကပင် လေးဆယ်တင်းတင်း ပြည့်ခဲ့ပြီ။

မျက်နှာဝိုင်းဝိုင်း၊ ဆံပင်ပါးပါး၊ အသားဖြူဖြူ၊ နှာတံနုတ်ခမ်းမျက်စိမျက်ဝန်းများက ယောကျ်ားပီသသည် ဟု ဆိုရမည်ထက် ကြည်ကြည်လင်လင် ရွှင်ရွှင်ချိုချို ရှိလှသောကြောင့် ခင်မင်ရင်းနှီးစရာရှိလှသည်။ သူနှင့် စကားပြောနေရလျှင် စိတ်ချမ်းသာသည်ဟု သူ့အပေါင်းအသင်းများက ဆိုကြသည်။ တကယ်ဆိုတော့ ကိုဘဂျမ်းသည် စကားများများပြောတတ်သူ မဟုတ်၊ သူများ ရွှန်းရွှန်းဝေအောင်ပြောနေလျှင် သူကိုယ်တိုင်က ပြုံးပြုံးကြီး မလှုပ်တလှုပ် နားထောင်ပြီး ခေါင်းကြီးတညိတ်ညိတ်နှင့်

ထောက်ခံနေတတ်ရုံသာ ရှိသည်။ သူတစ်ပါးအား အကြောက်အကန် ငြင်းဆန်ခုခံလေ့ မရှိ၊ သူ့ကို ဘာပြော ပြော။

"အင်း အင်း ဟုတ်တာပေါ့"

"ဩော် ဟုတ်မှာပေါ့လေ"

"ဒီလိုတော့လဲ ဟုတ်ပေသားပဲ"

"အား ဒါတော့ဖြစ်နိုင်သဗျို့"

သို့ကလိုသာ ခေါင်းတညိတ်ညိတ် လည်တညိတ်ညိတ်နှင့် ပြန်ဖြေတတ်သည်။ အသောက်အစားဟူ၍လည်း ဆေးလိပ် စီးကရက်မှ မသောက်။

သို့သော် ဤအရွယ်ကြီးအထိ မိန်းမ မယူသေးခြင်းက အတော်ဆန်းသည်။ သူ့ရုပ် သူ့ရည်၊ သူ့အလုပ် သူ့အကိုင်၊ သူ့သဘော သူ့အကျင့်စာရိတ္တတို့မှာ မိန်းကလေးတွေ၏ စုံမက်စရာ၊ သမီးရှင်များ၏ နှစ်သက်စရာ အချစ်သမက် ဖမ်းဖို့သာ ကောင်းတော့သည်။

"ကိုဘဂျမ်းကြီး ခုထက်ထိ မိန်းမ မရသေးဘူးလား"

"အေးဗျာ ဟဲ ဟဲ"

"ခင်ဗျားက ကြိုက်တာ မတွေ့သေးလို့လား"

"အေးဗျာ ဟဲ ဟဲ"

"ခင်ဗျားတော့ တစ်သက်လုံးပျင်းတီပျင်းတွဲ သေသွားရမှာ ထင်ပါရဲ့ဗျာ"

"အေးဗျာ ဟဲ ဟဲ"

သူ့ကို ဘာပြောလိုက် ပြောလိုက် မိန်းမအကြောင်းနှင့်ပတ်သက်၍ မေးလိုက်လျှင် "အေးဗျာ၊ ဟဲ ဟဲ"နှင့်သာ ပါးစပ်ကြီးဖြဲ ရယ်နေတတ်သည်။

အသက်ကြီးလာပြီဖြစ်သဖြင့် လည်းကောင်း၊ သူ၏ငယ်ပေါင်း သူငယ်ချင်း စသည်တို့နှင့် တွေ့ကြုံဆက်ဆံရသည်ထက် နောက်မှ ပေါင်းသင်းခင်မင်သူတို့သာ ရှိတတ်လေရာ သူ့အကြောင်းဇာစ်မြစ်ကို တကယ်သိသူများသည်ထက်ရှားခဲ့သည်။ မြေလတ်သားတစ်ယောက် ဖြစ်၍ နီးစပ်လှသော ဆွေမျိုးမိဘများ မရှိကြောင်းနှင့် ယခုထက်တိုင် ပျော်ရာမှာနေသည့် လူပျိုကြီးသဘောကောင်းစသည်တို့သာ "နောက်ပေါင်း" များက သိကြရသည်။ ဤအထဲက ထူးထူးခြားခြားဆိုရလျှင် မိန်းမရှိသူတွေကို ကိုဘဂျမ်းက ခင်မင်ပွန်းတီးလွန်းစွာ မပေါင်းခြင်းဖြစ်၍ လူပျိုလူရွယ် တစ်ခုလပ် အိမ်ထောင်ပျက် မုဆိုးဖို စသော ကိုယ်လွတ်လက် လွတ် သမားများနှင့်သာ စိတ်ပါလက်ပါ ဝင်ထွက်သွားလာ၍ နေတတ် သည်။

အကယ်၍ သူခင်မင်ပေါင်းသင်းနေသော လူလွတ်တစ်ယောက် မိန်းမရပြီဆိုလျှင်ကား ကိုဘဂျမ်းသည် တဖြည်းဖြည်း တစ်စစနှင့် ခပ်ဖယ်ဖယ် ခပ်တိမ်းတိမ်း ခပ်စိမ်းစိမ်း ဖြစ်သွားလေ့ ရှိသည်။

"ကိုဘဂျမ်း၊ ကျွန်တော့အိမ် ထမင်းစား လိုက်ခဲ့ပါဗျာ၊ ခင်ဗျားကို ကျွန်တော် ကျွေးမွေးချင်လွန်းလို့ပါ၊ ကျွန်တော့မိန်းမ အင်မတန်သဘော ကောင်းပါတယ်၊ အချက်အပြုတ်လဲ သိပ်တော်ပါတယ်။ ခင်ဗျားနဲ့ ခင်မင်တဲ့အကြောင်းပြောလို့ သူကပါ ကျွေးချင်နေတာပါနော်၊ ဒီတစ်ခါ တော့ လိုက်ခဲ့ပါဗျာ"ဟု ဖိတ်မန္တကပြုသည့်အခါ ရှက်ကြောက်အားနာ မျက်နှာကြီး ပြုံးပြုံးဖြင့် အမြဲလွတ်အောင် ခွင့်တောင်းငြင်းရှောင်လေ့ ရှိသည်မှာ ပေါကြောင်ကြောင်လိုလို ထင်ရသည်။

သို့တဖြင့်မူ ဤသို့ဆိုယခေါ် မိန်းမသူတွေကို မုန်း၍လော၊ ထိုသို့ သဘောလည်း ဟုတ်ဟန်မရှိ၊ သူ့ရုံးက စာရေးမတွေ၊ ရုံးအုပ်အရာရှိ (မိန်းမအရာရှိ)ရပ်သိမိတ်ဆွေ မိန်းကလေးတွေနှင့်လည်း ပြေပြေပြစ်ပြစ်

ဆက်ဆံတတ်ပါသေးသည်။ သူတို့ကလည်း ကိုဘဂျမ်းကို ခင်ကြသည်။ ကိုဘဂျမ်းကလည်း နှုတ်လေးပါးလေးနှင့် တစ်ခွန်းတလေ အရွှန်းတွေပင် ဖောက်တတ်ပါသေးသည်။ ဒါတွေမှာလည်း စောစောက ပြောခဲ့ရေးခဲ့သလို အပျို၊ အပျိုကြီး၊ တစ်ခုလပ် စသည့် လွတ်လပ်သူတွေနှင့် ရောရောဝင်ဝင်၊ ရဲရဲဝံ့ဝံ့နေလေ့ရှိရုံသာဖြစ်၍ သူတို့တစ်တွေထဲက တစ်ယောက်ပြီး တစ်ယောက် အိမ်ထောင်ရက်သားကျကျသွားကြပြန်တော့လည်း ကို ဘဂျမ်းသည် ရှောင်ဖယ်ရှောင်ဖယ် ခပ်ကွယ်ကွယ် လုပ်ပြန်ပါလေတော့ သည်။ ထို့ကြောင့်ပင်လျှင် သူ့အား

စာရေးကြီး ကိုဘဂျမ်း။

လူပျိုကြီး ကိုဘဂျမ်း။

လူပေါကြီး ကိုဘဂျမ်းဟု လှောင်ကြ၊ စနဲ့ကြစေကာမူ သူကတော့ စိတ်မဆိုး။ "အေးဗျာ ဟဲ ဟဲ"နှင့်သာစကားလက်စသတ်သွား စေသည်။

*

အံ့ကာလေ တပွဲပွဲ၊ ရွာလေ တသဲသဲ ဆိုရမလောက်သော ရန်ကုန်မိုးသည် နံနက်ကတည်းက 'ဖွဲ'လိုက်၊ 'သဲ'လိုက်နှင့်မစဲတမ်း အရှိန်တိုက်နေသည်မှာ ညကိုးနာရီအထိပင် ရှိခဲ့ပြီ။

နဂိုကမှ မော်တော်ကားနှင့်လူသွားလူလာ အဖြတ်အသန်း နည်းလှ သော စမ်းချောင်း ဦးရွှေဥမ်းလမ်းကျဉ်းကလေး၌ဆိုလျှင် မိုးသံကလွဲပြီး ဘာသံမှ မကြားရ၊ တိတ်တိတ်ဆိတ်ဆိတ် ကိုယ့်အိမ်တံခါး ကိုယ်ပိတ်၍ အိပ်နေကြသော အိမ်များသာ ရှိသည်။ ရေဒီယိုသံသော်မှ မြန်မာပိုင်း ပြီးလျှင် စက်ပိတ်လိုက်ကြလေသည်။

လမ်းအလယ်ပိုင်းလောက်က ပျဉ်ထောင်အိမ်ကလေး တစ်အိမ်သာ တံခါးမပိတ်သေးဘဲ ဓာတ်မီးချောင်းမီးရောင်က မိုးရေရွှဲနေသည့် လမ်း ပေါ်ကို ဝင်းဝင်းထိန်နေစေသည်။ ၎င်းကား ကိုဘဂျမ်း၏ ဘုံဗိမာန်

ကလေးဖြစ်၏။ စင်စစ်ပြောရသော် ကိုဘဂျမ်း မှီတင်းနေရာကို ကိုဘဂျမ်းတို့၏ လူမျိုးဆောင်ဟု ခေါ်မှ လျော်ကန်ပေလိမ့်မည်။ အဘယ်ကြောင့်ဟုမူ သူတစ်ယောက် တစ်ဦးတည်း ယခုလို အိမ်တစ်ဆောင် မီးတစ်ပြောင်နှင့်နေနိုင်သော်လည်း သူငယ်ချင်းအပေါင်းအသင်းများနှင့် ပျော်ပျော်ပါးပါးနေလိုသောကြောင့် သူနှင့် တစ်ရုံးတည်း စာရေး ကိုညွန့်လှိုင်ဆိုသူအပြင် ၎င်းကိုညွန့်လှိုင်၏ညီ တက္ကသိုလ်ကျောင်းသား မောင်ညွန့်တင်တို့ကို ခေါ်၍ သုံးဦးစပ် ငှားရမ်းနေထိုင်သော ဘူမိနက်သန်ကလေးသာဖြစ်တော့သည်တမုံ့။

ကိုညွန့်လှိုင်က သူ့ထက်အလုပ်သက်ရော၊ လူသက်ပါ ဆယ်နှစ်လောက်ငယ်၍ ဤကိုဘဂျမ်းအား အစ်ကိုကြီးဟု လေးစား ခင်တွယ်စွာခေါ်ငင်ရသလို မောင်ညွန့်တင်ကတော့ သူ့အသက်အရွယ်နှင့် ဦးလေးဟုပင် ခေါ်ပြောဆက်ဆံရသည်။ စိတ်ရင်းတွေကလည်း တစ်ဦးကိုတစ်ဦး တွယ်တာ ကြင်နာကြသည်။

တစ်ရပ်ကွက်လုံး ဆိတ်ငြိမ်နေသလို သူတို့သုံးယောက်စလုံးလည်း မအိပ်ကြသေးဘဲနှင့် တိတ်ဆိတ်နေကြသည်။ ကျောင်းသားမောင်ညွန့်တင်က စာရေးစားပွဲတွင် စာကြည့်နေသည်။ ကိုညွန့်လှိုင်က မဂ္ဂဇင်းတစ်အုပ်ကို စူးစူးစိုက်စိုက် ဖတ်လျက်၊ ပက်လက်ကုလားထိုင်ပေါ်မှ ကိုဘဂျမ်းမှာသာ စာလည်းမဖတ်၊ ပါးစပ်ကလည်းမလှုပ်၊ တံစက်မြိတ်က တဖြောက်ဖြောက်နှင့်အဆက်မပြတ် စက်သေနတ်ပစ်နေသော မိုးပေါက်သံတွေကိုအာရုံပြု၍ တစ်ခုခုကို ပက်လက်လှန်ပြီး စဉ်းစားနေဟန် ရှိလေသည်။

သို့ကလို တစ်ရပ်ကွက်လုံး သူတို့တစ်အိမ်လုံးငြိမ်နေကြဆဲ၊ မီးဖိုဆောင်ထဲက ဂျောင်ဂလွမ်ဟူသော အသံက ရုတ်တရက် နှိုးလိုက်သောကြောင့် သုံးဦးစလုံးအချက်ပေးထားသလို ဆတ်ခနဲ ပြိုင်တူ အသံလာရာ

ဘက်သို့ မျက်နှာ တူရူပြုလိုက်မိကြသည်။ နောက်မှ ချက်ချင်းဆက်၍ ကိုညွန့်လှိုင်က

"ဟာ ဘာလဲဟ"ဟု လန့်၍ အပြော

"ပန်းကန်တွေ ကွဲကုန်ပြီ"ဟု မောင်ညွန့်တင်က ပြန်အဖြေနှင့် အတူ သူတို့နှစ်ယောက် ထမည်အပြုတွင်မှ ကိုဘဂျမ်းက ထတဲ့၍

"နေကြပါကွာ၊ ငါသွားကြည့်ပါမယ်"ဟု ပြောပြောဆိုဆို ပေါ့ပေါ့ ပါးပါး ဝင်သွားခြင်းကြောင့် စာဖတ်သူနှင့် စာကြည့်သူတို့ မိုလ်နေမြဲ၊ ကျားနေမြဲ ဖင်မြဲနေကြရတော့သည်။

မီးဖိုထဲက အသံစလိုက်မှ သူတို့အိမ်ကလေးမှာ အသက်ဝင်လာ တော့သလို မေးသံပြောသံလှုပ်ရှားသံတွေ ဆက်တိုက်ပေါ်ခဲ့ရသည်။ ယခုလည်း ကိုဘဂျမ်း၏ မီးခလုတ်ဖွင့်ကာ ညောင်ဟူသော ကြောင် အော်သံ၊ ထိုကြောင်ကို မောင်းလိုက်၍ ထွက်ပြေးသံ၊ ပြီးသည့်နောက်မှ ပန်းကန်ကွဲ ကောက်သံ၊ ပန်းကန်တွေ ပြန်ထားသံတွေ၌ တစ်ဆက် တည်း ကိုဘဂျမ်း ပြန်ထွက်လာခဲ့လေသည်။

"ကွဲကုန်ရောလား အစ်ကိုကြီး"

"အေးကွာ လက်ဖက်ရည် ပန်းကန်နှစ်ချပ်"

"ဟိုဘက်အိမ်က ကြောင်ကြီးဦးလေးရ"

"အေးပေါ့ကွာ ဟဲ ဟဲ"

ခဏကလေးလောက် တိတ်သွားကြပြန်သည်။ ၎င်းနောက်မှာကား "ဟဲ ဟဲ"ဟု ကိုဘဂျမ်း တစ်ယောက်တည်း အရင်းမရှိ အဖျားမရှိ ငုံးတိတိကြီး ထပ်ဆင့်၍ ရယ်လိုက်သောကြောင့် ကိုညွန့်လှိုင်က မော့ ကြည့်ကာ

"ဘာများသဘောကျနေတာလဲ အစ်ကိုကြီး"

"ဩော် ဟော် ဟော် စဉ်းစားမိသကွာ။ အခုလို မိုးတဖြောက် ဖြောက်နဲ့ မီးဖိုထဲက 'ဂျောင်ဂလွမ်'ဆိုတဲ့အသံနဲ့"

သူ့စကားကို အဆုံးမသတ်ဘဲ ဖြုန်းခနဲ ဖြတ်ထားလိုက်သဖြင့်

"ဘာများဆက်စပ်မိလို့လဲ၊ ပြောစမ်းပါဦးလေးရ"ဟု မောင်ညွန့်တင်က သူ့စာကို သူအကြည့်ရပ်၍ သမင်လည်ပြန် လှည့်မေးလိုက်သလို ကိုညွန့်လှိုင်ကလည်း သဘောတူ မေးခွန်းကဲ့သို့ အမူအရာ ပြလိုက်ရာ

"ငါ ဒီအသံနှစ်ခုကြောင့် တစ်သက်လုံး မိန်းမ မယူတော့ပါဘူးလို့ သန္နိဋ္ဌာန်ချခဲ့မိတာပေါ့ မောင်ညွန့်လှိုင်ရ"

"ဟောဗျာ အစ်ကိုကြီးဟာက အဆန်းပဲ၊ ပြောပဲပြောစမ်းပါဦး နားထောင်ရအောင်"

"ဟုတ်တယ်ဦးလေး၊ ပြောစမ်းပါ၊ ကျွန်တော်ကြားချင်လာပြီ"ဟု ပြောပြောဆိုဆို မောင်ညွန့်တင်က စားပွဲမှထ၍ ကိုဘဂျမ်းနှင့် နီးကပ်အောင် ကြိမ်ကုလားထိုင်ပေါ်သို့ လာထိုင်လေသည်။

"ဟဲ ဟဲ ပြောရမှာက အရှည်ကြီး"

"ရှည်ပါစေ ဦးလေးရာ၊ တစ်ညလုံး နားထောင်ရ နားထောင်ရ"

"ဟုတ်တယ် အစ်ကိုကြီး၊ ဒီအသက်ထိ မိန်းမ မယူတာ အံ့သြလွန်းလို့"

"အကြောင်းကတော့ စိတ်မကောင်းစရာနဲ့ ရှက်စရာလိုလို ပေါ့ကွာ၊ ငါနဲ့ အခုဝန်ထောက်ဖြစ်နေတဲ့ မောင်ဘလှ ဆိုတာနဲ့ဟာ တစ်မြို့တည်းသား တစ်ကျောင်းတည်းကို တစ်နှစ်တည်းရောက် တစ်နှစ်တည်းအောင် အဲသည်လို အချစ်ဆုံး အတွဲဆုံး တွဲခဲ့ကြတာမို့ တို့နှစ်ယောက်စလုံးကို "ဘလှဂျမ်း"လို့တောင် နာမည်ပါ တွဲခေါ်ကြသကွ၊ ဟဲ ဟဲ"

"သူက ငါ့ကိုတကယ်ခင်ပြီး တွယ်တာသလို ငါကလဲ ဒီအတိုင်းပဲ၊ ကျောင်းကထွက်ပြီး အလုပ်လုပ်ကြတော့တောင် တစ်ရုံးတည်း လျှောက်

ကြသေးသကွာ၊ ဒါပေမဲ့ မရဘူးဟေ့၊ ငါက စာရင်းစစ်ရုံးရောက်၊ သူက အမြတ်တော်ကြေးရုံးရောက် အလုပ်ချင်း ကွဲသွားကြရတယ်”

“ဒါတောင် ရေကျော်မှာ တစ်ခန်းတည်းငှားအတူနေ ထမင်းအတူတူ ဝယ်စား၊ အလုပ်အတူသွား အတူပြန် ရုပ်ရှင်အတူကြည့်၊ သူငယ်ချင်းဟာ ညီအစ်ကို ကျနေတာပါပဲ။ ဒါဟာ လွန်ခဲ့တဲ့ ဆယ်နှစ်လောက်ကပေါ့ကွာ၊ အဲသည်လိုနေကြရာက အခုတော့ တဖြည်းဖြည်း ခပ်တန်းတန်း ခပ်စိမ်းစိမ်းဖြစ်သွားကြတာကို ဟိုတုန်းက အပေါင်းအသင်းတိုင်းက အံ့ဩကုန်ကြတယ်၊ ငါလဲ ဒီအထိ စိတ်မကောင်းပါဘူးကွာ၊ တကယ် ထိခိုက်ရက်ပါပဲ”

“ဆက်ပြောရဦးမယ်၊ တစ်နေ့ ညနေကျတော့ သူက ငါ့ကိုပြောတယ်”

“ငါတော့ မိန်းမယူတော့မယ်ကွာ”တဲ့။

“ဟင်”

“ငါလဲ ငါပဲ ပါးစပ်က ထွက်သွားမိတယ်။ ငါ့နားထဲမှာ ထောင့်သွားသလိုကြီးပဲ၊ ငါကတော့ တကယ်ပဲကွ။ တို့နှစ်ယောက် ပျော်ပျော်ပါးပါး နေသွားတဲ့ကြားထဲမှာ မိန်းမဝင်လာတာကို မနှစ်မြို့ဘူး၊ မနာလိုဘူး၊ မရှုစိမ့်ဘူးပေါ့ကွာ။ ဒါဟာ ငါ သူ့ကို ချစ်လွန်းလို့ပဲကွ။ ငါကတော့ ငါလဲ မယူဘူးလို့ သန္နိဋ္ဌာန်ချထားတာကိုး။

“မိန်းမဆိုတာ မင်းတို့ စဉ်းစားကြည့်၊ သက်သက်စီးပိုးလာတဲ့ သတ္တဝါအမျိုးအစားကွ၊ လင်နဲ့မယားရယ်လို့ ဖြစ်လာရင် ချစ်ပါတယ်၊ ခင်ပါတယ်၊ ကြင်နာပါတယ်ဆိုတာတွေဟာ အလကား သွေးသားသောင်းကျန်းရာက စဖြစ်ပေါ်လာတဲ့ အခြေခံဖောက်ပြန်မှုသဘောတရားကလေးတွေပါကွာ။ တကယ့်တကယ် သွေးထဲသားထဲက စဖြစ်လာတာ မဟုတ်ပါဘူး။ ကြိုက်ရာကမှ စဖြစ်လာတာပါ၊ ငါပြောတာ မင်းတို့

နားလည်လားဟင်၊ နားလည်ကြရဲ့လား၊ နောက်တစ်နည်း ဝါပြောဦးမယ်၊ မိန်းမနဲ့ ယောကျ်ား ချစ်ကြတယ်ဆိုတာ သူစိမ်းမှ ချစ်နိုင်ကြတာကြည့်ပါ၊ ဒါဟာ မွန်မြတ်သန့်ရှင်းခြင်း မရှိလို့ တစ်မိသားနဲ့ တစ်မိသားကျမှ ဖြစ်လာကြရတာပေါ့၊ စလောကတည်းက ဝေးလာကြတဲ့ အာရုံတို့ စေတနာတို့ကို ဆန်းစစ်ကြည့်စမ်း။

"ယောကျ်ားတွေကလဲ မိန်းကလေးတစ်ယောက်ကို နမ်းချင်တယ်၊ ရှုပ်ချင်တယ်၊ ပွေ့ချင်ဖက်ချင် ဖျစ်ညှစ်ချင်တယ်။ အဲ အဲသည့်နောက်ပိုင်းကျတော့မှ တစ်ခါ ကိုယ်နှင့်မစွာ ကိုယ့်ကို အမြဲပြုစုလုပ်ကျွေး ယုယုယယ ခစားလာစေချင်လာတယ်။ စားမှုဝတ်မှု၊ နေမှုထိုင်မှု၊ လူ့တာဝန်တွေကို မယားအပြုနိုင်းပြီး ကိုယ်က ဇိမ်ခံချင်တယ်။ သခင်လို အသက်သာ နိုနေချင်တယ်။ သူများကို အုပ်စိုးကြီးကဲချင်တယ်။ အဲဒါ ယောကျ်ားတွေရဲ့နောက်ဆက်တွဲ မင်းမူချင်တဲ့စိတ်။

"ကဲ မိန်းမဘက်က ပြန်ကြည့်ကြဦးစို့၊ သူလဲ ဘာလဲ၊ သူလဲ လူပဲ။ ရှေ့ပိုင်းကတော့ အခုနပြောခဲ့သလို အနမ်း အရှုပ်ခံချင်တယ်၊ နွဲ့ချင်တယ်၊ မူချင်တယ်၊ ငိုချင်တယ်၊ အချော့ခံချင်တယ်၊ အပွေ့အဖက် အဖျစ် အညှစ်ခံချင်တယ်၊ ကိုယ်ကလဲ ပြန်လက်စားချေချင်တယ်၊ ဟဲ ဟဲ ဒါတွေကတော့ အတူတူထားပါတော့၊ အဲ နောက်ပိုင်းကျတော့ မှ ကိုယ့်ဝမ်းစာ ကိုယ်အပင်ပန်းခံရှာရတဲ့အစား နိုင်းစားရမယ့် ကျွန်ကောင်း တစ်ယောက် လိုချင်တယ်။ ကိုယ့်ကို ကာကွယ်စောင့်ရှောက် ပေးမယ့် သက်တော်စောင့် ဒရဝမ်အကြီးစား တောင့်တတယ်။

"လင်ရှာရသမျှ အကုန် လက်ဝါးကြီး အုပ်ပြီး ယောကျ်ားကျတော့ ကိုယ်ကျွေးသမျှစား၊ ကိုယ်ပေးသမျှဝတ်၊ ကိုယ်ထားသလိုနေ၊ ကိုယ့်ကိုယ် အဖို့တော့ စိန်တွဲလဲ၊ ရွှေတွဲလဲ၊ နိုင်လွန်ထဘီအလဲလဲ၊ ဒီအထဲက ပိုလျှံလာရင် ကိုယ့်မိဘ ကိုယ့်ဆွေမျိုး ဖို့တန်သမျှဖို့၊ လောကကြီးမှာ

ကိုယ်ပါ စည်းစိမ်ခံရအောင် လင်လုပ်သူကို နွားလိုချောနိုင်း၊ ခြောက်နိုင်း၊
နိုင်းချင်တိုင်း နိုင်းဖို့ပဲကွ။

"ဒီတော့ မင်းတို့ စဉ်းစားကြည့်၊ လင်မယားဆိုတဲ့ အဆောက်
အဦး အဖွဲ့အစည်းကလေးဟာ ဘာတွေဖြစ်နေသလဲ၊ တကယ့်သွေးထဲ
သားထဲက ဖြူဖြူစင်စင်ချစ်လာကြတာမဟုတ်တော့ တစ်ဦးကို တစ်ဦး
အပိုင်စီးဖို့၊ ချိမ်ယူဖို့၊ ခိုင်းဖို့စေဖို့ဆိုတာ အသီးသီးစိတ်ထဲမှာ ဖြစ်ပေါ်နေ
ကြတာပဲ။ ဒီတော့ ဘယ်သူက ဘယ်သူ့အပေါ်သာတယ် နာတယ်တောင်
မှ ပြောလို့မဖြစ်အောင် သခင်ဖြစ်ချင်လဲ ဖြစ်၊ ကျွန်ဖြစ်ချင်လဲ ဖြစ်၊
တစ်ခါတလေလဲ ကေသရာဇာဖြစ်၊ တစ်ခါတလေလဲ နွားကြီးဖြစ်လိုဖြစ်၊
တစ်ယောက် တစ်လှည့်စီ၊ တစ်နေရာ တစ်ခါစီ သာရာစီး သွားနေကြတာ
ဟာ လင်မယားပဲကွ။

"ဒါကြောင့် မိန်းမယူတော့မယ်ဆိုတာကို ငါမကျေနပ်ချင်ဘူး၊
အေး ငါနဲ့သူ တန်းတူချစ်နေရာက ငါ့ထက်ပိုချစ်သွားမှာကို မနာလိုချင်
တာမျိုးလဲ ပါတာပေါ့ကွာ။ ဒါလဲ ငါဝန်ခံရမှာပေါ့။ မိန်းမယူရင် ငါနဲ့
သူနဲ့ လောလောဆယ် ကွဲကြရတော့မှာကိုး။ သူတို့မှာ နှစ်ယောက်သား
ပျော်လို့။ ငါ့မှာတော့ ယောင်လည်လည်နဲ့ တစ်ယောက်တည်း ကျန်ခဲ့
ရမှာ မဟုတ်လားကွ။ ဟဲ ဟဲ နို့ ခင်ဗျားကော ယူပါလားလို့ဆိုရင်
ငါက အခုနက အတွေးတွေ ဝင်နေတဲ့အကောင်ပဲ။

"သို့ပေမဲ့ ငါ သူ့ကိုအကြောက်အကန်ဖျက်သလားဆို မဖျက်
ပါဘူး။ ဖျက်လို့ကော ရမှာမှ မဟုတ်တော့ဘဲကိုး။ ဒါနဲ့ပဲ သူ မိန်းမ
ယူသွားရော ဆိုပါတော့ကွာ၊ သူ့မိန်းမက မြမြတဲ့၊ အေး ချောလဲချော
ပါပေတယ်။ မိန်းမက ကိုယ်လုံးကိုယ်ထည်ပြေပြေပြစ်ပြစ် အရိုးအဆစ်ကျ
သပေါ့ကွာ၊ အသားကလဲ မဖြူမညို၊ ဟန်နေဟန်ထား ကလဲ အမူပို၊
အပြောအဆိုကလဲ အမြူးရှိုးပေါ့ ဟား ဟား

"သူတို့ဟာသူတို့ လွတ်လွတ်လပ်လပ် နေရအောင် အိမ်လေးတစ်အိမ် ဗိုလ်တထောင်ဘက်မှာ ငှားနေကြတာပေါ့လေ။ ချစ်တုန်းခင်တုန်း တပြုံးပြုံး၊ ကြားက လေသွေး ဝေးတယ်လို့ထင်၊ ချစ်သမျှကိုမျိုထားမတတ် ဖြစ်နေကြမှာပေါ့။ ငါကလဲ အလိုက်သိလို့ သူတို့ဆီမသွားဘူး။ နဂိုကတည်းကလဲ ငါကကြည်ဖြူတာမှ မဟုတ်ဘဲကိုကွ။ သို့ပေမယ့် ဘလှကတော့ ငါ့ကို ပိုပြီးအရေးလုပ်ပါတယ်။ နောက်ပြီး မိန်းမတွေအပေါ် ငါဘယ်လိုသဘောထားမှန်း နဂိုကတည်းက သိထားလေတော့ သူ့မိန်းမနဲ့ပါ အကျွမ်းတဝင် ခင်ခင်မင်မင်ရှိအောင် သူ့အိမ်ကို ခေါ်ခေါ်ပြီး သိမ်းသွင်းသပေါ့။

"သူ့မိန်းမကိုလဲ မှာထားတယ်ထင်ပါရဲ့၊ ငါ့ရှေ့မှာတောင် သူ့မိန်းမကို သူပြောတဲ့စကားတွေက တို့နှစ်ယောက် တစ်ယောက်ကို တစ်ယောက် ဘယ်လောက်ချစ်ကြောင်း၊ အနစ်နာခံကြောင်း၊ သံယောဇဉ်တွယ်ကြောင်းတွေချည်းလိုလိုပါပဲ။ ဒီတော့ သူ့မိန်းမကလည်း ငါ့ကို အရေးတယူလုပ်တာပေါ့ကွာ။ ခင်မင်ပါတယ်၊ လေးစားပါတယ်၊ ကိုဘလှနဲ့မခြားရှိသေပါမယ် ဆိုတာတွေလဲ ပြောရဲ့ကွ။

"ငါ့ကို သူတို့လင်မယားက ခဏခဏဆိုသလို ထမင်းဖိတ်ကျွေးသကွ။ ငါရောက်သွားတိုင်းသွားတိုင်းကြည့်ရတော့လဲ တယ်ပြီး သူတို့လင်မယား တစ်ယောက်ကို တစ်ယောက် ယုယကြသကိုးကွ။ ဘလှနေရထိုင်ရ စားရသောက်ရတာတွေကိုက တို့နှစ်ယောက် ဖြစ်သလို လူပျိုတုန်းကလိုတောင် မဟုတ်တော့ဘူး။ စည်းနဲ့ကမ်းနဲ့၊ အချိန်နဲ့အခါနဲ့၊ အိမ်ကလေးမှာဆိုလဲ သန့်သန့်ရှင်းရှင်းသပ်သပ်ရပ်ရပ် သူ့နေရာနဲ့သူထားလို့သိုလို့၊ ပြောင်လို့လက်လို့၊ ဘလှဆိုလဲ အလုပ်လုပ်ချိန်လုပ်ပြီး၊ အလုပ်က ပြန်သွားရင် ရယ်လိုက်မောလိုက် ပျော်လိုက် ရွှင်လိုက်ကြည်နူးလို့၊ စားရသောက်ရဆိုလဲ အခုနပြောသလို မှန်နေတာကလား။

ကြာတော့ ဒီကောင်ကြီးဟာ တစ်သွေးတစ်မွေး စိုစိုပြည်ပြည် ဝဖီးတောင်လာသယော့။

"အဲဒါတွေဟာ သူတို့အိမ်က ပြန်လာပြီး ငါ့အိမ်ကလေးငါပြန်အိပ်တဲ့အခါ တစ်ယောက်တည်း စဉ်းစားမိတာတွေပဲကွ။

"အိမ်း ငါ့တစ်ယူသန် အယူအဆတွေဟာ တကယ်တကယ်စင် လွဲကုန်ပါကောလားဟ။ ဟင် လင်မယားဆိုတာ ကိုယ့်တာဝန်နဲ့ကိုယ်၊ ကိုယ့်စေတနာနဲ့ကိုယ်၊ နှစ်ယောက်စလုံးအတူတကွ တစ်ဦးကို ဘစ်ဦးအထောက်အပံ့ပြုနေကြပြန်တော့လဲ 'ဟုမ်းဆွိ ဟုမ်း'ဆိုတာ ဟုတ်ပေသားကပဲ။ ပျင်းရိခြောက်သွေ့ တစ်နေ့ပြီး တစ်နေ့၊ တစ်နေ့ပြီးတစ်နေ့၊ ငြီးငွေ့စရာ ရိုးရိုးလာပြီဖြစ်တဲ့ လောကကြီးထဲ ကယုကယ တီတီတာတာနဲ့ နှစ်ကိုယ်တွဲနေကြတာလဲ မဆိုးဘူးဟ။

"ဟုတ်တယ်လေ၊ ငါဒီလိုပဲ တွေးမိလာတယ်။ နောက်ပြီး ပိုပြီးအားကျစရာကောင်းတာကတော့ ကျန်းမာရေးပဲကွ။ ဘာလှတို့ လင်မယားဆိုရင် တစ်ယောက်ကိုတစ်ယောက် နေမကောင်း၊ ခေါင်းမခဲ ဝမ်းမနာဖြစ်ရလေအောင် ဘစ်ဦးကိုတစ်ဦး စောင့်ရှောက်သတိပေးနေလိုက်ကြတာ ဝတ္တရားကြီးတစ်ခုပဲဟ။

"မောင် မိုးသိပ်ရွာရင် တစ်နေ့ရာရာ ခဏဝင်ခိုနေဦးမှပေါ့။ ထီးပါပေမဲ့ မိုးပက်တော့ အင်္ကျီတွေလဲ စိုလို့၊ ခြေထောက်လဲအေးလို့။

"မောင်ကြိုက်ပေမဲ့ လက်ဖက်ရည်ကျကျကြီးကိုချည်းပဲ အမြဲမသောက်ရဘူးနော်။ ကာဖီလေး၊ အိုဗာတင်းလေး မွှသောက်ရမယ်။

"ဒီနေ့ညတော့ ဝမ်းနုတ်ဆေး တိုက်ရမယ် ဆရာ၊ မရဘူး သူဝမ်းချုပ်နေတယ်၊ တော်တော်ကြာ ဖျားချင်ဖျားမယ်၊ မဖျားရင် ခေါင်းကိုက်မယ်၊ ရင်ပြည့်မယ်၊ စိတ်တိုလာမယ် သိလား၊ သောက်ရမယ်နော်"

"အဲသည့်လို ဩဇာပေးသံ၊ ချော့သံ၊ တိုက်တွန်းသံ ကလေးတွေက အမြဲကြားရသကွ၊ နောက်ပြီးခဏခဏ လမ်းအလျှောက်ခိုင်းလိုက်သေးတယ်၊ အေး ဘလှကတော့ သူ့မြကို မေးလိုက်ရတာ

"မြနေကောင်းရဲ့နော် နေကောင်းရဲ့နော်နဲ့ တနော်တည်းနော်နေတာပဲ မောင်ရာ၊ ဒါတွေကျတော့လဲ အရသာပဲ မဟုတ်လားဟ။

"အေး တစ်နေ့ညနေကျတော့ ဘလှက ငါ့ကို ရုံးအဆင်း စောင့်ပြီး ခေါ်လာသကွ၊ သူ့အိမ်လိုက်ထမင်းစားဖို့ပေါ့လေ၊ ငါကလဲ လိုက်သွား၊ ရောက်တော့ ဒီနေ့ည မင်း တို့အိမ်မှာ အိပ်တန်အိပ်ပါကွာ သူငယ်ချင်းတဲ့။

"ငါက ဘာဖြစ်လို့လဲ မေးတော့

"သူ့အင်းစိန်ကို အရေးတကြီးရုံးကိစ္စနဲ့ သွားရမှာက ဆယ့်တစ်နာရီလောက်မှ ပြန်ရောက်ချင်ရောက်မယ်။ အဆင်မပြေလဲ မရောက်မှာ မို့ပါတဲ့။ ဒါကြောင့် မြတစ်ယောက်တည်း ပျင်းနေမှာစိုးလို့တဲ့ကွာ။

"ငါက အံ့သြပြီး ကြောင်တက်တက်ဖြစ်နေတုန်း မြကဝင်တဲ့ပြီး

"ဟုတ်ပါတယ် ကိုဘဂျမ်းရယ်၊ မနက်ကတည်းက ရှင့်ကိုဝင်ခေါ်ဖို့ ကျွန်မက မောင့်ကို အကြံပေးလိုက်ရတာပါ။ ဘာလဲ ရှင်က ကျွန်မတို့အိမ် မလာချင်လို့လား"

"အဲဒီတော့ ငါက ချော်လဲရောထိုင်ပြီး သောပစ်လိုက်ရတာပေါ့၊ ဒီလိုနဲ့ မီးထွန်းချိန်လောက်မှာ ပျော်ပျော်ပါးပါး စားကြသောက်ကြရော ဆိုပါတော့ကွာ။ စားပြီးပြီးချင်းဆိုသလို ဘလှက ငါ့ရော သူ့မိန်းမရော နှုတ်ဆက်ပြီး ထွက်သွားတာပါပဲ။ ငါလဲအလုပ်မရှိ အလုပ်ရှာပြီး အိမ်ရှေ့ခန်းမှာ သတင်းစာတွေ ထိုင်ဖတ်နေတာပေါ့။ မြလဲ နောက်ဖေးမီးဖိုကိစ္စ သိမ်းဆဲဆေးကြောနေသံကြားရတယ်၊ အဲဒီအချိန်လောက်ကစပြီး မိုးကလဲ တစိမ့်စိမ့်ဖြစ်လာတယ်"

"ငါလဲ စာကိုဖတ်ရင်း ဖတ်ရင်းနဲ့ စိတ်ဝင်စားသွားလိုက်တာ ဘယ်လောက်ကြာသွားတယ်လို့ မသိဘူး"

"ဟော ကိုဘဂျမ်း ပျင်းနေပလားဆိုတဲ့ အသံနဲ့ ငါ့အနားရောက်လာတဲ့ မြကို ကြည့်လိုက်တော့ အံမယ် ဘယ်အချိန်က အလှပြင်လိုက်သလဲ မသိပါဘူးကွာ။ ထမင်းစားတုန်းကထက် သိသိသာသာကြီးကို ပိုချောလာတာ တအံ့တသြတွေ့ရတယ်"

"သူက ငါ့ကို စိုက်ကြည့်နေပုံကလဲ တစ်မျိုးကြီးပဲကွ။ ပြုံးစစနဲ့ လိုလို ငါလဲသတိရပြီး ပြန်ဏ္ဍမ္ဘြေဆည်လိုက်ကရော သူလဲ ငါ့အနားက ဖြတ်တဲ့ပြီး မိုးပက်နေတဲ့ အိမ်ရှေ့တံခါးကို သွားပိတ်လိုက်ရင်း

"မိုးပက်နေတာများမှ သတိမရရအောင် ဘာတွေများအတွေးခေါင်နေတာလဲ ဟဲ ဟဲ"လို့ပြောပြီး ငါ့ဆီကို တည့်တည့်ကြီး ကြည့်လာလိုက်တာဟာ သူ့မျက်စိတွေမှာ ညို့ဓာတ်ပါသလားတောင် မှတ်ရတယ်"

"သူ့အမူအရာ ဟန်ပန်လေသံဟာ ဘာလှရှိနေစာန်းကထက် မရှိတော့မှ ပိုပြီး လွတ်လွတ်လပ်လပ် ရဲရဲစုံစုံ ဖျတ်လတ်နေတာ ငါ အကဲခတ်မိတယ်။ နောက်ပြီး ငါနဲ့အနီးဆုံးကုလားထိုင်မှာ လာထိုင်ရုံသာမက အနားကိုတောင် နည်းနည်းရွှေ့လိုက်သေးတယ်။ ငါကတော့ ဘယ်လိုမှ မထင်နိုင်သေးဘဲ အံ့သြနေမိတာက အရင်ပဲ။

"ကိုဘဂျမ်း ရှင် ဒီအသက် ဒီအရွယ်ထိ ဘာဖြစ်လို့ မိန်းမ မယူသေးတာလဲ ဟင် တဲ့၊ အဲသည်လိုကောက်ကာငင်ကာ မေးလိုက်တော့ ဖြန်းခနဲ ငါဘာဖြေရမှန်းမသိဘူး၊ ရူးသလို ကြောင်သလိုနဲ့ ပါးစပ်ကြီးဖြဲပြီး ရယ်နေလိုက်ရရုံပဲ ရှိတယ်။

"ပြောစမ်းပါ ကိုဘဂျမ်းရဲ့ ကျွန်မ သိချင်လွန်းလို့ပါတဲ့"

"ဟာဗျာ အိမ်ထောင်ရေးကို စိတ်မကူးမိသေးလို့ပေါ့"

"နို့တစ်ယောက်တလေမှ ရည်းစားမထားခဲ့ဖူးဘူးလား"တဲ့။

"ထားလဲ မထားဖူးပါဘူးဗျာ၊ ကြိုက်တဲ့လူလဲ မရှိဘူးလို့၊ ငါလဲ ရှက်ကိုးရှက်ကန်းနဲ့ ပြောမိပြောရာ ပြောချလိုက်မိတာ သူက ဘာသဘော ပေါက်သွားသလဲ မသိပါဘူးကွာ။ တကတဲ ထိုင်နေရာက ထတဲ့ပြီး ငါ့ကုလားထိုင် လက်ရန်းပေါ်ကို တင်ပါးလွှဲလာထိုင်ပြီးတော့ အရောင် တဖိတ်ဖိတ် လက်နေတဲ့ မျက်လုံးကြီးသာမကပါဘူး။ နှုတ်ခမ်းကလေး တွေပါ တဆတ်ဆတ်တုန်လာပြီး "ဒါဖြင့် ဒါဖြင့် ကိုဘဂျမ်းကိုကြိုက်တဲ့ လူက ကြိုက်နေပါတယ် ဆိုရင်ကောဟင်"တဲ့။

"ငါတော့ ထူပူသွားတာပဲကွာ။ မင်းတို့ စဉ်းစားကြည့်စမ်းပါဦး၊ ငါ့အသားနဲ့ သူ့အသားနဲ့ နည်းနည်းပါးပါးတောင် ထိနေပြီ၊ နောက်ပြီး တော့ မွှေးလိုက်တာကလဲ လွန်ပါလေရော၊ ဒါပေမဲ့ သူ့မျက်နှာလဲ ငါ မကြည့်ဝံ့ဘူး၊ သူ့အသားလဲ ငါ မထိဝံ့ဘူး၊ သူ့အသံလဲ ငါ ဆက်ပြီး မကြားဝံ့တော့ဘူးကွ။ တကယ်ဆိုတော့ကွာ ငါအရှက်ခပ်မဲ့မဲ့နဲ့ ဝန်ခံ ရမှာပါပဲ။ မိန်းမတစ်ယောက်ရဲ့နီးစပ်မှုကို ဒီတစ်ခါတုန်းကလောက် တစ်ခါမှ မခံစားခဲ့ရသေးဘူး။ အာရတီ၊ ဝိရတီ ဆိုသလို မတွေ့အောင်သာ ရှောင်လာနိုင်ခဲ့တာ ရှိတယ်။ ဒီကြားထဲ သူက ငါ့အကဲကို ခတ်ပြီး ထပ်ပြောတာ ဘယ်လိုမှတ်သလဲ။

"ကဲ ရှင် လူရိုးလူအ လူပျိုသိုးကြီးရဲ့။ မြက ရှင့်ကို တစ်ဖက် သတ်ချစ်နေတာကြာပြီတဲ့။ ရှင်ဘယ်လိုသဘောထားမလဲ။ ခုလို ကျွန်မက မိန်းကလေးတန်မယ့်နဲ့ ဖွင့်ပြောပါလျက်နဲ့ ရှင်က ငြင်းရက်မလားဟင်။

"ပြောပြောဆိုဆို အားမလို အားမရ သဘောနဲ့ ငါတစ်ဖက်လွှဲ နေတဲ့ မေးကို သူ့ဘက်ဆွဲပြီး လှည့်လိုက်တော့ ငါ့မျက်ခွက်ဟာ သူ့ ရင်ခွင်နားကို ရောက်နေပါပြီကွာ။ ငါ အသက်တောင် မရှူရဲတော့ပါဘူး။ ဟာဗျာလို့သာ တုန်တုန်ယင်ယင်ကြီး ညည်းမိတယ်။ အသံသာမဟုတ်ပါ ဘူးလေ။ ငါ့တစ်ကိုယ်လုံးကလဲ သိသိသာသာကြီး တုန်နေတာပါပဲ။

လေယာဉ်ပျံတိမ်တိုက်ထဲထိုးတော့ ခံစားရသလို ဝမ်းထဲ အေးခနဲဖြစ်ဖြစ် လာတာပဲ။

"ကိုဘဂျမ်း ပြောလေပြောပါ ကိုဘဂျမ်းရဲ့။ ရှင်ဟန်ဆောင်မနေ ပါနဲ့၊ ရှင်လဲ ခုချစ်လာပါပြီ၊ ကြည့်ပါလား၊ တစ်ကိုယ်လုံးများတောင် တုန်လို့၊ ကျွန်မ အဲဒါတွေသနားတာပဲ၊ ရှင်လေ ရှင် ဒီအသက်အရွယ်အထိ မိန်းမဆိုတာကို အရသာ မခံစားမိရှာသေးဘူးလို့၊ ကြားကတည်းက သနားတာပဲ သိလား။ သနားလွန်းအားကြီးတော့ စေတနာတွေ ပိုလာတာ ပဲ သိလား။

"စကားလဲ ဆုံးရော ငါ့မျက်နှာကို သူ့ရင်ခွင်ထဲ ဆွဲကပ်ပြီး ဖိ ထားလိုက်တော့ မောင်ရင်ရာ ငါ့မှာလေ မိုးမမြင် လေမမြင် မျက်စိ တွေ ပြာကုန်တော့တာပါပဲ။ နောက်ပြီးတော့လေ ငါ့မျက်နှာ ပြန်ခွာပြီး သူ့မျက်နှာက ငုံ့လာတဲ့ပြီး ငါ့နှုတ်ခမ်းကို ဆွဲစုပ်လိုက်တော့ မှန်တာ ပြောရရင်ကွာ မရှက်ပါဘူး။ အမယ်လေး အမေရဲ့လို့သာ ဟစ်ငိုလိုက် ချင်တော့တာပါပဲ။ ဒီအဘိ ဒီအထိ၊ နောက်ပြီး တအိအိနဲ့ သူ့တင်ပါးကြီး ဟာ ကုလားထိုင်လက်ရန်းပေါ်က လျှောချလိုက်တော့ အော်တိုမက်တစ်နဲ့ ငါ့ရင်ခွင်ထဲ အလိုက်သင့်ရောက်နေတော့တာပေါ့။ ငါ ဘာမှလဲ မတွေးမိ တော့ဘူး။ ငါ မှတ်မိတာတော့ မိုးကလေး ခုလို တဖြောက်ဖြောက်ထဲမှာ ငါ့နဖူးက ချွေးတွေကလဲ အစီအရီထွက်နေတာပဲ။

"ကြည့်စမ်းပါဦးတော်၊ ရီးလိုက်တာ၊ ကြောက်တတ်လိုက်တာ၊ နဖူးမှာ ခေါချွေးတွေများ ပြန်လို့ ရှက်စရာကြောက်စရာ ဘယ်သူရှိတာ မှတ်လို့ မောင်နဲ့မြနဲ့ နှစ်ယောက်တည်း ဘယ်လောက် လွတ်လပ်သလဲ ဟင်။ ဘယ်လောက် အဆင်သင့်သလဲ။ တစ်နေ့လုံး ရုံးမှာ ထိုင်နေရတာ ဘယ်လောက်ပင်ပန်းသလဲ။ ဘယ်လောက် ညောင်းသလဲ။ ခြေညောင်း ဆန့်လက်ဆန့်မြနှိပ်ပေးမယ်။ အိပ်ရာထဲသွားစို့နော် မောင် ဟုတ်လား"

"အဲသည်လို သူကအရင် ငါ့ပါးကို နမ်းပြီးအထလိုက် ဂျောင်ဂလွမ် ဆိုတဲ့ အသံကြီး မီးဖိုထဲက ထွက်လဲ လာပါရော၊ သူရောငါပါ လန့်တုန်သွားတာပါပဲကွာ၊ သူကတော့ ရိုးရိုးလန့်တာ ဖြစ်ချင်ဖြစ်မယ်၊ ငါကဖြင့် ငါ့အဖြစ်ကို ငါ အကုန်လုံးသတိရပြီး ဖောက်ထိုးမိုးမျှော် ဖြစ်သွားသလို လန့်သွားတာမျိုးဟေ့။

"ဟောတော့ မီးဖိုထဲ ကြောင်လှန့်ကုန်ပြီထင်တယ်၊ ခဏကလေးနော် မောင် ဆိုပြီး ထသွားလို့ သူလဲ မီးဖိုထဲအရောက်လောက်ပါပဲဗျာ"

"ဟော့ မြ မြ၊ ဘဂျမ်းရေ"

"အိမ်ရှေ့က ဘလှရဲ့အသံနဲ့ တံခါးခေါက်တော့တာပါပဲ။ ငါကမန်းကတန်း တံခါးထဖွင့်ပေးလိုက်တော့ မောင်မင်းကြီးသားက အထဲရောက်တာနဲ့ တစ်ပြိုင်နက် "မြကောကွ"တဲ့လေ

"သူ့မေးခွန်းကို ငါတောင်ပြန်မဖြေဖို့ အချိန်မရလိုက်တော့ပါဘူး မောင်ရာ၊ ဟာန်မပျက် ဣန္ဒြေမပျက် မီးဖိုထဲက ထွက်လာတဲ့ပြီး

"ဟော မောင်ပြန်လာပလား၊ ဟောဒီမှာ ကိုဘဂျမ်းကြီးနဲ့ အိမ်ရှေ့ စကားကောင်းနေတုန်း ဟင်းပန်းကန်တွေ ကြောင်လှန့်ချလို့ မောင်ရေတဲ့။

"ဘလှကတော့ ပျော်ပျော်ရွှင်ရွှင်ပေါ့ကွာ၊ သူ အင်းစိန်ကို မသွားဖြစ်တဲ့အကြောင်း၊ လမ်းမှာတွင် သူ့ကိစ္စပြီးပြတ်ခဲ့တဲ့အကြောင်းပြောပြီး သူ ဝယ်လာတဲ့ ပလာတာတွေ ပေးနေသေးတယ်။

"အဲဒါကြည့်စမ်း၊ ငါ့မှာ သိသိကလေးလိုတော့တာ မဟုတ်လား၊ မီးဖိုထဲကသာ အချိန်မီ အချိန်သင့် ပန်းကန်တွေ မခွဲလိုက်ရင် ငါ့လက်ပူးလက်ကျပ်မိတော့မှာ ဒီငှာ တံခါးပိတ်ထားလို့ မမိဘူးထား၊ အခြေပျက် အနေပျက် ကိုးရိုးကားရားဖြစ်မှာတော့ သေချာတယ်။ နောက်ပြီး

မောင်မင်းကြီးသား ဘလုကသာ အချိန်မီ ပြန်မရောက်လာရင်လဲ ငါ မှားချင်မှားမိတယ်၊ မှားလိုက်မိရင်လဲ ငါ့တစ်သက်မှာ အညစ်ပတ် အဆိုးဝါး အရိုင်းစိုင်းဆုံး လူမိုက်ကြီးတစ်ယောက်ဖြစ်သွားရတော့မှာပဲ၊ သိသိကလေးပါကွာ၊ သိသိကလေး။

"နောက်တော့ ငါနှုတ်ဆက်ပြီး လစ်ခဲ့ရတာပဲ၊ သူတို့လင်မယား နှစ်ယောက်စလုံးက ပလာတာ အတင်းကျွေးတာတောင် ထိုင်စားမနေ ချင်တော့ဘူးလေ။

"ဒီညကစပြီး နောက်ပိုင်းကျတော့ ဒီအဖြစ် ဒီအတွေ့မျိုးမတွေ့ ကြုံရအောင် သူတို့အိမ်ကို ဝေရမဏီ ရတော့တာပါပဲကွာ၊ ငါဒီလို ရှောင်မှန်း သိသွားလို့လား မသိဘူး။ နောက် သူတို့လင်မယားနဲ့ လမ်း တွေ့တော့ ဘလုက ဝမ်းသာအယ်လဲရှိသလောက် သူ့မိန်းမက ငါ့ကို အဖက်မတန်သလို ပေါ့ပျက်ပျက် ဆက်ဆံတော့တာပါပဲကွာ။ ငါကတော့ သူ ဒီလို ဆက်ဆံတာပဲ ဝမ်းသာပါသေးရဲ့၊ နောက်ဆုံးကျတော့ ဘယ် အထိ ငါ့မှာ ခံရသလဲ သိလား၊ မောင်မင်းကြီးသား ဘလုတောင် သူ့ မိန်းမက ဘယ်လိုဘယ်ပုံနားသွင်းထားသလဲ မသိဘူး၊ ငါ့မြင်ရင် ခပ်တည်တည်နဲ့ ရှောင်ရှောင်သွားတော့တာပါပဲ။ ကဲ ဒီတော့ မင်းတို့ စဉ်းစားကြည့်စမ်း၊ ငါ မိန်းမ မယူတာ ဆန်းသမို့လား၊ ဟား ဟား ဟား"

မိုးမင်းက ရွာနေဆဲ

မောင်ညွန့်လှိုင်နှင့် မောင်ညွန့်တင်တို့က ငိုင်နေဆဲ။

[မြဝတီ]

## ဆေးရုံပေါ်က ဘဝသံသရာ

"ဘဝသံသရာ သီချင်းစာသား ရေးပေးစမ်းပါဆရာ"

ကျွန်တော် တီဘီဆေးရုံတက်နေစဉ်က ဖြစ်ပါသည်။

အသက်အရွယ် အစိတ် သုံးဆယ်ခန့်၊ ဖြူဖြူသေးသေး၊ နှာတံပေါ်ပေါ်၊ မျက်လုံးမျက်ဖန်လှလှ၊ မွန်မွန်ရည်ရည် လုလင်ပျိုတစ်ယောက်က လာ၍ ပြောလေသည်။ သူ့မှာလည်း လူနာအဝတ်အစားနှင့်ဖြူဖျော့သော နှုတ်ခမ်း၊ နှမ်းလျသော အသွင်အပြင်၊ နထင်နားရင်း ခပ်ကျကျ ဒါတွေက အဆုတ်နာ၏ သံ့ပန်းဖြစ်ကြောင်း ဖော်ပြနေသည်။ (အထောက်တော် ကိုအုံးမြင့်က ကျွန်တော့အား သူ့သတင်းစာကနေ၍ ကင်ပွန်းတပ်လိုက်သော ဝေါဟာရစကားလုံး ဖြစ်ပါသည်)

အဆုတ်နာ၏ သံ့ပန်း။

သေသေချာချာ တွေးကြည့်လေ သူ့စကားကို ကျွန်တော် ကြိုက်လေကြောက်လေ ဖြစ်ခဲ့ရသည်။ အကြောင်းကား အဆုတ်နာ တီဘီဖြစ်ပြီဟု ဆိုလျှင် ဘယ်တော့လောက် ရှင်းရှင်းပျောက်မည်ဟု မည်သူမျှ တပ်အပ်မပြောနိုင်ကြ။ ထိုသို့ဖြစ်လျှင် ဝေဒနာ၏ နှိပ်စက်မှု၊ ညှဉ်းပန်းမှုကို တမျှဉ်းမျှဉ်း ခံ၍ ခံနေရတတ်သောကြောင့် မင်းမှုမင်းပြစ်ကျပြီးသော ထောင်ကျအကျဉ်းသမားထက် လွတ်ရက်ကို မမျှော်မှန်းနိုင်သည့် သံ့ပန်းစင်စစ်တွေ ဖြစ်ကြရသည်။

ထောင်ဒဏ် ဆယ်နှစ်ကျခံရသူသည် ထောင်က ထွက်ရမည့်ရက်ကို လက်ချိုး၍ ရေတွက်ပြီး တစ်နေ့ထက်တစ်နေ့ လွတ်မြောက်ရေးကို မျှော်တွေး ရှေးရှုနိုင်ပါသေးသည်။

အဆုတ်နာဖြစ်ပြီဆိုမှဖြင့် လွတ်ရက်ကို တွေး၍မရ၊ မေး၍ မရ၊ မသကာ ဆေးရုံက လက်ခံထားသော ရက်ကစေ့၍ ဆင်းချင်ဆင်းသွားရသည်။ ကိုယ်တွင်း၌ ထက်ကြပ်ပါလာသော အဆုတ်ထဲက ဝေဒနာက တော့ လွတ်ရက်မပေး။ တဖြည်းဖြည်း သေချင် သေသွားနိုင်သည်။

ထို့ကြောင့် ဝေဒနာရှင်းရှင်းကြီး မပျောက်သမျှ ဘယ်ကိုပြေး၍မျှ မလွတ်သော သုံ့ပန်း၊ အဆုတ်နာသုံ့ပန်း ဤသို့သော သဘောတရားတွေကြောင့် ကိုအုံးမြင့်၏ ဝေါဟာရမှာ ကြိုက်စရာလည်း ကောင်း၏။ ကြောက်စရာလည်း ကောင်းလှ၏တကား။

"ကျွန်တော့နာမည်က မောင်ထွန်းကြိုင်ပါ၊ အခန်းနံပါတ် ၂၊ ခုတင်နံပါတ် ၁၅ မှာပါ"ဟု အဆုတ်နာ၏ သုံ့ပန်းအချင်းချင်း လာ၍ မိတ်ဆက်သည်။

"ဘ၀သံသရာ သီချင်းကို မရလို့လားဗျာ"

"ရတော့ ရပါတယ်၊ ဒါပေမဲ့ ကြားဖူးနားဝနဲ့ ရမ်းသန်းဆိုနေကြတာ၊ စာသား စကားသားမှန်ချင်မှ မှန်မှာ မဟုတ်လားဆရာရဲ့၊ နောက်ပြီး ကျွန်တော်နားမလည်တဲ့ အဓိပ္ပာယ်တွေလဲ ပါသေးတယ်ခင်ဗျ"

သီချင်းဂီတဝါသနာပါသည်ဟု ဆိုပင်ဆိုကြသော်လည်း စာသား၊ စကားသား အမှန်၊ အမှား မစိစစ်ကြဘဲ ခပ်လွယ်လွယ်ပေါ့ပေါ့ဆိုကြ၊ ရေးပေးကြ၊ ကူးကြခြင်းကြောင့် မဟာဂီတကအစ ချိုတေးသံ၊ တေးပဒေသာ စာအုပ်တွေအထိ ကာရန်တွေ အမှားမှား၊ စာသားသတ်ပုံတွေ ချွတ်ယွင်း၊ အဓိပ္ပာယ်တွေပါ လွတ်ကင်းသောသီချင်းများ ပါ၍ လာတတ်သေးသည်။

ကိုထွန်းကြိုင်ကား ဒါတွေကို အလေးပြုဟန်တူသည်။ ထို့ကြောင့်သာ ကျွန်တော်က သူ့အား စူးစူးစိုက်စိုက် ကြည့်လိုက်မိခြင်း ဖြစ်ပါသည်။ သို့သော် ကျွန်တော်က ဘာမှ သူ့ကို ပြန်မပြော၊ သူကသာ ဆက်၍ ပြောပြန်သည်။

"ဆရာ့သီချင်းထဲက ဖြစ်ချင်တာလဲ မဖြစ်ရပါ၊ မဖြစ်ချင်တာလဲ ဖြစ်ရမှာဆိုတဲ့ စာသားကို အကြိုက်ဆုံးပါပဲ။ ကျွန်တော်တော့ အဲဒါကလေးပဲ ခဏခဏ ဆိုနေမိတယ်၊ ကျွန်တော့ဘဝက ဒီအတိုင်းပဲခင်ဗျ၊ ဆရာ ဒီစကားလုံးကို ရွေးမှ ရွေးတတ်ပလေဆရာ"

ကျွန်တော်ကား သူ့ကိုကြည့်ပြီး ပြုံးမိရပြန်ပါပြီ၊ ပြုံးရာကတစ်ဆင့် ကျွန်တော့ခေါင်းမှာ မသိမသာ ခပ်ညိတ်ညိတ်ကလေး ညိတ်မိပြန်ပါသည်။

အကယ်စင်စစ် သူ့ဘဝတစ်ခုတည်းသာ (ဝါ) သူတစ်ယောက်တည်းသာ ဖြစ်ချင်တာမဖြစ်၊ မဖြစ်ချင်တာဖြစ်ဟု အောက်မေ့နေဟန်တူသည်။ သူ့ပတ်ဝန်းကျင်က ကျွန်တော်နှင့်တကွသော အများလူနာတွေပါ ဖြစ်ချင်ကြသလို ဖြစ်နေကြလေသလား။

လူတိုင်းလူတိုင်း သတ္တဝါသခါရတိုင်း ထိုနည်းနှင်နှင် မဖြစ်ချင်တာတွေ ဖြစ်နေကြရသည်ကို ဤသူငယ် ကျယ်ကျယ်တွေးမကြည့်၊ ခပ်လွယ်လွယ် ပြေးမသိ။

လူဆိုသော လူတို့သည် အရေးရယ် အကြောင်းရယ်ဆိုလျှင် ကိုယ့်တစ်ကိုယ်သာ အားလွတ်ရာ ရှာကြသည်။ ကိုယ့်တစ်ကိုယ်သာ ဖြစ်ရလေခြင်းဟု ဝမ်းနည်းပက်လက် ဖြစ်တတ်ကြသည်။ ထို့ကြောင့် ကိုယ့်တစ်ကိုယ်ကောင်း ရှာကြကြံကြ၊ လုပ်ကြပြောကြ၊ ထင်ကြသော အတ္တသမားတွေ မဟုတ်ပါလေလော။ ပြောများတောင် ပြောလိုက်ကြသေးသည်။ "အတ္တသမံ ပေမံနတ္ထိ"တဲ့။

ထိုသည့်နောက် ဆရာ ဒီစကားလုံးကို ရွေးမှ ရွေးတတ်ပလေဟု ချီးမွမ်းသံကြောင့် ကျွန်တော်ပြုံးလိုက်မိပါသည်ဟု ဆိုမိခဲ့သော်လည်း ထိုအပြုံးမှာ ကျွန်တော့အဓိပ္ပာယ်နှင့် ကျွန်တော်ရှိပြန်ပါသည်။ အကြောင်းကား ဖြစ်ချင်တာလဲ မဖြစ်ရပါဆိုသည့် ယင်းစကားစုမှာ ကျွန်တော် ရွေးတတ်၍ ရွေးတာမှမဟုတ် ကျွန်တော်ရေးတတ်၍ရေးတာမှ မဟုတ်ပါဘဲကလား။ သူ့အဖို့မှာကား သူ့နားထဲတွင် သီလွယ်သော ထမင်းစားရေသောက်စကားလုံးမျိုး ကြားလိုက်ရသဖြင့်သာ သူ့နှလုံးသားကို တိုက်ရိုက်ထိခိုက်သွားဟန်တူသည်။ ထိုစကားလုံးမှာ ဘုရား ဟောတော်မူခဲ့သည့် တရားသဘောစစ်စစ်ကြီးပါပေ။

ယံပိစ္ဆံ နလဘတိ၊ တမ္ပိဒုက္ခံ

"ကဲ သီချင်းစာသား လိုချင်လဲ ရတာပေါ့၊ ဒီဆေးရုံရောက်တာ ဘယ်လောက် ကြာပလဲ။ အခြေအနေကော ဘယ်လောက်တိုးတက်လာပြီလဲ"

"ကျွန်တော် နှစ်လပြည့်ပါတော့မယ် ဆရာ"

"အခြေအနေကော"

"တော်တော် တိုးတက်ပါတယ်ဆရာ။ ရောက်ခါစကဆို ကိုးဆယ် ငါးပေါင်ပဲ ရှိပါတယ်။ အခု တစ်ရာ့နှစ်ပေါင် ရှိလာပြီ"

"ဖြစ်ပုံကို မသိရဘူးလားဗျာ။ ကျွန်တော်ကတော့ လူနာတွေတွေ့လို့ စကားစပ်မိတိုင်း စပ်စုကြည့်တတ်တယ်ခင်ဗျ၊ ဘယ်လိုမှ မအောက်မေ့နဲ့"

"ဟာ ဆရာ၊ ဒါမေးတာ ဘယ်လိုမှ မအောက်မေ့ပါဘူး၊ အခု ဆရာက ရောဂါစဖြစ်ပုံကိုသာ မေးပေမယ့် ကျွန်တော်က ကျွန်တော့ဘဝကို အစချီပြီး ပြောစမ်းပါရစေ၊ ဆရာ့ကို ဒီလို ကိုယ့်ဝတ္ထုတွေ လာလာပြောပြတတ်တဲ့လူတွေ များလို့ ဆရာနားခါးမလားတော့ မသိဘူး"

"မခါးပါဘူး ကိုထွန်းကြိုင်ရာ၊ ပြောချင်တာသာပြောပါ"

"ကျွန်တော်က အောက်တန်း ကျောင်းဆရာလေးပါ။ (ကိုထွန်းကြိုင်က ရုပ်ကွက်အမည်နှင့် နိုင်ငံတော်အစိုးရက ကျောင်းတစ်ကျောင်းကို ပြောပြသော်လည်း ချွင်းခဲ့ပါသည်။) ကျွန်တော် သင်ခဲ့ရတဲ့ ကျောင်းမှာ ကျောင်းအုပ်ကြီးက အတော်စည်းကမ်းကြီးပါတယ်။ တပည့်တွေကို အသင်အပြဆုံးမတဲ့နေရာမှာလဲ တော်တော်ရဲရဲဝံ့ဝံ့ ပြတ်ပြတ်သားသား ရှိပါတယ်။ ကျောင်းအလုပ်ကိုလဲ အလွန်တရာဝီရိယရှိပါတယ်။ ကျောင်းဆရာ၊ ဆရာမတွေအထဲမှာ ကျွန်တော် တစ်ယောက်ကိုတော့ ကြိုးစားမှုရှိတယ်ဆိုပြီး အတော်ကလေးမျက်နှာသာပေးပါတယ်။ အတော်လဲ ခင်မင်ပါတယ်၊ ဆရာ ဆရာမတွေကတော့ ဆရာကြီးဟာ အထက်လူကြီးတွေကို မျက်နှာလိုအားရ လုပ်တတ်တယ် စသည် အားဖြင့် စကားတင်းပြောကြသပေါ့ခင်ဗျာ။

"ဒါပေမဲ့လို့ ကျွန်တော်ကတော့ ဆရာကြီးကို အပြစ်မမြင်ပါဘူးခင်ဗျာ၊ သူ့သမီး အလတ်ကလေး မအေးကြွယ်ကိုသာ မြင်နေတော့ တာကိုး ဆရာရဲ့။ မအေးကြွယ်ကလဲ ကျွန်တော့ကို ချစ်ရှာတယ်။

"ဆရာကြီးက ကျွန်တော့ကို မကြာခဏသတိပေးတာက မောင်ထွန်းကြိုင် မင်းတက်လမ်းကို အမြဲရှာရမတဲ့၊ အမြဲ ကြိုးစားရမတဲ့၊ ဒီစကားတွေဟာ ကျွန်တော့ကို သူ့သမီးနဲ့ ချစ်ကြိုက်နေမှန်း ရိပ်မိလို့ အားပေးစကားပြောနေတာပဲလို့ မှတ်ခဲ့ပါတယ်။

"ကျွန်တော်တို့ ကျောင်းဆရာ အလုပ်ဆိုတာ ဆရာတော့ သိပါလိမ့်မယ် ထင်ပါရဲ့။ နေရိပ်ထဲမှာ မြေဖြူခဲနဲ့ ကြိမ်လုံးကလေးကိုင်ပြီး အေးအေးသက်သာ ဩဇာပေးနေတာပဲလို့ ထင်ကြပေမယ့် တကယ်ဆိုတော့ ကျောင်းတက်ကကျောင်းဆင်းအထိ မတ်တတ်မတ်တတ်နဲ့ အော်လိုက်ရ၊ ဟစ်လိုက်ရ၊ ပြောလိုက်ရတာ အသံကုန်သလောက်ဖါပဲဆရာ

ရယ်၊ ကျောင်းသားတွေက တစ်ယောက် တစ်ပေါက် ထမေးဦးတော့ ကျွန်တော်တို့ ဆရာအနေနဲ့ လူလေးငါး ခြောက်ဆယ်ကို တစ်ယောက်တည်း ဒိုင်ခံပြီး သင်ရ ကြားရ၊ ပြောရ ဖြေရတာဟာ ကျောင်းဆင်းခေါင်းလောင်းလဲ ထိုးရော အသံကုန် လူပန်း နွမ်းခွေသွားတာပါပဲ။

"ဒီကြားထဲ တစ်ခါတစ်ခါ ထောင့်မကျိုးတဲ့ကျောင်းသား လေးငါး ခြောက်ယောက်နဲ့များတွေ့ရရင် ဒေါသဖြစ်လိုက်ရတာဆို၊ တစ်နေ့လုံး ကူလီထမ်းရတဲ့လူကမှ စိတ်ချမ်းသာပါဦးမယ် ဆရာရယ်၊ သို့ပေမယ့် ယောက္ခမလောင်းကြီး ရွှေသဘောတော်တွေ့အောင် ပင်ပန်းတယ်လို့မှ မအောက်မေ့ခဲ့ပါဘူး။

"ဒီလိုနဲ့ပဲ တစ်နေ့တော့ သူ့သမီးနဲ့ ချစ်ကြိုက်နေကြောင်း သိသွားပါလေရော ဆရာရယ်၊ အို ဆူလိုက် ပွက်လိုက်တာမှ မပြောပါနဲ့တော့ ကျေးဇူးရှင်ကျေးစွပ်တယ်၊ ဆရာသမားကိုပုန်ကန်တယ်၊ အနန္တောအနန္တ ကို ပစ်မှားတယ်ပေါ့ခင်ဗျ၊ နောက်ပြီး သူပြောလိုက်တာက သူ့သမီးဟာ အောက်တန်းပြဆရာတစ်ယောက်နဲ့ မတန်ဘူးတဲ့၊ အဲသည်လောက်ပစ်ပစ်ခါခါ ပိုးစိုးပက်စက် ပြောလိုက်ပါတယ်။

"သူ့သမီးလဲ သူရိုက်၊ ကျွန်တော့ကိုလဲ ကျောင်းက ထုတ်ပစ်ရအောင် ကြိုးစားတာပဲခင်ဗျ၊ အမှန်ကတော့ ကျွန်တော့ကို အထင်သေးမယ်ဆိုလဲ သေးစရာပေါ့ခင်ဗျာ။ ကျွန်တော်ကိုယ်တိုင်က ၁၀ တန်းက မအောင်ခဲ့သေးပါဘူး။ ၈ တန်းနဲ့ ကျောင်းကထွက်ပြီး ပရိုင်မာရီဆရာဖြစ်တန်းလောက် တက်ပြီး ဆရာကလေးဖြစ်ခဲ့တာကိုး။ ဒါလဲ ကျွန်တော့မအေ မုဆိုးမကြီးငဲ့ပြီး ကျောင်းက မြန်မြန်ထွက် အလုပ်ရှာ ကျွေးရတာပါ ဆရာရယ်၊ ဒီကြားထဲ မအေးကြွယ်ရဲ့အစ်မ သူ့သမီးအကြီး မအေးသွယ်က ( )ဌာန၊ ရုံးအုပ်တစ်ယောက်နဲ့ အိမ်ထောင်ကျတာက မကြာသေးဘဲ

ကိုး။ မအေးကြွယ်က မအေးသွယ်ထက် ငယ်လဲငယ် လှလဲလှဆိုတော့ သူ့အစ်မကိုရုံးအုပ်လောက်နဲ့ ပေးစားရရင် ညီမကို အနည်းဆုံး ဝန်ထောက်နဲ့မှ သဘောတူမလား မသိဘူးဆရာ။

"ဒါပေမဲ့ ကျွန်တော် မအေးကြွယ်ကိုချစ်တယ်ဆရာ။ ဘယ်လောက်ချစ်တယ်၊ အထင်ကြီးတယ်၊ မြတ်နိုးတယ်ဆိုတာ ဆရာ စဉ်းစားသာ ကြည့်တော့၊ ကျွန်တော်နဲ့ မအေးကြွယ်နဲ့ မတန်ဘူးဆိုတာကိုတောင် ကျွန်တော်က ဟုတ်ပါတယ်၊ မတန်ပါဘူးလို့ ကျွန်တော် ဝန်ခံတဲ့အထိ ပါပဲ။

"အေး မတန်မှန်းသိရင် နောက်ဆုတ်နေပေါ့ကွာ ဟုတ်လား၊ သူ့ကို လုံးဝ အဆက်အသွယ်မလုပ်တော့ပါဘူးလို့ ငါ့ကို ကတိပေးမလား။

"ဆရာကြီးက ကျွန်တော့ကို အဲသည်လို ကတိတောင်းပါတယ် ဆရာရယ်၊ ကျွန်တော့အဖို့တော့ မချစ်ဘဲလဲ မနေနိုင်ဘူး၊ ပစ်လဲ မပစ်နိုင်ဘူး၊ ဒါကြောင့် ပြန်ပြောလိုက်ပါတယ်။

"လုံးဝအဆက်အသွယ် မလုပ်ပါနဲ့ဆိုရင် မလုပ်ပါဘူးလို့ ကတိပေးပါမယ်၊ ဒါပေမဲ့ ကျွန်တော် နောက်တော့ မဆုတ်ပါရစေနဲ့ခင်ဗျာ"

"မင်းဟာက ဘာစကားလဲ"

"ကျွန်တော် မအေးကြွယ်နဲ့ တူတယ်တန်တယ်ဆိုတဲ့အထိ ကြိုးစားသွားပါရစေလို့ ကျွန်တော်ဆိုလိုတာပါ ဆရာကြီး၊ နောက် တစ်နှစ်အတွင်းမှာ မက်ထရစ် အောင်ရအောင် ကြိုးစားပြီး နောက်တစ်နှစ်မှာ စက္ကင်ဒရီဆရာဖြစ်အောင် ကြိုးစားပါမယ်။ အဲသည်လို အလယ်တန်းပြ ဆရာ ဖြစ်လာရင်သာ မအေးကြွယ်ကို ကျွန်တော်နဲ့ နေရာချထားပေးတော်မူပါ။ အကြွယ်နဲ့နေရင်းလဲ တိုးတက်မှုရှိသည်ထက် ရှိအောင်

လုံ့လပြုပါဦးမယ်။ ကျောင်းဆရာလုပ်ရင်းက သက်ကြီးတက္ကသိုလ်တက်ပြီး ဘီအေ မရောက်ရောက်အောင် ကြံပါ့မယ်။

"ကျွန်တော်က အဲသည်လို ကတိဝိဇ္ဇာန်ပြုတော့ ဆရာကြီးမှာ ကျွန်တော့ကို သနားလာလေသလား။ ကြိုးရှည်ရှည်နဲ့ လှန်လိုသလား မသိဘူးပေါ့ခင်ဗျာ၊ တော်တော်ကြီးစဉ်းစားပြီးမှ အခုရည်ရွယ်ချက်တွေ တစ်ထစ်ပြီးတစ်ထစ် အကောင်အထည်ပေါ်လာရင် သူ့သမီးနဲ့ ပေးစားမယ်ဆိုတဲ့ ပဋိညာဉ်ပေးပါတော့တယ် ဆရာရယ်။ သြော် မေ့နေလို့ ပြောရဦးမယ်၊ ကျွန်တော်နဲ့ ဆရာကြီး အရေးဆိုနေကြတဲ့ အချိန်မှာဆိုရင် ကြွယ်ကြွယ်က အိုင်အက်စီ စီနီယာရောက်နေပြီပေါ့ ခင်ဗျာ၊ သဘာဝနဲ့ စဉ်းစားကြည့်တော့ သမီးတက္ကသိုလ်ကျောင်းသူကို ဆယ်တန်းမအောင်သေးတဲ့ သမက်လောင်းနဲ့ သဘောမတူနိုင်တာတော့ ယထာဘူတကျပါတယ်လို့ ထင်စရာပေါ့"

မောင်ထွန်းကြိုင်က သူ့အကြောင်း သူပြန်ပြောရသည်ကို မြိန်မြိန်ရှက်ရှက်ကြီး ခံတွင်းတွေ့နေဟန်တူပါသည်။ မည်သူမဆို စိတ်ပါဝင်စားနားထောင်နေသူ၏ ရှေ့မှောက်တွင် ကိုယ့်ဇနပ္ပတ္တိကို တင်ပြနေရတာလောက် အာဝဇ္ဇန်းကောင်းတာ မရှိ၊ ဆေးရုံနှင့် အကျဉ်းထောင်တို့တွင် ဝေဒနာသက်သာသော လူနာနှင့် အလုပ်လက်မဲ့ အကျဉ်းသမားတို့အဖို့ စကားသာလျှင် အငြိုးပြေ အာဟာရကြီးတစ်ခု မဟုတ်ပါလော။

သူ့စကားကို ဖြတ်၍ လိုအပ်သော တီဘီရောဂါအကြောင်းဆီသို့ တိုတိုနှင့်ရှေးရှုရသော် မောင်ထွန်းကြိုင်မှာ တစ်နေကုန် တစ်နေ့ခန်း တကြော်ကြော် တအော်အော် သင်ကြားပြသရသောကြောင့် အဆုတ်တွင် အအိပ်မမှန် အစားမမှန်သော နွမ်းလျှမှုနှင့်တွဲ၍ အားနည်းကြုံလှီ၍ လာခဲ့လေသည်။ သူ၏ရည်ရွယ်ချက် ပန်းတိုင်ဖြစ်သော မက်ထရစ်

စာမေးပွဲ အောင်မြင်ပြီးသောအခါတွင် အဆုတ်တွင်ရေဝင်သော ပလူရေစီ ခေါ်သည့် ပဏာမ ပွဲဦးထွက်ဝေဒနာကြောင့် တစ်လနီးပါး ဆေးရုံတက်ခဲ့ ရသည်။ ထိုဝေဒနာ၏ အရိပ်အမြွက်ကား အပူချိန်တစ်ရာကျော်လောက် အောင် အပြင်းဖျား၍ ခန္ဓာကိုယ်ပေါ်တွင် အထူးသဖြင့် ရင်ဘတ်ပေါ်တွင် အချိန်တစ်ဆယ်နှစ်ဆယ် ဝန်ထုပ်ဝန်ပိုးကြီး တင်ထားရသကဲ့သို့ အသက် ရှူ၍မရ၊ အသက်ရှူ၍မဝ အောင့်သက်သက်ကြီးဖြစ်လာခဲ့သည်။ ထိုအခြင်း အရာမှာ ဖျားခါစအချိန်တွင် တစ်အောင့်ကြာ တစ်ခါလောက် နှိပ်စက်ရုံမျှ ရှိရာက အဖျားအပူချိန် ၁၀၁ ၁၀၂ တက်လာသော ကာလ၌ အသက် ရှူတိုင်း တင်းတင်းကျပ်ကျပ်ကြီး တောင့်လာတော့သည်။ ထို ဝေဒနာကို နာရီဝက်ခန့်သာ ဆက်တိုက်ခံစားရမည်ဆိုလျှင် အသက်ရှူကျပ်၍ ဖျတ်ခနဲ သေသွားလိမ့်မလားဟု ထင်ရလောက်သည်။ ခံရပါဖန်များသော် အသက် ရှူရမည်ကိုပင် ကြောက်လန့်လာမိသည်။ သို့သော် အသက်မရှူဘဲလည်း မနေနိုင်၊ နာဝက ခပ်မျှဉ်းမျှဉ်းကလေးစီး၍ ရှူရသည့်အခါ ရှူရ၍ ပါးစပ်က ရှူရသည့်အခါ ရှူရပြန်သည်။ သို့သော် ဘယ်ကရှူရှူ ဖြည်းဖြည်း ရှူလျှင် ဖြည်းဖြည်းအောင့်၍ အားရပါးရရှူလျှင် အားရပါးရအောင့်လေ တော့သည်။

ဤအခြေအနေရောက်မှ အိမ်မှာ ကု၍မဖြစ်နိုင်မှန်းသိပြီး ဆေးရုံကြီး သို့ တက်ခဲ့ရသည်။ ဆေးရုံတက်မှပင် အဆုတ်တွင် ရေဝပ်နေသော ရောဂါမှန်း ဆရာဝန်ကြီးများ၏ အဆုံးအဖြတ်နှင့် မောင်ထွန်းကြိုင်သိရ လေသည်။ ရေမြှုပ်နှင့်တူလှသော အဆုတ်မှာ ပဲကြီးရေစိမ်သကဲ့သို့ ပွထလာကာ ကျဉ်းကျပ်စွာ ခံစားရလေသည်။

ဆရာဝန်ကြီးများက မောင်ထွန်းကြိုင်၏ အဆုတ်ထဲမှ ရေတို့ကို ဖောက်၍ ထုတ်ပေးသည်။ ဝေဒနာသက်သာ၍ ဆေးရုံမှ ဆင်းခါနီးတွင်

အစားအသောက် အနေအထိုင်နှင့် ပင်ပန်းလွန်းမှုကို သတိပြုရန် သတိပေးလိုက်သည်။ ဤဝေဒနာမျိုးကား အဆုတ်နာ၏ နိဒါန်းပေတည်း။

မောင်ထွန်းကြိုင် ဆေးရုံမှ ဆင်းခဲ့ပြီး ၎င်းမှတစ်ဆင့် ဆရာဖြစ်သင်တန်းကျောင်းသို့ တစ်နှစ်ခန့် တက်ရသည်။ "စိုးပါနဲ့ မေရယ် မိုးကြယ်မို့လား" ဟူသကဲ့သို့ အလယ်တန်းပြလခ ၂၀၀ နီးပါးခန့်ရသည့် ဆရာအဖြစ်မှ အကြွယ်နှင့်နီးရမည် ဖြစ်လေရာ ခံစားခဲ့ဖူးသည့်ဝေဒနာတွေပါ မေ့ပျောက်အောင် ဖွဲ့နှင့် နပန်းသတ်ရပြန်လေတော့သည်။

ညမအိပ် နေ့မအား ဆရာဖြစ်သင်တန်း တစ်နှစ်လုံးလုံး ကြိုးစားလိုက်သောကြောင့် ရည်ရွယ်ချက်ပန်းတိုင်ကို အလံကိုင်၍ ပထမတန်းကဝင်ခဲ့ပါပြီ။ သူတောင့်တခဲ့သော ဆရာကလေးဖြစ်ခဲ့ပါပြီ။ ဆရာကြီးဦး သည် မောင်ထွန်းကြိုင်အပေါ်၌ မကျေနပ်၍မဖြစ်၊ သူ့စကားအတိုင်း သမီးနှင့် မထိမ်းမြား၍မဖြစ်၊ နည်းနည်းနှင့်ကျဲကျဲဝိုင်းကာ သမီးကို လက်ဆက်၍ သမက်အရာ ပေးလိုက်ရသည့်တိုင်အောင် သတိပေးစကားကလေးကဖြင့် ပြောကြားလိုက်ပါသေးသည်။

"မောင်ထွန်းကြိုင် နေ့ဘက်ကို စာသင်ပြီး ညဘက်ကို သက်ကြီးတက္ကသိုလ်တက် ဘီအေရောက်အောင် ဆက်ကြိုးစားနော်"

ချစ်သူနှင့် တွဲ၍ အောင်ပွဲခံခဲ့ရသော မောင်ထွန်းကြိုင်က အဘယ်မှာနှောင့်နှေးပါမည်နည်း။ ယောက္ခမကြီးက မျက်နှာချို၍ မယားကလေးကစေတနာပိုအောင် စာအုပ်တွေကို အရည်ကျို၍သာ သောက်ပစ်လိုက်ချင်သည်။ သမီးကို ချစ်၍ သမက်ကို နှစ်သက်လာသော ယောက္ခမကြီးကိုယ်တိုင်က သမီးရော သမက်ပါ လင်စုံမယားဖက်ကို သူ့အိမ်တွင်လက်ခံထားပေးသည်။

နေ့ဘက်တွင်စာသင်ပေး၊ ညဘက်တွင်စာသင်ယူ၊ နိစ္စဓူဝ ချစ်စခင်စကြင်နာစ မယားကလေးအသစ်စက်စက်နှင့် ဖွဲ့နပဲကြီးနေလိုက်သည်

မှာ သူ့ကိုယ်သူ သတိမထားမိ။ သူ့သွေးသူ့သား အဆွယ်အပွားယောကျ်ား ကလေးတစ်ယောက် ထွန်းပေါက်ခဲ့ပါပြီ။ ဖြူဖြူဖွေးဖွေး ရေဆေးငါးကြီး တမျှ ဝဝလင်လင် ချစ်ချင်စရာကောင်းသည့် မြေးကလေးကို ဘိုးအေကြီး ကိုယ်တိုင် လက်ထဲက မချ။ ၄ ၅ ဖလ တွတ်တွတ်တာတာ ပြော တတ်စ။ မောင်ထွန်းကြိုင်မှာ မယားစာသာမက သားကလေး၏ ရှေ့ရေးပါ သူ့စိမ်ကိန်းထဲတွင် ချဲ့တွင်လိုက်ရပါသည်။

သို့သော် 'ခါချဉ်မောင် မာန်ကြီးလို့ တောင်ကြီးကို ဖြိုမယ့်ကြံ၊ ခါးကမသန်' ဆိုသကဲ့သို့ သူ၏ ကျန်းမာရေးမှာ မသိမသာ ထိခိုက်စ ပြုခဲ့ပြီ။

မကြာခဏ နှာမွန်ခြင်း၊ ချေဆတ်ခြင်း၊ အနည်းငယ်မျှ လေစိမ်း မိုးစိမ်းမိလျှင် အအေးမိတတ်ခြင်း၊ အလုပ်လုပ်ပြီးစတွင် အဆမတန် မောပန်းနွမ်းနယ်ခြင်း၊ စိတ်လက်မအီမသာ ဖြစ်လာခြင်း၊ ခံတွင်းပျက်ခြင်း၊ ညဘက်တွင် ကိုယ်ပူ၍ ဖျားချင်သလိုလို ရှိခြင်း၊ ချွေးထွက်လွန်ခြင်းများ ဖြစ်လာသည်။ သူတကာ အိပ်ချိန်၌ အိပ်၍မပျော်၊ အိပ်မပျော်၍စဉ်းစား၊ အစဉ်းစားလွန်၍ အိပ်မရ၊ နံနက်အိပ်ရာက အထတွင် အိပ်ရေးမဝ၍ နောက်ကျိကျိ ဖြစ်ရပြန်သည်။ သို့သော် မယားနှင့် သားကလေးတို့ ပူးပူးကပ်ကပ် ချစ်ရေး မြှူပြန်တော့လည်း ဘယာနတ္ထိ ဘေးမရှိသကဲ့သို့ ပြန်လည်လန်းဆန်းလာသလိုလို ရှိရပြန်သည်။ ထို့ကြောင့် ချစ်၍မဝ ချစ်စမပြေ ချစ်လေ ချစ်လေ ချစ်ရလေသတည်း။

ကိုယ်အလေးချိန်ကို ချိန်တွယ်မထား၍ အတိအကျ မသိရစေကာမူ ရုပ်အင်္ကျီလည်ပင်းတွေ ကျယ်ကျယ်လာ၍ ကိုယ်ထည်က ပွလာမှန်းကို တော့ သတိထားမိသည်။ လက်ပတ်နာရီ သတ္တုကြိုးပင်လျှင် သူ့လက် ကောက်ဝတ်၌ ပတ်ပတ်လည်အောင် ချောင်စပြုလေပြီတကား။

သို့သော် ဒါတွေကို သူဂရုမစိုက်။ သူဂရုစိုက်သည်ကား မြန်မြန် ဥပစာတန်းကကျော်၍ ဝိဇ္ဇာ ဖြစ်ဖို့သာတည်း။

ချောင်း တဟွတ်ဟွတ် ဆိုးလာသည်။ မောင်ထွန်းကြိုင်ကား စီးကရက် မကောင်း၍ဟု အကြောင်းပြကာ ဆေးပေါ့လိပ်ကို ပြောင်းရှု ပြန်သည်။ သငှလိပ်ကပ်၍ ချွဲထသည်။ ဒါကိုတော့ မတည့်တာ စားမိ၍ အစားအသောက်ကို ယိုးမယ်ဖွဲ့သည်။ လျက်ဆားကလေး လျက်လိုက် သည်။ ရှောက်သီးဆေးပြားကလေး ငုံလိုက်သည်။ ဒါနှင့် မသက်သာလျှင် ဗလရှင်ဆေးပြားကလေး မြုံ့နေလိုက်သည်။ မကြာမကြာ ဝမ်းချုပ်တတ် သော အလေ့အကျင့် ရှိလာပြန်သည်။

ဝမ်းချုပ်တာ၊ ခတ်မသွားတာ၊ စမြင်းထိုးတာ လောက်ကတော့ အပန်းမကြီးပါ။ ဆီးရှင်ဝမ်းနုတ်ဆေးတွေ ဒုနှင့်ဒေး၊ ဝမ်းချုပ်သည့် ဝေဒနာလေးတစ်ပါးကို ထား၍ ကိုးဆယ့်ခြောက်ပါးနှင်နှင် ပျောက်ပါ သည်ဟု ဆေးတိုင်းက အာမခံသည်။ မှန်မှန် သွားလိုသော် ဆားဆီးဖြူ သီးခန့်စွက်၊ ခပ်ဖောဖော သက်လိုလျှင် ဂုံညင်းခန့်ထည့်၊ အဝင်မဆိုး၊ ရေလဲမရှိ။ ရောဂါငယ်လျှင် ပုလင်းတစ်ဝက်၊ ရောဂါကြီးလျှင် တစ်ပုလင်း၊ ၎င်းမှ မပျောက်သော် သုံးပုလင်း ဆက်၍စား၊ ဒါမှမပျောက် သော် ဆေးဖိုးကို ပြန်တောင်းဟု ဆေးတိုက်ရှင်များက ကောင်းကောင်းကြီး ကြော်ငြာကြသည် မဟုတ်လော။

သို့သော် ယနေ့အထိ ဘယ်ဆေးတိုက်ကိုမှ မည်သူတစ်ဦး တစ်ယောက်က ဆေးဖိုးပြန်တောင်းသည်ဟု သတင်းကောင်း မကြားရ။

ဤလိုဆိုလိုက်တော့ ပါဏာဝုဓဆေးကျမ်းကို စီရင်သူ အမ်ဒီဘွဲ့ရ ဆရာဝန်ကြီး အောစီဆယ်လမွန်၏ ရေးသားချက်ကို သတိရစရာ ကောင်းလှသည်။

သတင်းစာ၌ ကြော်ငြာသော ဆေးများသည် ရောဂါမှ ကင်းပျောက်စေမည်ဟု အချို့သောသူတို့က ပြောကြမည်။ ထိုကိစ္စ၌ ထိုသို့ ဆေးကို မှီဝဲခြင်းမပြုဘဲနေပါက ရောဂါသည် အလိုလို သာ၍ မြန်စွာ သက်သာလိမ့်မည်။ မူပိုင်ကန့်သတ်ကာ မှတ်ပုံတင်၍ ကြော်ငြာပြီး ရောင်းသော ဆေးမျိုးတို့ကို မှီဝဲသော သူတို့သည် ဘယ်လူမျိုးနှင့် တူပါသနည်းဟု ဆိုသော် လူမမာတစ်ယောက်သည် မှောင်မိုက်သော ညတစ်ညတွင် ဆေးဆိုင်သို့သွား၍ မီးလင်းမရှိဘဲ စင်ပေါ်မှာပထမတွေ့သော ပုလင်းကြီးကိုယူပြီး ၎င်းဆေးကို သောက်သောသူနှင့် တူလေသတည်း။

ချောင်းဆိုးသည်က မသက်သာသည့်အပြင် ပို၍ ပြင်းထန်လာသည်။ အဟွတ်ဟွတ်ဟု ဆိုးရာကလည်း ချောင်းဂလိုင်သံပါအောင် တဂုံဂုံမြည်လာလေသည်။ ဆိုးပြန်တော့လည်း ရပ်နားသည်မရှိ၊ မဆိုးပါဘူးဟဲ့ဟု အောင့်ကြည့်သည်၊ အောင့်၍ မရ။ အောင့်ထားနိုင်သည်ဟု ထင်ရာက အားရပါးရဆိုးချလိုက်ရသည်။ ဆိုးပြန်တော့လည်း ရပ်နား၍မှ မရ။ တစ်မိနစ်ကြာအောင် ဆက်တိုက်ပြင်းပြင်းထန်ထန် ဆိုးသည်။

သို့ကလောက် ဆိုးရတော့ မောလာသည်။ အမောမှ မပြေမီ ထပ်ဆိုးပြန်ပါပြီ။

"ဟော့ကောင်၊ မင်းချောင်းဆိုးသံ မကောင်းဘူး"

ဆရာကြီးက မလိုတမာ သတိပေးသည်။ မောင်ထွန်းကြိုင်ကတော့ မကြာမီ သက်သာပါလိမ့်မည်ဟု ဆင်ခြေပေးလိုက်သည်။

"ဟောဗျ"

မောင်ထွန်းကြိုင် လန့်၍ စိတ်ထဲမှ အော်လိုက်မိသည်ကား ချောင်းဆိုး၍ ခွဲဟပ်ထုတ်လိုက်သောအခါ သလိပ် ပျစ်ချွဲချွဲနှင့် ရောနှောပါလာသော သွေးစ သွေးနကလေးကို ပထမဦးဆုံး မြင်လိုက်ရသည့် အခါက ဖြစ်ပေသည်။

တစ်ခါတစ်ရံ မန်ကျည်းစေ့ခန့်၊ တစ်ခါတစ်ရံ ဆီးဖြူသီးခန့်၊ တစ်ခါတစ်ရံတော့လည်း သလိပ်သက်သက် သွေးမပါတော့ဟု ဝမ်းသာ၍ နောက်တစ်ချက် ဟပ်ကြည့်လိုက်တော့ ရဲခနဲ ပါလာပြန်ပါသည်။ မောင်ထွန်းကြိုင်မှာ ထိတ်ခနဲ ခေါင်းကြီးသွားရာက စိတ်ကတော့ ငယ်လွန်းမက ငယ်သွားမိသည်။

သူ့သွေး ပါလာသည်ကို ယောက္ခမကြီးနှင့် မယားသည် မမြင်ရအောင် ကပျာကယာ သုတ်သင်ရသည်။ ကိုယ် စိတ်မချမ်းသာတာထက် သူတို့ စိတ်မချမ်းသာမှာကို စိုးရိမ်သည်၊ သို့သော် ကြာကြာဖုံး၍ မရ။

"ဟင်၊ မောင် သွေးတွေပါလား"ဟု မယားက အထိတ်တလန့် အော်လိုက်သည်။ အကြွယ်၏ မျက်နှာမှာ ဆီးရွက်ကလေးလောက် ဖြစ်သွားတာကို မောင်ထွန်းကြိုင် မြင်လိုက်ရသည်။ ထိုအခါတွင်ကား မိမိရင်ထဲက အောင့်သက်သက် ဖြစ်ရသည်ထက် မယားကို မြင်ရတာက ပို၍ အောင့်သွားရှာသည်။

"ကိစ္စမရှိပါဘူးကွာ၊ ချောင်းဆိုးရလွန်းလို့ လည်ချောင်းကွဲတာပါ"

"လည်ချောင်း ကွဲတာကလဲ သွေးတွေ များလှချည်လား"

"အကြောကလေးတွေ ပြတ်သွားတာ ဖြစ်မှာပေါ့၊ ဒါမျိုးက မကြာခင် ပျောက်သွားမှာပါ"

"သွေးပါရင် အဆုတ်နာ ဖြစ်ပြီထင်တယ် မောင်"

"ဟာကွာ"

တစ်ခဏ ကလေးမှာပင် မောင်ထွန်းကြိုင် နှုတ်လေးသွားပါသည်။ ဘာကို ဆက်ပြောရမည်မသိ။ မျက်စိကလေးအကြောင်သားနှင့် မယားကိုပင် ကြည့်ကြည့်နေမိသည်။ အကြွယ်၏ မျက်လုံးမှ သောကအရိပ်အယောင် ထန်ပြန်ဟပ်သဖြင့် မောင်ထွန်းကြိုင်၏ မျက်လုံးအစုံမှာ စိုထိုင်းထိုင်း ဖြစ်လာလေပြီ။

"ဟာကွာ မင်းကလဲ နိမိတ်မရှိ နမာမရှိ"

အဆုတ်နာဆိုသော စကားကိုတော့ နားထဲမှာ နင့်သွားသောကြောင့် "ကျား ကျား မီးယပ်" ဆိုသလို ဖွတ်ငြင်းလိုက်ရသည်။ သူကိုယ်တိုင်လည်း မသင်္ကာတော့ပေ။ ထိုသည့်တိုင်အောင် ဆရာဝန်ထံ သွားမပြ၊ ဆရာဝန်ထံ သွား၍ အစစ်အဆေးခံလျှင် မကြားဝံ့ မနာသာတွေကြားရသိရမှာ စိုးရိမ်မိသည်။ ကြောက်မိသွားသည်။

တစ်နေ့မှ တစ်နေ့ သွေးကလေး ပါလိုက်၊ ပျောက်ကွယ်နေလိုက်။

တစ်နေ့သော် ညနေဘက်တွင် အဖျားတော်တော် တက်လိုက်သည်။ ည ၈ နာရီလောက်တွင်ကား မအောင့်နိုင်အောင် ချောင်းဆိုးလာသည်။ ခါတိုင်းလိုဆိုး၍ ခါတိုင်းလို ပေါ့ပေါ့နေမိသည့်အတွင်း လည်ချောင်းထဲတွင် နွေးခနဲဖြစ်လာကာ ပျို့လိုက်မိသည့်အချိန်မှာကား ထွေးခံထဲသို့ ရဲခနဲ ခြင်းခြင်းနီသည့်သွေးတွေ လက်ဖက်ရည်ပန်းကန်တစ်လုံးစာလောက် အန်ချလိုက်ရလေသတည်း။

"ကဲ ဆရာ အဲဒါ ကျွန်တော် စဖြစ်တဲ့အကြောင်းအရာတွေပါပဲ။ အဲသည့်ညကမှ ထိပ်မြွေပေါက်သလို ကမန်းကတန်း ဆေးရုံကြီးကို ရောက်၊ ဆေးရုံကြီးကျတော့ နှစ်ခါဆက်အန်၊ ဒါနဲ့ အခုတီဘီဆေးရုံ ရောက်ခဲ့ရတာပါ။ ဆေးရုံရောက်တဲ့ ညကဆိုရင် ငါတော့ ကိစ္စချောပဟဲ့၊ အဆုတ်နာနဲ့ သွေးအန်ပြီးသေရတော့မှာပဲဆိုတဲ့ စိတ်က ပိုပြီး နှိပ်စက်လိုက်တာ စကားတောင်မှ မပြောနိုင်ပါဘူး ဆရာ။ ညကြီးမင်းကြီး အချိန်မတော် ဆေးရုံမှာ ကျွန်တော်ဟာ နေရစ်ခဲ့ရပြီး အကြွယ်တို့ သားအဖ အိမ်ပြန်ကြတော့ ဆရာရယ် ကျွန်တော်ဖြင့် နောက်တစ်ကြိမ် အကြွယ်မျက်နှာကို မြင်မှမြင်ရပါတော့မလားလို့ ဓမ်းနည်းပြီး စိတ်ထိခိုက်လိုက်တာ မျက်ရည်ပေါက်ပေါက် ကျလာတာပါပဲ။ အကြွယ်ကဆိုလဲ ရှိုက်ကြီးတငင်ပေါ့"

ဤသို့နှင့် မောင်ထွန်းကြိုင်သည် သူ့စကားကို နိဂုံးကမွတ် အဆုံးသတ်လေတော့သည်။ ကျွန်တော်စုံစမ်းခဲ့သမျှ ရာခိုင်နှုန်း ကိုးဆယ်လောက် တူညီတာ တစ်ခုတော့ မောင်ထွန်းကြိုင်ထံမှ သိရပါသည်။ ထိုအချက်မှာ အခြားမဟုတ်၊ ကိုယ့်ကိုယ်ကို တီဘီဖြစ်လေသလောဟု ယုံမှားသံသယ ဖြစ်ခဲ့ကြပေမယ့် ထိုသံသယကို ဆရာဝန်များနှင့် အတိအကျ အစမ်းအသပ်မခံခြင်း၊ ဓာတ်မှန်မရိုက်ကြခြင်းပင် ဖြစ်သည်။ ကိုယ့်ကိုယ်ကို လိမ်လည်လှည့်ဖြား၍ ဝေဒနာကို ထိမ်ဖုံးထားခြင်းအားဖြင့် နေ့ရှည်ရက်ကြာ အဆောက်အအုံ ကြီးမားစေခဲ့သည်။ နောက်ဆုံး မရှုနိုင် မကယ်နိုင် မဖုံးနိုင် မဖိနိုင်အခြေနေကျမှ ဆေးရုံကို အားကိုးကြခြင်းသည်လည်း အပ်နှင့်ထွင်းရမည်ကို ပုဆိန်နှင့် ပေါက်ရသည့်ကိန်းမျိုးပင်။

ဝေဒနာကျွမ်းခါမှ ဆေးရုံ ရောက်လာကာ တီဘီရောဂါပိုးတွေက ဆရာဝန် မကယ်နိုင်လောက်အောင် အဆုတ်တစ်ခုလုံး ဘုဉ်းပေးသုံးဆောင်၍ လူနာ သေကြရသည်ကို လူတကာ၏ အစွဲအလမ်းကတော့

အဆုတ်နာ ဖြစ်ရင် သေလေရော ဟူသတည်း။

မောင်ထွန်းကြိုင်သည် ကျွန်တော့ထံ ခဏခဏလာ၍ စာပေအကြောင်း၊ ရုပ်ရှင်အကြောင်း ဆွေးနွေးလေ့ရှိသည်။ သူ့ဘဝ သူ့အကြောင်း သီကောင်းစရာကလေးတွေကိုလည်း ပြောလေ့ရှိသည်။ သို့နှင့် သူ၏ မွန်ရည် ခင်မင်တတ်သော ဆက်ဆံရေးက ကျွန်တော့အား ရင်းနှီးတွယ်တာစေတော့သည်။

တစ်နေ့သော် သူနှင့် တစ်ခန်းတည်းနေရသည့် မောင်စိန်တင် ဆိုသူနှင့် သူ့အကြောင်း စကားစပ်မိပြန်သဖြင့်

"သူ(မောင်ထွန်းကြိုင်) ဆရာ့ဆီလာပြီး စကားပြောနေတာ သူ့စိတ်သူ ကြံဖန်ပြီး ဖြေနေတာ ဆရာရဲ့၊ ဒီလူက သူ့မယားနဲ့ သူ့သားကလေးကို

အစွဲအလမ်း သိပ်ကြီးတာ၊ ကိုယ့်သားမယား ကိုယ် မတွယ်တာရဘူးလို့ ကျွန်တော်မပြောပါဘူး။ ဒါပေမဲ့ ဒီလူက လွန်လွန်းတယ်၊ ကျွန်တော်တို့ တစ်ခန်းလုံး သူ့စကားကို နားထောင်ချင်တဲ့လူ မရှိဘူး။ တစ်ခါလာလဲ သူ့မယားကို သူ ဘယ်လောက်ချစ်တဲ့အကြောင်း၊ သူ့သားကလေး ဘယ်လောက် ချစ်စရာကောင်းတဲ့အကြောင်း၊ ဒီဆေးရုံမှာ ဘယ်လောက် ကြာကြာကြီး ခွဲနေရဦးမလဲ၊ သူ့ရောဂါ မြန်မြန်ကြီးပျောက်၊ မြန်မြန်ကြီး ပြန်ချင်တဲ့အကြောင်း ဒါတွေ ပြောပြောပြီး မကြာမကြာ ငိုတတ်တယ် ဆရာရဲ့။ ဒီလိုစကားမျိုးတွေ ဘယ်လူနာက ခဏခဏ နားထောင်ချင်မလဲ၊ ဆရာပဲ စဉ်းစားကြည့်ပါဦး။ လူတိုင်းလူတိုင်း ဒီဒုက္ခ ဒီသောကမျိုးတွေ ခံစားနေကြရတာ။ ဆင်အိပ်ရာ ဆိတ်နိုးသလို ဖြစ်ကုန်ကြတာပေါ့၊ သူကသာ ဒါလောက်ဖြစ်နေတာ၊ သူ့မယားနဲ့ သူ့ယောက္ခမကြီးက နေ့တိုင်း သူ့ကိုလာကြည့်တာ မဟုတ်ဘူး။ လာပြန်လဲ ဝတ်ကျေတန်းကျေ နည်းနည်းပါးပါး မေးမြန်းပြီး ညှို့ပြန်ချိန်အထိတောင် နေတာမဟုတ်ဘူး ဆရာရဲ့။ အခုဆို သူ့မိန်းမတောင် လာတာမတွေ့ဘူး။ သုံးလေးရက် တစ်ခါလောက် သူ့ယောက္ခမကြီးသာ လာတော့တယ်"

"အလုပ် မအားကြလို့ ထင်ပါရဲ့ဗျာ"

"မအားလို့ မလာတာနဲ့ မလာချင်လို့ မလာတာ အသိသာကြီး ပါ ဆရာရယ်။ လာပြန်တော့လဲ နှာခေါင်းတွေ၊ ပါးစပ်တွေ၊ လက်ကိုင် ပဝါနဲ့ ပိတ်ထားလိုက်ကြတာ ခုချက်ချင်း တီဘီကူးပြီး ခုချက်ချင်း လဲသေတော့မတတ်ဘဲ"

"လူနာဆီလာတဲ့အခါ ဒါဟာ နည်းလမ်းအမှန်ဆုံးပေါ့ ကိုစိန်တင်ရာ ကူးစက်တတ်တဲ့ ရောဂါမျိုး မဟုတ်လား။ အခုချက်ချင်းကူးပြီး ရောဂါမဖြစ်ပါဘူးဆိုပေမယ့် မြင်ရတာမှမဟုတ်ဘဲ ကြိုတင်ကာကွယ် ခြင်းဟာ ကောင်းတာပေါ့။ ဒါကြောင့် လူနာရဲ့ ခုတင်ပေါ်ကို လူနာ

မေးတဲ့လူတွေ တက်မထိုင်ကြဖို့ ဆရာ ဆရာမများက ပြင်းပြင်းထန်ထန် သတိပေးတာပေါ့"

"ဟုတ်တော့ ဟုတ်ပါတယ်။ ဒါပေမဲ့ ဆရာရယ် ကူးမှာစိုးလို့ လာမမေးချင်လဲ နေပေါ့။ လာတော့မှတော့ ကုဋ္ဌနူနာတွေဆီ လာသလို ဣန္ဒြေပျက်လောက်အောင် ကြောက်သလိုလို ရွံ့သလိုလို အမူအရာတွေက တော့ လူနာတွေကို စိတ်ဓာတ်ကျဆင်းနိုင်တယ် မဟုတ်လား"

ကိုစိန်တင်က ပြောလိုက်တော့ ကျွန်တော့ကိုယ်တွေ့ တစ်ရပ်ကို ချက်ချင်း သတိရလိုက်ပါသည်။ ဆေးရုံကလူနာတွေ စိတ်ပြေလက်ပျောက် ဖတ်ကြစေရန် မဂ္ဂဇင်း၊ ဂျာနယ်၊ ရုပ်စုံ စသည်တို့ကို မကြာမကြာ သွားဝယ်နေကျအတိုင်း တစ်နေ့တော့ စမတ်အင်မိုဂါဒင် စာအုပ်ဆိုင်သို့ ရောက်သွားသည်။ ပြန်အထွက်တွင် "ဟေး ကိုသုခ" ဟူသော အသံနှင့် အတူ ဝမ်းသာအားရ ပြေးဖက်လာသော ကျွန်တော့မိတ်ဆွေကို တွေ့လိုက်ရသည်။ ထိုမိတ်ဆွေမှာ စစ်မဖြစ်မီ အတောကလေးအထိ အတူနေ အတူစား အတူအိပ်ခဲ့သော ဝါသနာတူ ခင်မင်ရင်းနှီးသူ ဖြစ်ခဲ့သည်။

ယခု ဘယ်ကလာ၍ ဘယ်သို့သွားမည်နည်း စသော ပဋိသန္ထာရ ပြုသဖြင့် ကျွန်တော်က ဆေးရုံတက်နေရကြောင်း၊ ယခု သက်သာ၍ လူနာများဖတ်ရန် စာအုပ်လာဝယ်ကြောင်း၊ ယခု ဆေးရုံသို့ ပြန်သွားရမည့် အကြောင်း ဝမ်းသာအားရ ပြောလိုက်သဖြင့် အံ့အားသင့်သွားကာ

"ဘာဖြစ်လို့ ဆေးရုံတက်ရတာလဲဗျ" ဟု အမေး

"တီဘီ" ဟု စကားနှစ်လုံးပင် ဖြေလိုက်ရသည်။

ကျွန်တော့ကို ဖက်ထားသော လက်နှစ်ဖက် ပြုတ်ထွက်သွားပြီးသည့် နောက် မြွေတစ်ကောင်ကို ကိုင်မိမှားသကဲ့သို့ နောက်သို့ တစ်လှမ်း ခုန်၍ ဆုတ်လိုက်သည်။

သူ့မျက်နှာထား မျက်စိ မျက်နှာပျက်လွန်းအားကြီး၍ သရဲတစ္ဆေ မြင်လိုက်ရသလို ရှိသည်။

"အေးဗျာ၊ ကျွန်တော် သွားဦးမယ်"

စကားအဆက်အစပ်မရှိ ခပ်ပြောင်ပြောင် ငုံးတိတိပင် ပြောပြော ထွက်ထွက် ကျွန်တော့အပါးမှ ထွက်ပြေးသည့်အခါ ကျွန်တော့မှာ ကြောင်တက်တက်ပင် ကျန်ရစ်ခဲ့ရသည်။

အလွန်ခင်မင် မွန်းတီးခဲ့သော မိတ်ဆွေ။ မိတ်ဆွေထက် မကသော သူငယ်ချင်း။

ကျွန်တော်မှာ မတတ်တတ်က မရှေ့။ ငိုင်တွေ ဝမ်းနည်းလာလေသည်။ ဖွန့်ပြေးသော ထိုမိတ်ဆွေကြောင့်တော့ မဟုတ်။

ဒီရောဂါမျိုးကို လူအသိုင်းအဝိုင်း၊ အဖွဲ့အစည်းက လက်မခံကြတော့ဘူးလား။ လူတောထဲ ငါပြန်၍မှဝင်နိုင်ပါတော့မလားဟူသည့် ဝမ်းနည်း အားငယ်သည့်စိတ်က ဆေးရုံအရောက်တွင် ခြေပစ်လက်ပစ် လှဲလိုက် ရသည်။

ယင်းသည့် တစ်ခဏကလေး ခံစားလိုက်ရသော စိတ္တဇမှာ ၁၀ ရက်လောက် လူမမာကြီးဖြစ်အောင် နှိပ်စက်လိုက်လေသည်။

မောင်စိန်တင်၏ စကားကို ကျွန်တော် ကိုယ်တွေ့နှင့် ကိုယ်ချင်းစာ ကြည့်မိသည်။ လူနာတိုင်း ဤစိတ်မျိုးတော့ ရှိကြပေမည်။

တနင်္ဂနွေနေ့ တစ်နေ့ နံနက် ၉ နာရီခန့်တွင် ကျွန်တော့မိတ်ဆွေ မောင်ထွန်းကြိုင် ဝတ်ကောင်းစားလှနှင့် ကျွန်တော့ထံသို့ ပေါက်လာ ပြန်သည်။

"ဆရာ ကျွန်တော် ဒီနေ့ အိမ်ပြန်ခွင့်ရတယ်။ ဘာများ အလိုရှိသလဲ။ ညနေ အပြန် ကျွန်တော်ဝယ်ခဲ့ပါမယ်"

(ကျန်းမာရေး အခြေအနေတိုးတက်မှုရှိသော လူနာများကို ကိုယ်ရေးကိစ္စ အိမ်တွင်းရေးကိစ္စစသည်များ စီမံဆောင်ရွက်နိုင်ရန် နံနက် ၁၀ နာရီမှ ညနေ ၅ နာရီအထိ မြို့တွင်းသို့ ထွက်ခွင့်၊ အိမ်သို့ ပြန်ခွင့် ပြုပေသည်။ သို့သော် ထိုလူနာ၏ တံတွေးနှင့် သွေးတို့ကို စိတ်ချလောက်မှ ဆရာဝန်များက ခွင့်ပြုခြင်း ဖြစ်၏။ ကာလအားဖြင့် ဆေးရုံတက်သောရက်အနည်းဆုံး ၂ လ ကြာမှလည်း ခွင့်ပြုတတ်သည်။)

မောင်ထွန်းကြိုင်ကို ကြည့်ရသည်မှာ ရှင်လူထွက်စ သူငယ်ကလေးလို ကြွကြွရွရွ မြူးနေသည်။ သူ့ကိုယ်သူ ဆေးရုံမှဝတ်စုံကို ချွတ်၍ အရပ်ဝတ်အရပ်စား ဝတ်ထားရသည်ကိုပင် အင်္ကျီလည်ပင်းကို ပြင်လိုက်၊ ပုဆိုးခါးပုံစကလေးကိုပြင်လိုက်နှင့် တသသ ရှိနေသည်။ ခေါင်းဖြီးထားလိုက်သည်မှာတော့ ချပ်ချပ်ရပ်ရပ် ပြောင်ပြောင် လက်လက် ဖြစ်နေသည်။ အထူးသဖြင့် ပထမအခေါက် ပြန်သူတို့အဖို့ အလွန် ဝမ်းသာအားရ ရှိကြသည်။ ဆေးရုံတည်းဟူသော ပတ်ဝန်းကျင်တွင် ရက်ပေါင်း ၄၅ ၆၀ စိတ်၏ ကျဉ်းကျပ်ခြင်း၊ ကိုယ်၏ မလွတ်လပ်ခြင်းအကြားမှ ကိုယ့်အိမ်ကိုယ့်ရာ၊ ကိုယ့်သားကိုယ့်မယားစသည်တို့ဖြင့် လွတ်လွတ်လပ်လပ် ပြန်တွေ့ရမည်ကို မည်သူဝမ်းမသာဘဲ ရှိရှိမည်နည်း။

"ခင်ဗျား၊ ဒါ ပထမဆုံး ထွက်ရတာ ထင်တယ်"

"ဟုတ်တယ်ဆရာ။ ကျွန်တော် ပြန်ခွင့်လက်မှတ် တောင်းနေတာ ၃-၄ ပတ် ရှိပြီ။ ဒီနေ့မှ ရတော့တယ်။ ဟဲ ဟဲ ဟဲ"

ကိုထွန်းကြိုင်ကရယ်လိုက်သောအခါ ကျွန်တော့အားရှိ ခပ်ရွှတ်ရွှတ်ကိုကျင်လှိုင်ဆိုသူက

"အေး ကိုယ့်လူ အိမ်ရောက်ရင် ရာဇဝင်ကြွေးတော့ ဆပ်မယ် မကြံနဲ့နော်၊ အပြန် ဗုန်းဗုန်းလဲနေဦးမယ်"ဟု ဝင်၍ ထောက်သော ကြောင့်

"ဟာဗျာ ခင်ဗျားကလဲ" ဟု မောင်ထွန်းကြိုင်က ရှက်ကိုးရှက်ကန်း ရယ်လိုက်ပါသည်။ သူ စိတ်မလုံသည်ကို ကျွန်တော်တို့ပါ ဝိုင်းရယ်ကြရသည်။

"အဟုတ် ပြောတာနော်။ ခင်ဗျားနဲ့ တီဘီနဲ့ ရာဇဝင်ကြွေးနဲ့ဟာ ဓမ္မာသောကပဲ။ နဂိုကမှ အင်အားချိ့တဲ့လွန်းလို့ တီဘီပိုးတွေက မင်းမူနေကြတာ။ ၅ နံပါတ်အခန်းထဲက ကိုသာလှဆိုတဲ့ လူတစ်ယောက်ပေါ့။ နည်းနည်းကလေး ထူထူထောင်ထောင်ရှိလို့ သူ့အိမ်တစ်နေ့လား ပြန်လိုက်ပါတယ်။ ည ၃ နာရီထိုးလောက်ကြီး သွေးတွေအန်တာနဲ့ ၃ နံပါတ်အခန်းထဲ ရွှေ့လိုက်ရပါရော။ အဲဒီဒဏ်ဟာ တစ်လလောက် ပြန်ပြီး မနည်းကုယူရတယ်။ ကိုစိန်ဟုတ်ဆိုတဲ့ လူတစ်ယောက်ကတော့ တနင်္ဂနွေနေ့ ၃ ပတ်လား အိမ်ကို ခိုးခိုးပြန်လိုက်တာ နောက်ဆုံး ၃ ခန်းထဲက ရေခဲတိုက်ထဲ ပြောင်းသွားရတာပဲ ခင်ဗျား"

ရန်ကုန်တီဘီဆေးရုံ အခန်းနံပါတ် ၃ မှာ သွေးအန်နေသောလူနာများကိုသာ သီးသန့်၍ ထားသောအခန်းဖြစ်သည်။ ရေခဲတိုက်ဆိုသည်ကား သေပြီးလူနာများထားရာ အအေးခန်းဖြစ်သည်။

ကိုကျင်လှိုင်ဆိုလိုသော ရာဇဝင်ကြွေးနှင့် ပတ်သက်၍ တီဘီဝေဒနာ စပ်ဆိုင်ရာစာတမ်းတို့၌ ကျပ်တည်းစွာ တားမြစ်ထားကြသည်။ ကိုယ်လက်၏ နွမ်းနယ်မှုမှာ သစ်ပင်တစ်ပင်ကို ခုတ်လှဲရသည့် ပင်ပန်းပုံနှင့် အမျှ နှိုင်းယှဉ်၍ ပြကြသည်။ သွေးကုန်ခန်းခြင်းကိုမူ သုက်သွေးတစ်စက်သည် ကိုယ်တွင်းသွေးစက်ပေါင်း ၄၀ နှင့် ညီမျှသည်ဟု စံနှိုင်းပြကြသည်။ ကျွန်ုပ်တို့ မြန်မာကျမ်းစာများ၌လည်း ထိုသို့သော ကိလေသာ၏ အပြစ်ကို "ခွန်အားယုတ်ပျက်၊ ကိုယ်လက်ပူလောင်၊ ဆင်းရောင်ပျက်စီး၊ ကုတ်ဟီးချောင်းဆိုး၊ နာမျိုးတည်ရာ" ဟုဆိုကြသည်။ ကုတ်ဟီးချောင်းဆိုး ဆိုသည်ကား အ ၃ဏ်နာ၏ ပဏာမညီလာခံပေတည်း။

မောင်ထွန်းကြိုင်သည် ကိုကျင်လှိုင်တို့လူစုကို ပြန်လည် နောက်ပြောင်ရင်း အခန်းထဲမှ သွက်သွက်လက်လက် ပျော်ပျော်ပါးပါး ထွက်သွားရှာသည်။

"ကျွန်တော်တော့ ဒီလူ အိမ်ပြန်တာ သိပ်မကြိုက်ဘူးဗျာ"

"ဟုတ်တယ်ဆရာ။ ကျွန်တော်ကတော့ မဟုတ်မှလွဲရော ရာဇဝင်ကြွေး ဆပ်ရအောင် သွားတာပဲ"

"ဒါလောက်တော့ နားလည်ပါလိမ့်မယ် ထင်ပါရဲ့ ကိုကျင်လှိုင်ရာ၊ သူလဲ ကျောင်းဆရာပဲ။ ကျွန်တော်ဆိုလိုတာက မြို့ထဲကို မထွက်ဘဲနေရင် အကောင်းဆုံးပဲ။ တီဘီရောဂါဟာ ငြိမ်နိုင်သမျှ ငြိမ်နေ ကိုယ်ရော စိတ်ပါ အနားယူနိုင်သလောက် ယူ။ ဒါဟာ ဆေးစွမ်းကောင်းကြီး တစ်လက်ပဲ။ နေနိုင်ရင် အိပ်ရာထဲ ပက်လက်နေတာ အကောင်းတကာ့ အကောင်းဆုံးပေါ့"

"မြို့ထဲထွက်ရင် ကုန်းကြောင်း လျှောက်ရင်လျှောက် မလျှောက်ရင် ဘတ်စ်ကားစီး၊ ဆိုက်ကားစီး အဲဒီဒဏ်ဟာ မကျက်သေးတဲ့ အဆုတ်က အနာဟာ ကွဲသည်ထက် ကွဲစေတယ်။ ဥပမာ ပေါင်တို့၊ လက်မောင်းတို့မှာ ထိခိုက်တဲ့ဒဏ်ရာဟာ မြန်မြန်အနာကျက်ပြီး ပျောက်ချင် ပျောက်လိမ့်မယ်။ ဒူးကောက်ကွေးတို့ လက်ဆစ်၊ ခြေဆစ်တို့မှာ ပေါက်တဲ့ အနာဆိုရင် တော်တော်နဲ့ ပျောက်ခဲတယ်။ ဒါဟာ ဘာဖြစ်လို့လဲဆိုတော့ စုလိုက်၊ ဆန့်လိုက်၊ ကွဲလိုက်၊ ဟလိုက် ဖြစ်လွန်းလို့ပေါ့။ အဲ အဲဒီ အနာကမှ မကွေးအောင် မဆန့်အောင် ပတ်တီးစီးထားသေးရင် ရမယ်။ ကျပ်စီးထားသေးရင် ရမယ်။ ပလတ်စတာ ကိုင်ထားရင် ငြိမ်လိမ့်ဦးမယ်။ ကျွန်တော်တို့ အဆုတ်က အနာဆိုတာက ဘာကိုမှ မချုပ်ချယ်နိုင်တဲ့ အပေါ်မှာ အသက်ရှူလိုက်တိုင်း ပွလိုက်၊ ပိန်လိုက် လုပ်နေရတော့ တော်ရုံကန်ရုံ အနာဟာ ဘယ်ကျက်နိုင်တော့မလဲ။ ဒါကြောင့် အပျောက်

မပြန်နိုင်ကြတာပေါ့။ နောက်ဆုံးဗျာ လူကသာ အိပ်ပျော်နေမယ်။ အဆုတ်က ၂၄ နာရီလုံးလုံး ပိန်လိုက်၊ ဖောင်းလိုက် အလုပ် လုပ်နေကြရတာ မဟုတ်လား။ သူ့မှာ ရပ်နားနေရတဲ့အချိန်ကို မရှိဘူး။ ဒါကြောင့် အရေးတကြီးလိုအပ်ရင် အေပီလို့ခေါ်တဲ့ အဆုတ်ရဲ့ ပတ်ဝန်းကျင်ကို လေသွင်းပေးပြီး အဆုတ်များများ မပွအောင် လေအားနဲ့ ညှပ်ဖိထားရတာပေါ့။

"ကျွန်တော့ကို လူနာ ဦးပဥ္စင်းတစ်ပါးက ပြောဖူးတယ်။ သူ့ကို ဆရာဝန်တွေက ခုတင်ပေါ်မှာ အအိပ်ချည်းပဲ ခိုင်းနေတယ်တဲ့။ ဆေးရုံတက်တာ ဆေးကု၊ ဆေးထိုးပေးစေချင်လို့ တက်တာမှာ အိပ်သာနေရမယ်ဆိုရင် ကိုယ့်ကျောင်းကိုယ်ကျိန်းနေလဲ အဖြစ်သားပဲတဲ့ဗျာ။ အဲသည်လို ပြောလို့ အိပ်နေခြင်းရဲ့အကျိုးတရားနဲ့ ကျောင်းနဲ့ ဆေးရုံနဲ့ နေရတာခြင်း မတူတဲ့အကြောင်း တတ်သလောက် မှတ်သလောက် ရှင်းပြရသေးတယ်"

တီဘီဆေးရုံတွင် ည ၆ နာရီခွဲအချိန်မှာ ဓမ္မစကြာသုတ်တော်ကို စုပေါင်းရွတ်ဆိုကြမြဲ ဖြစ်သည်။ အစက ကျွန်တော် တစ်ယောက်တည်း နောက် အိပ်ရာပါးနီး၊ ထိုကမှ အခန်းပါးနီး၊ သုံးလေးယောက်မှ လေးငါး ဆယ်ယောက်၊ လေးငါးဆယ်ယောက်မှ အစိတ်သုံးလေးဆယ်၊ ငါးဆယ်၊ နောက်ဆုံး မိန်းမ လူနာခန်းပါ ရွတ်ဆိုကြသည်။ မရသေးသူများလည်း ကြားရဖန်များ၍ ရလာကြသည်။ တရားဆင်ခြင်ကြတဲ့ အခါ ခဏလေးဖြစ်စေ စိတ်ပြေလက်ပျောက်အပြင် ဝေဒနာကို မေ့ထားကြရန် ဖြစ်ပါသည်။

ထိုနေ့ညက ဓမ္မစကြာသုတ် တစ်ဝက်လောက်အရောက်တွင်

"ဖြစ်ချင်တာလဲ မဖြစ်ရပါ။ မဖြစ်ချင်တာလဲ ဖြစ်ရမှာ"ဟု ဆူးဆူးဝါးဝါး အော်ဟစ်သံကို ကြားရ၍ အံ့အားသင့်သွားကြသည်။ မကြာမီ အခန်းနံပါတ် ၂ မှ လူနာတစ်ယောက် ပြေးဝင်လာပြီး

"ဆရာတို့၊ ဆရာတို့ ကိုထွန်းကြိုင်တစ်ယောက် အရက်တွေမူးလာလို့ ဆရာမတွေကိုလဲ ကလန်ကဆန် လုပ်နေပြီ"ဟု ပြောသဖြင့် ဟာ့ခနဲ ဖြစ်ကုန်ကြရသည်။ ဟုတ်ပါသည်။ သူ၏မူးသံနှင့် သီချင်းသွားကို ကျွန်တော်တို့လူစု ခမ္ဘစကြာတရားတော်က အတော်အုပ်ဆိုင်းလိုက်ရပါသည်။ သူ့အခန်းသို့ သွားကြည့်မိသောအခါ

"ဆရာ၊ ဆရာ့ သီချင်းအတိုင်းပဲ ခင်ဗျ။ ဖြစ်ချင်တာလဲ မဖြစ်ရပါ"

ကျွန်တော်အံ့အားသင့် ကြည့်နေမိသည်။ သိုးကလေးလို အလွန်သိမ်မွေ့ရာက ယခုမူ ကျားရိုင်းလို ကြမ်းကြုတ်ဆိုးရွားနေလေပြီ။ ဘယ်သူ့စကားကိုမျှ နားမထောင်၊ အော်ချင်သလို အော်နေသည်။ ဆရာမကလေးများမှာ သူ့ကို ကြောက်သည်။ ဆရာဝန်ကြီးတွေနှင့် ဆရာမကြီးတွေလည်း လန့်နေရသည်။ သူ့ကို ဘယ်သူမှ မနိုင်။ သို့သော် မကြာပါချေ။ သူ့အဖြေ အုံပွင့်၍ ထွက်လာခဲ့ပါသည်။

"ဆရာရေ ဆရာရဲ့၊ ကျွန်တော့ကို ယောက္ခမကြီးက နှင်ချလိုက်ပြီဆရာရဲ့။ ကျွန်တော့အဆုတ်နာဟာ ဘယ်တော့မှ မပျောက်ဘူးတဲ့။ မပျောက်တဲ့အပြင် သူ့သမီးရော၊ သူ့မြေးရော၊ သူ့ကိုကော ကူးစက်ကုန်တော့မတဲ့။ ဒါကြောင့် သူ့အိမ်ပေါ်မှာလဲ မနေနဲ့။ လာလဲ မလာနဲ့၊ ပေါင်းလဲ မပေါင်းနဲ့၊ ဆေးရုံက ဆင်းလာရင် အပြီးအပြတ် ကွာပေးရတော့မတဲ့ ခင်ဗျ။ ကောင်းနိုင်ကြသေးရဲ့လား။ ကျွန်တော် ဖြစ်ချင်တာ ဘာမှမဖြစ်တော့ဘူး။ ဒီတော့ ဘာထူးသေးသလဲ ဆရာရယ်၊ ဘဝသံသရာထဲ ကျွန်တော် လည်ချင်တိုင်း လည်တော့မှာပေါ့။ မြန်မြန်လည်ရင် မြန်မြန်သေ။ မြန်မြန်သေမှ မြန်မြန်အေးတော့မှာပဲ။ ပျော်လိုက်ရွှင်လိုက် ငိုကာရယ်ကာ ဘယ်ဟာမဓာည်မြဲ ဖောက်လွဲဖောက်ပြန် အကြောင်းခံ ကမ္ဘသကာ"

မောင်ထွန်းကြိုင်က နောက်ဆုံးတွင် ချုံးပွဲချ၍ ငိုလိုက်ပါသည်။

ကျွန်တော်တို့ တစ်တွေမှာ သူမူးလာ၍ ဒေါသမဖြစ်နိုင်ကြတော့။ ယူကျုံးမရဘဲ ငိုင်နေမိကြသည်။ တာဝန်အလွန်ကြောက်သော ဆရာမကလေးတွေပင် မျက်ရည်ကလေးတွေ ဝဲ၍ ရပ်ကြည့်နေကြသည်။ ကျွန်တော်တို့က ချော့သည်။ အားပေးသည်။ အဆုတ်နာပျောက်နိုင်ကြောင်း တရားဟောသည်။

"ဆရာ၊ ကျွန်တော် မပျောက်ချင်တော့ဘူး။ သေချင်တာပဲ ရှိတယ်။ သွေးများများ အန်ချင်တယ်။ အသက်ရှုရပ်သွားလောက်အောင် မောချင်တယ်။ ဒါပဲ"

သူ့ကို ကျွန်တော်အမျိုးမျိုး ဖျောင်းဖျသည်။ အဆူသာရပ်သည်။ အငိုမရပ်တော့။

ညလှည့်ဆရာဝန်က လာ၍ ချော့မော့ပြီး အိပ်ဆေးထိုးပေးသဖြင့် မကြာမီ အိပ်ပျော်သွားပါသည်။ သူအိပ်ပျော်သွားပေမယ့် ကျွန်တော်တို့ လူစုကား အိပ်၍ မရတော့။ စုဝေး၍ ဆွေးနွေးကြသည်။ ရင်ထုမနာ ဖြစ်ကြရသည်။

"ဒီညတော့ သွေးပူနေလို့ပါဗျာ။ မနက်ကျ ပြီးပြီးပျောက်ပျောက် မီးသေသွားမှာပေါ့"ဟု ကိုကျင်လှိုင်က ပြောသည်။ ကိုစိန်တင်ကတော့ သူ့ယောက္ခမကြီးကို ဆဲဆိုရေရွတ်သည်။ ကိုကျင်ဖေကတော့ သူ့မယားအား မယားဝတ္တရားနှင့် ချစ်သစ္စာ မတည်မြဲကြောင်း ဝေဖန်သည်။ ဆေးရုံမယ်တယ် ကုလားကလေးရာဂျူးပင်လျှင် မြန်မာစကား မတတ်တတတ်နှင့် မောင်ထွန်းကြိုင်ကို သနားစရာကောင်းကြောင်း ကရုဏာသက်သည်။

လူနာနှင့် လူနာချင်းသည် ကျောင်းနေဖက်နှင့်လည်း မတူ။ စီးပွားဖက်နှင့်လည်း မတူ၊ တော်ရုံတန်ရုံ ဆွေမျိုးများနှင့်ပင် မနှိုင်းသာ။

ထောင်ကျခြင်းနှင့်လည်း တူမည်မဟုတ်။ စစ်မြေပြင်က ရဲဘော်များနှင့် တူလေမလားမသိ အလွန် ခင်မင်ကြင်နာတတ်သည်။ တစ်ဦးကိုတစ်ဦး စောင့်ရှောက်တတ်ကြ၏။ ရောဂါ၏ စစ်မြေပြင်ဝယ် ကျွန်တော်တို့လည်း နေ့မြင်၊ ညပျောက် ဝေဒနာကို တိုက်စစ်ဆင်နေရသော ရဲဘော်များပင် မဟုတ်ပါလော။

နောက်နေ့များတွင် ကိုကျင်လှိုင်ပြောသလို မီးသေသွားပြီဟု ထင်ရသော်လည်း မောင်ထွန်းကြိုင်အဖို့ အတွင်း မီးတောက်နေကြောင်း ကိုတော့ ကျွန်တော် ရိပ်မိပါသည်။ အလွန် အာဝဇ္ဇန်းကောင်းသော မောင်ထွန်းကြိုင်သည် တေမိမင်းသားနှင့် ပြိုင်နေတော့သည်။

ဖျတ်ဖျတ်လတ်လတ်ရှိလွန်းသော မောင်ထွန်းကြိုင်သည် သူ့ ခုတင်ပေါ်က မရွေ့တော့ဘဲ နဖူးပေါ် လက်တင်၍ ရှာန်ဝင်စားနေသလို သာ တွေ့ရသည်။ လက်တွန်းလှည်းကလေးနှင့် ဆေးလာတိုက်သော ဆရာမကလေးတွေဆိုရင် ရယ်ရွှန်းဖတ်ရွှန်းနှင့် ဆေးမျိုးစုံအောင် တောင်း၍ သောက်တတ်သောကြောင့် သူ့အား “ဆေးမီးတိုပေါင်းချုပ်”ဟု သရော်ကြရသည်။ ချောင်းဆိုးပျောက်ဆေးဆိုလည်း တောင်း၍ သောက် သည်။ အစာကြေဆေး၊ အားတိုးဆေး၊ ဝမ်းနုတ်ဆေး၊ သူ့လက်ထဲက ဖန်ခွက်ကလေးကို မချတော့ဘဲ တစ်ခွက်ပြီး တစ်ခွက် တောင်း၍ မော့ တက်သည်။

“ရှင့်ဗိုက်ထဲတော့ ဆေးတွေ (Cock Tail) ဖြစ်ကုန်တော့မှာပဲ”ဟု ဆရာမကလေးတွေက ပြောယူရသည်။

ယခု မောင်ထွန်းကြိုင်ကား ဘယ်ဆေးမှ ထ၍ မသောက်။

“ဆေးမြီးတို ပေါင်းချုပ်ကြီး မသောက်တော့ဘူးလား”ဟု မေးလျှင် ခေါင်းကိုသာ ခါပြသည်။ မျက်တောင်ကို စင်း၍ထားသည်။

ဆေးရုံမှ နံနက်ထမင်း၊ ညထမင်း ဟင်းမကောင်းလျှင် အလွန်ဆုတ်၍ အချိန် နည်းနည်းကလေး နောက်ကျလျှင် အရေးဆိုတတ်သော မောင်ထွန်းကြိုင်သည် သူများ စားကြသောက်ကြသည်ကိုမှ မျက်စောင်းမထိုးတော့။ ကျွန်တော့အိမ်က ငါးပိဖျော်ကို အလွန်ကြိုက်သည့်လူသည် ထမင်းစားခေါ်၍မှ မလာတော့။

ညနေ ၄ နာရီ ထိုးခါနီးပြီ ဆိုလျှင် ရေမိုးချိုး၊ ပေါင်ဒါကလေး ဘာလေးလိမ်း၊ ခေါင်းကို သပ်သပ်ရပ်ရပ်ဖြီး၍ သူ့မယားများ လာလေမလားဟု ဖင်တကြွကြွ လမ်းတဖျတ်ဖျတ် လျှောက်ရင်းက မျှော်လင့်လျက်ရှိခဲ့သူမှာ ခုတော့ ထ၍လည်း မမျှော်။ ပေါ်လာသူကလည်း မပေါ်လာ။ သူ့အိပ်ရာခုတင်နားက လူနာတွေထံသို့ ဆွေမျိုးသားချင်း မိဘ၊ သားမယားလာ၍ မေးကြမြန်းကြ၊ ရယ်ကြမောကြ၊ အစားအစာ ဆေးဝါး ခတ်စာလာ၍ ပို့သည်ကို ကြားရမြင်ရလျှင် လူမသိအောင် ကြိတ်၍ ငိုနေတတ်သည်။ တစ်ခါတစ်ရံတော့ စိတ်မရှည်နိုင်တော့သလို ရေချိုးခန်းထဲက သံဆန်ကာနား သွားကာ ဧည့်ပြန်ချိန် မရောက်မချင်း ငေး၍ အချိန်ဖြုန်းနေရှာသည်။ ခါတိုင်း ခမ္ဘစကြာရွှတ်ကြလျှင် သူ ရှေ့ဆုံးက၊ ယခုခေါ်လို့မှမရ။

သူ့မိခင်ကြီးမှာ အသက် ၆၀ ကျော်လေပြီ။ လူကလည်းဆင်းရဲ၊ အိုကလည်း အိုမင်းသောကြောင့် ခဏခဏမလာဖို့အကြောင်း သူက တောင်းပန်ထားသလို ကျွန်တော်တို့ကလည်း စိတ်ချလက်ချ နေပါမည့်အကြောင်း ဝိုင်းပြောထားသောကြောင့် ၅ ရက်မှ တစ်ခေါက်၊ ၁၀ ရက်မှ တစ်ခေါက်လာလေ့ရှိသည်။

နောက်ဆုံးအခေါက် နွားနို့ကလေး အစိတ်သားလောက်နှင့် လာသောအခါ မောင်ထွန်းကြိုင်က ဘာမပြော ညာမပြော သူ့အမေကိုဖက်၍

ငိုတော့သည်။ အဘွားကြီးမျာလည်း ဘုမသိဘမသိ ရောၡ် ငိုသည်မှာ ခါတ်သိ ကျွန်တော်တို့အဖို့ မကြည့်ရက်၍ မျက်နှာလွှဲသွားရသည်။

သူ့ကို သွား၍ အားပေးစကား ပြောလျှင် ဆင်အိပ်ရာ ဆိတ်နိုးသလို အနာဟောင်းကို အပ်နှင့်ဆွသလို ဖြစ်တတ်လွန်းသဖြင့် အဝေးကသာ အကဲခတ်နေရတော့သည်။

တစ်နေ့တော့ လက်ထောက်ဆရာဝန်နှင့် စကားစပ်မိ၍ သူ့ အကြောင်း ပြောပြမိသည်။

"အေးဗျာ၊ ခုတစ်လော ကိုထွန်းကြိုင် ကိုယ်အလေးချိန်လဲ သိသိသာသာကြီး လျော့သွားတယ်။ အားလဲ နည်းတယ်နဲ့ တူတယ်။ ညည အိပ်မှအိပ်ရဲ့လားလဲ မသိဘူး"

"မအိပ်ဘူးဆရာ၊ ညတစ်ရေးနိုး ကျွန်တော် အပေါ့သွားတိုင်း သူ့ကို ရေချိုးခန်းထဲ ဆုံမိတယ်"

"ဒါထက် သူ လက်မှတ်ထိုးပြီး ဆင်းပါရစေတော့ချည်းပဲ ပူဆာ နေတယ်ဗျာ"

"ဆင်းရင် ဆိုးမှာပေါ့ ဆရာ။ မဟုတ်ဘူးလား"

"ဆိုးပေမယ့်လဲ လူနာကဖွတ် လက်မှတ်ထိုးပြီးဆင်းရင် ကျွန်တော် တို့က တတ်နိုင်တာမှ မဟုတ်ဘဲလား"

ကျွန်တော်က ခေါင်းသာ ဖြည်းညင်းစွာ ခါလိုက်မိသည်။

နောက်တစ်နေ့ နံနက် ကျွန်တော့ကို မျက်ရည်တတွေတွေကျရင်း လာကန်တော့ပါပြီ။ သူ့ကို ကြည့်လိုက်တော့ ဆေးရုံက ဝတ်ရုံမဟုတ်တော့။ ရှပ်အင်္ကျီ လုံချည်နှင့်။

"ခင်ဗျား ဘာဖြစ်လို့ ဆင်းမှာလဲ ကိုထွန်းကြိုင်၊ ကိုယ့်ကိုယ်ကို မနှစ်ပါနဲ့ဗျာ"

"ကျွန်တော့ဘဝ ဆိတ်သုဉ်းပါပြီ ဆရာ။ ဘာလုပ်မလဲ။ ဆရာ မသိဘူးနော်။ မနေ့က ညနေက ကွာရှင်းပြတ်စဲကြောင်းစာချုပ်ကို လူလွှတ်ပြီး လက်မှတ်လာထိုးခိုင်းလို့ ထိုးလိုက်ရပြီ။ ကျွန်တော့ကို သူတို့ လုံးလုံးမှ မသနားဘဲ။ သူတို့ အသည်းနှလုံးက မာလွန်းတယ်။ ဘယ်တော့မှ ဘာရောဂါမှမဖြစ်ဘဲ မသေတော့မယ့်အတိုင်းပဲနော်"

"ခင်ဗျားမိန်းမကို တစ်နေ့ ပြန်ခိုးယူမယ်ဗျာ။ ဒါမှမဟုတ် ရုံးက လျှောက်ယူမယ်ဗျာ။ ကဲ ကိုယ်လက်ထပ်ယူတဲ့ မယားပဲ ကိုယ်မကွာရင် ဘာတတ်နိုင်မလဲ"

"သူလဲ အတူတူပဲနော်။ သူ့အဖေစကားသာ နားထောင်တယ်။ သူက စာတောင် ပေးလိုက်သေးတယ်။ သူ့အတွက် မဟုတ်ပါဘူးတဲ့။ ကျွန်တော့သားကလေး တီဘီကူးမှာစိုးလို့ပါတဲ့။ ဘာထူးသေးသလဲ ဆရာရယ်။ ဒီစာတောင် ကျွန်တော် ဆုတ်ပစ်မိလို့ ဆရာ့ မပြနိုင်တာ"

"အို ဒါဖြင့်လဲ လောကမှာ မိန်းမတွေ အများကြီး"

ကိုကျင်လှိုင်က ဝင်၍ ထောက်လိုက်သည်။ အားလုံးက ဟုတ်သားပဲ ဟု ဝိုင်းပြောကြသည်။

"ကျွန်တော့အတွက်တော့ သူတစ်ယောက်ပဲ ရှိတယ်ဆရာ။ သားလေးလဲ သိပ်ချစ်နေတယ်"

"ဒီလိုဆိုလဲ ပျောက်အောင်ကု၊ ပျောက်တော့ ဆရာဝန်ကြီး ထောက်ခံစာနဲ့ ယောက္ခမကြီးဆီ အယူခံဝင်ပေါ့ဗျာ ဘယ့်နှယ်လဲ"

"အား ဟုတ်တယ် ဟုတ်တယ်။ အစိုးရ အမှုထမ်းတွေတောင် ပြန်လက်ခံသားပဲ။ အဆုတ်နာဆိုတာ ပျောက်ပါတယ်ဗျာ။ ခင်ဗျားလဲ အသိသားနဲ့"

ကိုစိန်အောင်က ဝင်ပြောသည်။

"ကျွန်တော့ကိုယ် ကျွန်တော် ပျောက်မယ် မထင်တော့ဘူးဗျာ။ အရင့်အရင်က ထင်ပြီး ကြိုးစားခဲ့တာတွေဟာ အခု လေးငါးဆယ် ရက်တည်းနဲ့ သဲရေကျ ဖြစ်ကုန်ပြီ။ ကျွန်တော့နှလုံးသည်းပွတ်ထဲမှာ ခံရတာ ကျွန်တော်သာ အသိဆုံးပါဆရာရယ်။ ဆရာတို့မှာ အဆုတ်မှာ အနာဖြစ်မယ်။ ကျွန်တော်တော့ အသည်းနှလုံးပါ အနာဖြစ်ကုန်ပြီ၊ ကျွန်တော် သိတယ် ဆရာ၊ ကျွန်တော် သိတယ်။ ကျွန်တော့ မိန်းမ ကို ကျွန်တော့ထက်သာတဲ့ နိုင်ငံရေးသမားကြီးကြီး မာစတာတစ်ယောက် နဲ့ ပေးစားချင်နေတာ။ သူတို့ယူဖြစ်ကြမှာပဲ"

"ခင်ဗျား မမိုက်ပါနဲ့ ကိုထွန်းကြိုင်ရယ်"

"မိုက်ပါရစေတော့ ဆရာရယ်။ ကျွန်တော့အမေဆီပဲ ကျွန်တော့ အလောင်းသွားအပ်တော့မယ် ဆရာရယ်။ ကျွန်တော် မရှက်ပါဘူး။ အားလုံးဖွင့်ပြောပြရပါတော့မယ်။ ဟိုနေ့က ကျွန်တော် ပြန်သွားတော့လေ အခန်းထဲမှာ အဲဟိုလူနဲ့ "

စကားကို ဆက်၍ မပြောတော့ဘဲ ငိုချလိုက်သည်။

သူကန်တော့သောအခါ ဘာဆုပေးရမလဲဟုပင် မတွေးတတ်။ ဘာဆုမှ မပေးမိ။ သူ့ကိုသာ ကြည့်နေမိသည်။ တကယ်ပင် မိုက်သွား သော ကိုထွန်းကြိုင်ပါတကား။

တစ်ရက်နှစ်ရက် သူ့အကြောင်းကို မပြောဘဲ မနေနိုင်ကြ။ လူ စုမိတိုင်း သူ့အဖြစ်ကို သနားကြသည်။ အပြစ်တင်ကြသည်။ တနင်္ဂနွေ တစ်ပတ်နှစ်ပတ်ကြာတော့ တစ်ခါတစ်ရံမှ ပြောမိကြသည်။ ဤကြားထဲ ပေါင်းဟောင်းသင်းဟောင်းများ ဆင်းသူက ဆင်းသွားကြသေးသည်။ တစ်လနှစ်လကြာသော် တစ်ခါတစ်ရံသာ စဉ်းစားမိတော့သည်။

ကျွန်တော် ဆေးရုံမှ ဆင်းနိုင်ခွင့်ရပြီးသည့် နောက်တစ်လ ကျော်ကျော်ကြီး ဆက်၍ ပေကပ်နေမိပါသေးသည်။ အနားယူလက်စနှင့်

ပို၍ယူချင်သည်က တစ်ကြောင်း၊ အပေါင်းအသင်း အချို့ကို သံယောဇဉ် တွယ်သည်ကတစ်ဖက်၊ လူနာများ၏စိတ်ချမ်းသာမှု ရရာရကြောင်း ကောင်းမှုပြုလိုသည်က တစ်တန်၊ ကိုယ်ချင်းစာကြည့်လျှင် အလွန် စေတနာသန့်ဖို့ ကောင်းလှပါသည်။ ထို့ကြောင့် မကြာမကြာ ရပ်ရှင် ပြသည်။ ဂိလာနသံဃာတော်များအား လူနာတွေ ကောင်းမှု ဆေးဝါး လှူကြသည်။ သက်န်းကပ်ကြသည်။ ဒ်ပေါက်ဆွမ်း၊ မုန့်ဟင်းခါး ကောင်းကောင်းကပ်ကြသည်။ လူနာအချင်းချင်းလည်း ကျွေးမွေးသည်။ အင်္ဂလိပ် မြန်မာ သတင်းစာ၊ မဂ္ဂဇင်း၊ ဝတ္ထု စာကြည့်တိုက်ကလေး ဖြစ်အောင် လုပ်ကြသည်။ ကျားကစားပြိုင်ပွဲ၊ လက်တောက်ဘီလိယက် ပြိုင်ပွဲလုပ်ကြသည်။ သီတင်းကျွတ် မီးထွန်းပွဲတော်၊ လူအိုရုံငွေလှူပွဲ ပြုလုပ်ကြသည်။ အသက်အိုးအိမ် စည်းစိမ် စောင့်ရှောက်သော ဆရာဝန် ကြီးအား ပူဇော်ပွဲပြုကြသည်။ ဝေဒနာ ပျောက်ကင်း၍ ဆင်းရအံ့သော ဆရာတော်ကြီးများ၏ တရားပွဲ၊ တရားနာပြုကြသည်။ ကိုထွန်းကြိုင်မှာ ကျွန်တော်တို့၏ လက်ကသုံးတောင်ဝှေး ဖြစ်ခဲ့ရှာသည်။

တန်ဆောင်တိုင်ပွဲတော်နှင့် ကထိန်သင်္ကန်းကပ်သည့် အစီအစဉ်ကို လုပ်ကြသောအခါကား သူ့ကို ပြန်၍ သတိရကြသည်။ အလှူအတန်း အခမ်းအနားတွင် ပျော်ပျော်ရွှင်ရွှင်နှင့် အလွန်ဖင်ပေါ့သော ကိုထွန်းကြိုင် ပင် မဟုတ်လော။

"ဆရာ ဆရာ၊ ၃ ခန်းထဲမှာ ကိုထွန်းကြိုင်ကြီး ပြန်ရောက်လာ ပြီ။ ဆရာ့ကို တွေ့ချင်လို့တဲ့"

ဆေးရုံအလုပ်သမားကလေးက အူလျား ဖားလျား လာပြောသည်။

"ဒါပေမဲ့ ဆရာသွားလို့တော့ ကောင်းပါ့မလား၊ သွေးတွေ အန် နေတယ်"

"ဟော"

ကျွန်တော် အပြေးအလွှားသွားသောအခါ ဦးစွာ ပထမ အခန်းဝတွင် ငိုနေသော သူ့အမေအိုကြီးကို တွေ့လိုက်ရသည်မှာ ကျွန်တော့ကို ဆီး၍ ရင်ဘတ်ထုလိုက်သလို ခံစားရပါသည်။ သူ့အမေကို ကြည့်လိုက်တော့ ခုတင်ပေါ်တွင် သွေးအလူးလူး၊ နှုတ်ခမ်းတွင် သွေးအလိမ်းလိမ်း ဆရာဝန်နှင့် ဆရာမကလေးများမှာ 'အေဝီ' လုပ်ဖို့ 'အောက်ဆီဂျင်' လုပ်ဖို့ အလုပ်များနေကြသည်။ သူကတော့ မျက်စိကလေး မှိတ်လို့ မောနေပုံရသည်။

ဆရာမတစ်ဦးက ကျွန်တော့ကို အခန်းထဲက ပြန်ထွက်သွားရန် တိုးတိုးကပ်၍ ပြောသည်။ ဒါကို သူက လှမ်း၍ မြင်လိုက်သည်။

"ဟုတ်ပါတယ် ဆရာ။ ဆရာသွားပါတော့။ ဆရာ့ကို မြင်ရရင် တော်ပြီ။ ဩော် ဆရာတို့ ခမ္ဘစကြာ ရွတ်ကြသေးတယ်နော်"

သူ့အသံကား ပြတ်ပြတ်သားသား ကြည်ကြည်လင်လင် မဟုတ်တော့ပါ။ ရိုက်ဖမ်းသံဖမ်းယူရသော စကားများ ဖြစ်ပါသည်။ အပေါင်းအသင်းတွေကလည်း သူ့သတင်း ကြား၍ ဝိုင်းအုံလာကြပြန်သည်။ ထိုအခါကျတော့ ကျွန်တော်ပင် အခန်းနားမှာ နေခွင့်မရတော့။ ဆရာဝန် ဆရာမတွေက ကျွန်တော်တို့အားလုံးကို ဖျောင်းဖျောင်းဖျဖျနှင့် နှင်လွှတ်လိုက်သည်။

"သွားပါ ဆရာ သွားပါ။ ကျွန်တော် ခရီးပန်းတိုင်နား ကပ်နေပါပြီ။ ဟဲ ဟဲ ဟဲ"

"ကယ်ကြပါဦး မောင်ရင်လေးတို့ရယ်" ဟူသော သူ့အမေကြီး၏ စကားသံနှင့် သူ၏ မျက်နှာကို လွှဲပြီး ထွက်လာခဲ့ကြရသော ကျွန်တော်တို့အဖို့ နောက်ထပ် သူ့အား မမြင်ကြရတော့။ မမြင်နိုင်ကြတော့။

*

ယနေ့အထိ ကျွန်တော် ကိုထွန်းကြိုင်၏ ဘဝသံသရာကို တွေးမိသည့် အခါ တွေးကြည့်မိသည်။ သူ့ပျော့ညံ့သော စိတ်ကို အဆိုးဆိုရမလော။ အကဲဆတ်လွန်းသော သူ့မယားနှင့် သူ့ယောက္ခမကြီးတွေကိုပဲ အပြစ်တင် ရမလော။ အဆုတ်နာကိုပဲ တရားခံတပ်ရကောင်းမလား။ ဒါမှမဟုတ် ကံကိုသာ ,ယိုးမယ်ဖွဲ့ရတော့မလား။

မည်သို့ပင် ဖြစ်စေ ကျွန်တော်ကတော့ စာဖတ်သူများအား ရဲရဲ ဝံ့ဝံ့ တင်ပြလိုပါသည်။ ကျွန်တော်ပြောသမျှမှာ အတ္တနောမတိ ရမ်းဆချက် များမဟုတ်။ အဆုတ်နာကုဆရာဝန်ကြီး ဦးသန်းအောင်၏ ညွှန်ကြားချက် များနှင့် သူ့ထံမှရသော တီဘီရောဂါစာအုပ်၊ စာတမ်းများအာဘော်ကို ဖောက်သည်ချလိုက်ခြင်း ဖြစ်ပါသည်။

(၁) တီဘီခေါ် အဆုတ်နာသည် ကုလျှင် မုချပျောက်ကင်းနိုင်ပါ သည်။ မြန်မြန်ကုလျှင် မြန်မြန်ပျောက်သည်။

(၂) မိရိုးဖလာ ဆွေမျိုးစဉ်ဆက် သွေးထဲမှ ပါလာသည်ဟူသော အစွဲအလမ်းမှာ လုံးဝမဟုတ်။ မွေးစကလေးများတွင် အဆုတ်နာပိုး လုံးဝပါမလာကြ။

(၃) ကူးစက်တတ်သည်။ သို့သော် ဝေဒနာရှိသူက ဆေးရုံတက် လျှင် အိမ်သားများသို့ မကူးစက်နိုင်ပါ။ လမ်းပေါ်ဈေးဆိုင်၊ လက်ဖက်ရည်ဆိုင်တို့တွင် ပစ်စလက်ခတ် စားသောက်ခြင်း က ပို၍ကူးစက်နိုင်ပါသည်။ လက်ဖက်ရည်ဖျော်သူ၊ ရေခဲမုန့် လုပ်သူ၊ မုန့်ဟင်းခါးရောင်းသူ၊ ဆေးပေါ့လိပ်လိပ်သူ စသည့် လူများနှင့် ရုပ်ရှင်၊ ဇာတ်ပွဲ၊ အစည်းအဝေးတွင် ပူးပူးကပ်ကပ် နေမိသူများမှာ ရောဂါပို၍ ကူးစက်နိုင်ပါသည်။

(၄) အဆုတ်နာ ဖြစ်ခဲ့ဖူးသူကို ကြောက်လန့်နေသည်ထက်

ကိုယ့်အဆုတ်နာကို နှစ်တိုင်း ဓာတ်မှန်ရိုက်ကြည့်သည်က ပို၍ စိတ်ချရသည်။ ချောင်းမဆိုး သွေးမပါ။ ကျန်းမာနေသည်ဟု ကိုယ့်ကိုယ်ကို ထင်နေသူများပင် အဆုတ်နာဖြစ်နေတတ်သည်။ ဆေးရုံတက်ကုပြီး ဆင်းလာခွင့်ရသူများမှာ တံတွေး၊ သွေးစသည်တို့ကို စစ်ဆေးကင်းစင်ပြီးသူများသာ ဖြစ်တတ်ပါသည်။

(၅) အဆုတ်နာဖြစ်နေသည်ဟု ထင်သောသူများအား ရှောင်ကွင်းကြသည်ထက် ဂရုထားကြပါ။ မြန်မြန်ဆေးရုံတက် ကုဖြစ်အောင် စောင်မ ပေးကြပါ။ ထောက်ပံ့ပေးကြပါ။ ကမ္ဘာနှင့်ချီပြောရလျှင် ယနေ့ခေတ်မှာ အဆုတ်နာဟူသည် ကုမရအောင် သေဘေးနှင့်နီးနေသော ဝေဒနာမဟုတ်တော့။ သိပ္ပံပညာကျော်ကြီးများ၏ ဆေးဝါးအပြည့်အစုံ ရှိပါသည်။ စိတ်ရှည်ရှည်နှင့် ဆေးရုံသို့ ချက်ချင်းတက်ကုဖို့သာ လိုပါသည်။

အဆုတ်နာကု ဆေးရုံတိုင်းနှင့် အဆုတ်နာကာကွယ်ရေးအသင်းများသို့ တတ်အားသမျှ အလှူဒါန ပြုကြပါ။ အများ၏ကောင်းကျိုးချမ်းသာ ဒိဋ္ဌလက်တွေ့ ဖြစ်စေပါသည်။

[မြဝတီ ၁၉၆၀ ဖေဖော်ဝါရီ]

သုစိအဏ္ဏာန် ပရိဟာရန္တု

သုခ

# ၂၀၀၁ ခုနှစ်အတွင်းထုတ်ဝေခဲ့သည့် ပါရမီစာအုပ်များ

| | |
|---|---|
| ၁၂၅။ သာမဏေကျော် | မဟာဂန္ဓာရုံဆရာတော်၏ လူဝတ်ကြောင်တို့အတွက် နံနက်ခင်းဩဝါဒများ |
| ၁၂၆။ ဒေါက်တာမတင်ဝင်း | လက်ဆင့်ကမ်းရတနာ |
| ၁၂၇။ သာမဏေကျော် | ဘုရားနဲ့စပ် အထူးမှတ်ဖွယ် |
| ၁၂၈။ ဒေါက်တာမတင်ဝင်း | ပုလဲတစ်လုံး ရွဲတစ်လုံး |
| ၁၂၉။ ချစ်နိုင်(စိတ်ပညာ) | အနာဂတ်ကိုပိုင်စိုးသူများ |
| ၁၃၀။ သုခ | ဓမ္မကထာ စာပဒေသာ |
| ၁၃၁။ သာမဏေကျော် | သို့သော် |
| ၁၃၂။ ဒဂုန်ဦးထွန်းမြင့် | ဗုဒ္ဓဘာသာနှင့်မြန်မာ့ယဉ်ကျေးမှု |
| ၁၃၃။ မစန္ဒာ | မဂ္ဂဇင်းဝတ္ထုရှည်များ(၂) |
| ၁၃၄။ တက္ကသိုလ်သျှင်သီရိ | ကံဇာတ်လမ်း ဉာဏ်ဖြတ်ထန်း ချမ်းသာရွှေပြည်နန်း |
| ၁၃၅။ Ma Sandar | Upstream and other stories |
| ၁၃၆၊ ဦးသော်ဇင် | ဓမ္မပဒ |
| ၁၃၇။ သာမဏေကျော် | ပြောချင်တာလေးတွေ |
| ၁၃၈။ သာမဏေကျော် | တွေးမိတာလေးတွေ |
| ၁၃၉။ ဒေါက်တာမတင်ဝင်း | ထက်မြက်ထူးချွန်သူတို့၏ နှုတ်ထွက်စကားများ |
| ၁၄၀။ သုခ | သဗ္ဗေသတ္တာ |